

ဗျည်းနဲ့ သရတွေကို ပေါင်းရေးကြည့်ကြရအောင်။ ဗျည်းကို အရင်ရေးပြီး ဘေးသရ သို့မဟုတ် အောက်သရကို ရေးပါ။ သချာ ကြည့်ပြီး လိုက်ရေးပါ။

| သရ / ဗျည်း | ㅏ | ㅓ | ㅗ | ㅜ | ㅡ | ㅣ | ㅐ | ㅔ |
|---|---|---|---|---|---|---|---|---|
| ㅋ | 카 | | 코 | | | 키 | | |
| ㅌ | | 터 | | | | | 태 | |
| ㅍ | | | 포 | | | 피 | | |
| ㅊ | | | | 추 | | | | |



ပြီးပြီလား။ ဒါဆိုရင် နားထောင်ရင်း လိုက်ပြောကြည့်ရအောင်။ အရင်ဆုံး အလျားလိုက် ဖတ်ကြည့်ရအောင်။ ပြီးရင် ဒေါင်လိုက် ဖတ်ကြည့်ပါ။



## 연습 လေ့ကျင့်ခန်း

1. အောက်ပါတို့ကို ဖတ်ပါ။ ပြီးရင် CDကို နားထောင်ပြီး အမှန်အမှား စစ်ပါ။ မှားသွားတဲ့ စကားလုံးတွေကို ပြန်နားထောင်ပြီး လိုက်ဆိုကြည့်ပါ။

   (1) 차 카 타 파　(2) 초 코 토 포　(3) 쿠 투 푸 추　(4) 티 치 키 티

2. သချာ နားထောင်ပြီး အဖြေမှန်ကို ရွေးပါ။

   (1) 보도　포도　(2) 기자　기차　(3) 고　코
   (4) 타요　다요　(5) 치마　지마　(6) 스키　수키

3. သေချာ နားထောင်ပြီး လိုက်ဆိုကြည့်ပါ။

(1) 치마
စကတ်

(2) 코
နှာခေါင်း

(3) 타조
ငှက်ကုလားအုတ်

(4) 포도
စပျစ်သီး

(5) 카메라
ကင်မရာ

(6) 스키
နှင်းလျှောစီးခြင်း

(7) 커피
ကော်ဖီ

(8) 기차
ရထား

(9) 피아노
စန္ဒရား

4. သေချာ နားထောင်ပြီး လိုက်ရေးကြည့်ရအောင်။

(1)

| | |
|---|---|
| | |

(2)

| | |
|---|---|
| | |

(3)

| | |
|---|---|
| | |

(4)

| | |
|---|---|
| | |

(5)

| | |
|---|---|
| | |

(6)

| | |
|---|---|
| | |

정답 2. (1) 포도 (2) 기차 (3) 코 (4) 타요 (5) 치마 (6) 스키
4. (1) 치즈 (2) 커피 (3) 기타 (4) 포크 (5) 고추 (6) 쿠키



ရေးပြီးရင် ပြန်နားထောင်ပြီး လိုက်ဆိုကြည့်ပါ။ သုံးကြိမ် လေ့ကျင့်ပါ။

## 6 자음 3 ဗျည်းများ (၃)

K-6

'ㄱ, ㄷ, ㅂ, ㅅ, ㅈ' ဗျည်းများကို နှစ်ကြိမ် ပူးကပ်ရေးရင် 'ㄲ, ㄸ, ㅃ, ㅆ, ㅉ' ဗျည်းများ ရပါတယ်။
'ㄲ, ㄸ, ㅃ, ㅆ, ㅉ' ဗျည်းများရဲ့ အသံထွက်ကတော့ အသံကြိုးကို တုန်ခါပြီး
အားနဲ့ ထွက်ရတာဖြစ်ပါတယ်။



CD ကို နားထောင်ပြီး လိုက်ဆိုပါ။

| ㄱ [k/g] |   | ㄲ [k'] |
|---|---|---|
| ㄷ [t/d] |   | ㄸ [t'] |
| ㅂ [p/b] | → | ㅃ [p'] |
| ㅅ [s] |   | ㅆ [s'] |
| ㅈ [ʧ/ʤ] |   | ㅉ [ʧ'] |

အခုအချိန်ကစပြီး အခြေခံဗျည်း (ㄱ, ㄷ, ㅂ, ㅅ, ㅈ), သံပြင်းဗျည်း (ㅋ, ㅌ, ㅍ, ㅊ) နဲ့ နှစ်လုံးတွဲဗျည်း (ㄲ, ㄸ, ㅃ, ㅆ, ㅉ) တို့ကို ထပ်ဆိုပြီး လေ့ကျင့်ကြည့်ပါဦး။



ဗျည်း တစ်လုံးချင်းစီကို ရွတ်ကြည့်တဲ့အခါမှာ နှုတ်ခမ်းရှေ့မှာ လက်ဖဝါးကို ထောင်ထားပြီး အသံတစ်ခုစီရဲ့ လေအားကို ခံစားကြည့်ပါ။

(1) 'ㅋ', 'ㄱ', 'ㄲ' ကို အစဉ်လိုက် ရွတ်ကြည့်ပါ။
(2) 'ㅌ', 'ㄷ', 'ㄸ' ကို အစဉ်လိုက် ရွတ်ကြည့်ပါ။
(3) 'ㅍ', 'ㅂ', 'ㅃ' ကို အစဉ်လိုက် ရွတ်ကြည့်ပါ။
(4) 'ㅅ', 'ㅆ' ကို အစဉ်လိုက် ရွတ်ကြည့်ပါ။
(5) 'ㅊ', 'ㅈ', 'ㅉ' ကို အစဉ်လိုက် ရွတ်ကြည့်ပါ။



သေချာ နားထောင်ပြီး လိုက်ရေးကြည့်ပါ။

| ဗျည်း | ရေးနည်း | အရေးလေ့ကျင့်ရန် | | | | | |
|---|---|---|---|---|---|---|---|
| ㄲ [k´] | ㄲ | | | | | | |
| ㄸ [t´] | ㄸ | | | | | | |
| ㅃ [p´] | ㅃ | | | | | | |
| ㅆ [s´] | ㅆ | | | | | | |
| ㅉ [ʧ´] | ㅉ | | | | | | |



ရေးပြီးရင် သေချာ နားထောင်ပြီး လိုက်ဆိုကြည့်ပါ။



ပြီးရင် ဗျည်းနဲ့ သရကို နားထောင်ရင်း လိုက်ဆိုရင်း လိုက်ရေးကြည့်ပါ။

| | | | | | |
|---|---|---|---|---|---|
| (1) | ㄲ | + | ㅏ | → | 까 |
| (2) | ㄸ | | | → | |
| (3) | ㅃ | | | → | |
| (4) | ㅆ | | | → | |
| (5) | ㅉ | | | → | |

| | | | | | |
|---|---|---|---|---|---|
| (6) | ㄲ | + | ㅗ | → | 꼬 |
| (7) | ㄸ | | | → | |
| (8) | ㅃ | | | → | |
| (9) | ㅆ | | | → | |
| (10) | ㅉ | | | → | |



ဗျည်းနဲ့ သရတွေကို ပေါင်းရေးကြည့်ပါ။

| သရ / ဗျည်း | ㅏ | ㅓ | ㅗ | ㅜ | ㅡ | ㅣ | ㅐ | ㅔ |
|---|---|---|---|---|---|---|---|---|
| ㄲ | 까 | | | | | | | 께 |
| ㄸ | | 떠 | | | | | 때 | |
| ㅃ | | | 뽀 | | | 삐 | | |
| ㅆ | | 써 | | | 쓰 | | | |
| ㅉ | | | | 쭈 | | | 째 | |



ရေးပြီးရင် တစ်ခေါက် ထပ်ပြီး နားထောင်ရင်း လိုက်ဆိုကြည့်ပါ။ အလျားလိုက် အရင် ဆိုကြည့်ပါ။ ပြီးရင် ဒေါင်လိုက်ဆိုကြည့်ပါ။



## 연습 လေ့ကျင့်ခန်း

1. အောက်ပါတို့ကို ဖတ်ပါ။ ပြီးရင် CDကို နားထောင်ပြီး အမှန်အမှား စစ်ပါ။ မှားသွားတဲ့ စကားလုံးတွေကို ပြန်နားထောင်ပြီး လိုက်ဆိုကြည့်ပါ။

   (1) 까 따 빠 싸 짜　(2) 꼬 또 뽀 쏘 쪼　(3) 꾸 뚜 뿌 쑤 쭈　(4) 끼 띠 삐 씨 찌

2. သေချာ နားထောင်ပြီး အဖြေမှန်ကို ရွေးပါ။

   (1) 가요　까요　(2) 차요　짜요　(3) 커요　꺼요
   (4) 사요　싸요　(5) 부리　뿌리　(6) 아파요　바빠요

3. သေချာ နားထောင်ပြီး လိုက်ဆိုကြည့်ပါ။

(1) **까치** ငှက်ကျား

(2) **어깨** ပခုံး

(3) **귀뚜라미** ပုရစ်

(4) **뿌리** အမြစ်

(5) **아저씨** ဦးလေးကြီး

(6) **찌개** အရည်သောက်ဟင်း

4. သေချာနားထောင်ပြီး လိုက်ရေးပါ။ တစ်ခေါက် ထပ် နားထောင်ပြီး လိုက်ဆိုရင်း စစ်ကြည့်ပါ။

(1)

| | |
|---|---|
| | |

(2)

| | |
|---|---|
| | |

(3)

| | |
|---|---|
| | |

(4)

| | |
|---|---|
| | |

(5)

| | |
|---|---|
| | |

(6)

| | |
|---|---|
| | |



တစ်ခေါက် ထပ် နားထောင်ပြီး လိုက်ဆိုရင်း စစ်ကြည့်ပါ။




2. (1) 가요 (2) 짜요 (3) 커요 (4) 싸요 (5) 뿌리 (6) 아파요
4. (1) 꼬리 (2) 토끼 (3) 짜다 (4) 뿌리 (5) 어깨 (6) 쓰다

## 7 받침 အသတ်များ

K-7

'အမျိုးသမီး' ဆိုတဲ့ မြန်မာစကားလုံးကို ရေးတဲ့အခါ သရတွေက ဗျည်းရဲ့ ဘေးနဲ့ အပေါ်မှာ ရှိပါတယ်။ ကိုရီးယားဘာသာစကားမှာတော့ '숙녀' ကို ရေးတဲ့အခါ ဗျည်းနဲ့ သရကို အရင်ရေးပြီး သူ့ရဲ့ အောက်မှာ နောက်ထပ် ဗျည်းတစ်လုံးကို ထပ်ရေးရပါတယ်။ အဲဒီလို ဗျည်းသရရဲ့အောက်မှာ ရေးတဲ့ ဗျည်းကို '받침(အသတ်)' လို့ ခေါ်ပါတယ်။

# 공 밥

အသတ်

ဗျည်း ၁၉ လုံးထဲက (ㄸ, ㅃ, ㅉ)ကတော့ အသတ်အဖြစ်နဲ့ အသုံးပြုလို့ မရတဲ့ ဗျည်းများ ဖြစ်ပါတယ်။ အသတ်သံတွေကတော့ စုစုပေါင်း (၇)လုံးပဲရှိပါတယ်။ အဲဒါတွေကတော့ (ㄱ, ㄴ, ㄷ, ㄹ, ㅁ, ㅂ, ㅇ) တွေပဲဖြစ်ပါတယ်။

| အသတ်များ | အသံထွက် | ဥပမာ |
|---|---|---|
| ㄴ | [n] | 안: [안] |
| ㅁ | [m] | 암: [암] |
| ㅇ | [ŋ] | 앙: [앙] |
| ㄹ | [l] | 알: [알] |
| ㅂ, ㅍ | [p] | 압, 앞: [압] |
| ㄱ, ㄲ, ㅋ | [k] | 악, 앆, 앜: [악] |
| ㄷ, ㅌ, ㅅ, ㅆ, ㅈ, ㅊ, ㅎ | [t] | 앋, 앝, 앗, 았, 앚, 앛, 앟: [앋] |



အသတ်သံတွေ လေ့ကျင့်ကြည့်ကြရအောင်။ သေချာ နားထောင်ပြီး လိုက်ဆိုကြည့်ပါ။

| 나 [na] | 마 [ma] | x | 라 [ra] | 바 [pa] | 가 [ka] | 다 [ta] |
|---|---|---|---|---|---|---|
| 은 [ɨn] | 음 [ɨm] | 응 [ɨŋ] | 을 [ɨl] | 읍 [ɨp] | 윽 [ɨk] | 읃 [ɨt] |



အဆင်ပြေရဲ့လား။ အသံထွက်ရတာ ခက်နေလား။

'밥' ဆိုတဲ့ စကားလုံးမှာ ဗျည်းနေရာနဲ့ အသတ်နေရာမှာ 'ㅂ'နှစ်ခါ ပါပါတယ်။ ဗျည်းနေရာက 'ㅂ'ကို ဖောက်ခွဲသံလို့ ခေါ်ပါတယ်။ အဆုတ်ထဲက လေကို နှုတ်ခမ်းကနေ ဖွင့်ဖောက်ထုတ်ရတာကြောင့်ဖြစ်ပါတယ်။ အသတ်နေရာက 'ㅂ'ကတော့ ပါးစပ်ပိတ်သံဖြစ်ပါတယ်။ ဥပမာ '읍'ကိုအသံထွက်တဲ့အခါလေကို ပါးစပ်ကနေ ပြန်ထွက်မသွားစေဘဲ ပိတ်ထားရသလိုပေါ့။ ဗျည်းချင်းတူပေမဲ့ နေရာအပေါ် မူတည်ပြီးအသံထွက်ပုံ ကွာခြားပါတယ်။



သေချာ နားထောင်ပြီး လိုက်ဆိုကြည့်ပါ။

သရနဲ့ အသတ်ကို တွဲရေးကြည့်ကြရအောင်။ ဘေးသရနဲ့ပဲတွဲတွဲ၊ အောက်သရနဲ့ပဲတွဲတွဲ အသတ်ကိုစကားလုံးတစ်တွဲလုံးရဲ့ အောက်မှာ ရေးရပါတယ်။ ဘေးသရနဲ့ တွဲတဲ့ အသတ်တွေကို အရင်ရေးကြည့်ရအောင်။

| CV<br>C | 이 | 아 |
|---|---|---|
| | ㅂ | ㄴ |

| | | | | | | | |
|---|---|---|---|---|---|---|---|
| 아 + ㄴ | 안 | | | | | | |
| 야 + ㅁ | 얌 | | | | | | |
| 어 + ㅇ | 엉 | | | | | | |
| 여 + ㅂ | 엽 | | | | | | |
| 이 + ㄱ | 익 | | | | | | |



ပြီးရင်တော့ CDကို နားထောင်ပြီး တစ်ခုချင်း လိုက်ဆိုပါ။



သုညဗျည်းနဲ့ အောက်သရနဲ့ တွဲတဲ့ အသတ်တွေကို ရေးကြည့်ရအောင်။

| C<br>V<br>C | 요 | 우 |
|---|---|---|
| | ㅇ | ㄴ |

| 오 + ㄱ | 옥 | | | | | | | |
|---|---|---|---|---|---|---|---|---|
| 요 + ㅁ | 욤 | | | | | | | |
| 우 + ㅇ | 웅 | | | | | | | |
| 유 + ㄴ | 윤 | | | | | | | |
| 으 + ㅂ | 읍 | | | | | | | |



ပြီးပြီလား။ ပြီးရင် CDကို နားထောင်ပြီး လိုက်ဆိုကြည့်ပါ။



ဒီတစ်ခါတော့ ဗျည်း၊ သရနဲ့ အသတ်ကို တွဲရေးကြည့်ရအောင်။

| CV | ㅅ ㅏ | ㅈ ㅣ |
|---|---|---|
| C | ㄴ | ㅂ |

| ㅅ + ㅏ + ㄴ | 산 | | | | | | | |
|---|---|---|---|---|---|---|---|---|
| ㅈ + ㅣ + ㅂ | 집 | | | | | | | |
| ㅂ + ㅏ + ㅁ | 밤 | | | | | | | |
| ㄴ + ㅓ + ㅁ | 넘 | | | | | | | |
| ㄱ + ㅕ + ㅇ | 경 | | | | | | | |



တစ်ဆက်တည်းပဲ ဗျည်း၊ အောက်သရနဲ့ အသတ်ကို တွဲရေးကြည့်ရအောင်။

| C | ㄱ | ㅁ |
|---|---|---|
| V | ㅗ | ㅜ |
| C | ㅁ | ㄹ |

| ㄱ + ㅗ + ㅁ | 곰 | | | | | | |
|---|---|---|---|---|---|---|---|
| ㅁ + ㅜ + ㄹ | 물 | | | | | | |
| ㄱ + ㅜ + ㄱ | 국 | | | | | | |
| ㅈ + ㅡ + ㅂ | 즙 | | | | | | |
| ㅂ + ㅗ + ㄴ | 본 | | | | | | |



ပြီးရင်တော့ CDကို နားထောင်ပြီး တစ်ခုချင်း လိုက်ဆိုပါ။

ကိုရီးယားစကားလုံးများမှာ နှစ်လုံးတွဲအသတ်တွေလည်း ရှိပါတယ်။
ဒါပေမဲ့ အသတ်သံကိုတော့ တစ်လုံးတည်းပဲ ထွက်ရပါတယ်။






အောက်က စကားလုံးတွေကို ဖတ်ကြည့်ကြရအောင်။ CDကို နားထောင်ပြီး တစ်ခုချင်း လိုက်ဆိုပါ။

| 여덟 [yʌdʌl] | 닭 [tak] | 몫 [mok] | | |
|---|---|---|---|---|
| 삶다 [samt'a] | 앉다 [ant'a] | 넓다 [nʌlt'a] | 맑다 [makt'a] | 젊다 [jʌmt'a] |



ဘယ်လိုလဲ။ ခက်တဲ့ စကားလုံး ရှိရင် သေချာ ပြန်နားထောင်ပြီး ထပ်ဆိုကြည့်ပါ။



## 연습 လေ့ကျင့်ခန်း

1. သေချာ နားထောင်ပြီး အဖြေမှန်ကို ရွေးပါ။

| | | |
|---|---|---|
| (1) 곰　공 | (2) 달　답 | (3) 목　몸 |
| (4) 방　발 | (5) 삼　산 | (6) 일　입 |

2. သေချာ နားထောင်ပြီး လိုက်ဆိုပါ။

| | | | | | | | |
|---|---|---|---|---|---|---|---|
| (1) | 눈 | 산 | 편지 | (2) | 밤 | 마음 | 몸무게 |
| (3) | 공 | 양 | 강아지 | (4) | 달 | 딸 | 일 |
| (5) | 집 | 잎 | 수업 | (6) | 국 | 밖 | 부엌 |
| (7) | 옷 | 낮 | 꽃 | (8) | 책 | 붓 | 아홉 |

3. သေချာ နားထောင်ပြီး ကြားရတဲ့ စကားလုံးကို ဝိုင်းပါ။

(1) 닭 (ㄹ, ㄱ)　(2) 몫 (ㄱ, ㅅ)　(3) 값 (ㅂ, ㅅ)

(4) 앉다 (ㄴ, ㅈ)　(5) 삶 (ㄹ, ㅁ)　(6) 넓다 (ㄹ, ㅂ)

4. သေချာ နားထောင်ပြီး လိုက်ရေးပါ။

| | | | | |
|---|---|---|---|---|
| (1) | | | | |
| (2) | | | | |
| (3) | | | | |
| (4) | | | | |

| | | | | |
|---|---|---|---|---|
| (5) | | | | |
| (6) | | | | |
| (7) | | | | |
| (8) | | | | |
| (9) | | | | |
| (10) | | | | |
| (11) | | | | |
| (12) | | | | |
| (13) | | | | |
| (14) | | | | |

정답 1. (1) 공 (2) 달 (3) 몸 (4) 방 (5) 산 (6) 입
3. (1) ㄱ (2) ㄱ (3) ㅂ (4) ㄴ (5) ㅁ (6) ㄹ
4. (1) 옷 (2) 양 (3) 집 (4) 입 (5) 일 (6) 잎 (7) 책 (8) 밖 (9) 구름 (10) 산 (11) 꽃 (12) 별 (13) 말 (14) 삼



ပြီးရင် စကားလုံး အားလုံးကို အသံထွက်ရင်း သုံးကြိမ်စီ ရေးပါ။

## 8 이어 읽기 အသံကူးခြင်း

K-8

အသတ်ပါတဲ့ စကားလုံးရဲ့ အနောက်မှာ သရနဲ့စတဲ့ စကားလုံး (ဗျည်းမဲ့သင်္ကေတ 'ㅇ') ရှိရင် ရှေ့က စကားလုံးရဲ့ အသတ်ဟာ နောက်က စကားလုံးရဲ့ ဗျည်းအဖြစ် အသံထွက်ရပါတယ်။

| | |
|---|---|
| 밥 을 → 밥 을 | [바블] |
| 먹 어 요 → 먹 어 요 | [머거요] |



CD ကို နားထောင်ပြီး လိုက်ဆိုကြည့်ပါ။
ရှေ့က စကားလုံးရဲ့ အသတ်က ဗျည်းနှစ်လုံးတွဲဖြစ်နေရင်တော့ ပထမအသတ်က ရှေ့စကားလုံးရဲ့ အသတ်သံဖြစ်ပြီး ဒုတိယအသတ်က နောက်စကားလုံးရဲ့ ဗျည်းဖြစ်ပါတယ်။ 'ㄹ' အသတ်က ဗျည်းနေရာကိုရောက်ရင် [r] သံထွက်ပါတယ်။

| | | |
|---|---|---|
| 음악[으막] | 한국어[한구거] | 할아버지[하라버지] |
| 집에[지베] | 꽃이[꼬치] | 이름이[이르미] |
| 걸어요[거러요] | 앉아요[안자요] | 읽어요[일거요] |



ကိုယ့်ဘာသာ တစ်ခေါက် ဖတ်ကြည့်ပါ။ ပြီးရင် ပြန်နားထောင်ပြီး စစ်ကြည့်ပါ။



### 연습 လေ့ကျင့်ခန်း

1. အောက်ပါတို့ကို ဖတ်ပါ။

(1) 물이　　(2) 문을　　(3) 앞에
(4) 닫아요　　(5) 싫어요　　(6) 있어요
(7) 깎아요　　(8) 읽어요　　(9) 앉아요

2. အောက်ပါ ဝါကျများကို ဖတ်ပါ။

(1) 창문을 닫으세요.　　(2) 사진을 찍었어요.
(3) 책에 이름을 쓰세요.　　(4) 물을 마시고 싶어요.
(5) 아침에 병원에 갔어요.



စကားလုံးတွေကို အရေး လေ့ကျင့်ပါ။ ပြီးရင် အလျားလိုက် တစ်ခါ၊ ဒေါင်လိုက် တစ်ခါ အကြိမ်ကြိမ် ဖတ်ကြည့်ပါ။

| ဗျည်း \ သရ | ㅏ | ㅣ | ㅜ | ㅔ | ㅗ | ㅐ | ㅓ | ㅡ |
|---|---|---|---|---|---|---|---|---|
| ㄱ | 가 | | | | | | | |
| ㄴ | | 니 | | | | | | |
| ㄷ | | | 두 | | | | | |
| ㄹ | | | | 레 | | | | |
| ㅁ | | | | | 모 | | | |
| ㅂ | | | | | | 배 | | |
| ㅅ | | | | | | | 서 | |
| ㅇ | | | | | | | | 으 |
| ㅈ | | | | | | | | |
| ㅊ | | | | | | | | |
| ㅋ | | | | | | | | |
| ㅌ | | | | | | | | |
| ㅍ | | | | | | | | |
| ㅎ | | | | | | | | |
| ㄲ | | | | | | | | |
| ㄸ | | | | | | | | |
| ㅃ | | | | | | | | |
| ㅆ | | | | | | | | |
| ㅉ | | | | | | | | |

# 03 교실 한국어

## စာသင်ခန်းသုံး စကားများ

ဒီ သင်ခန်းစာမှာတော့ စာသင်ခန်းသုံး စကားများနဲ့ ပတ်သက်ပြီး လေ့ကျင့်သွားမှာ ဖြစ်ပါတယ်။ စာသင်ခန်းမှာ ရှိတဲ့ ပစ္စည်းတွေနဲ့ စာသင်ခန်းမှာ ပြောရတဲ့ စကားအသုံးအနှုန်းတွေကို ကြည့်ကြရအောင်။






စာသင်ခန်းမှာ ဘယ်သူတွေ ရှိပါသလဲ။ ပြီးတော့ ဘာ ပစ္စည်းတွေ ရှိပါသလဲ။








စာသင်ခန်းထဲမှာ မကြာခဏ ပြောတဲ့ စကားဆိုရင် ဘာတွေ ရှိမလဲ။ စဉ်းစားကြည့်ကြရအောင်။



책을 펴세요.
စာအုပ်ကို ဖွင့်ပါ။



책을 덮으세요.
စာအုပ်ကို ပိတ်ပါ။




보세요.
ကြည့်ပါ။




들으세요.
သေချာ နားထောင်ပါ။



따라하세요.
လိုက်ဆိုပါ။



읽으세요.
ဖတ်ပါ။



쓰세요.
ရေးပါ။




이야기하세요.
ပြောပါ။




대답하세요.
ဖြေပါ။




알겠어요?
နားလည်ပြီလား။




네, 알겠습니다.
ဟုတ်ကဲ့၊ နားလည်ပါပြီ။



아니요, 모르겠습니다.
ဟင့်အင်း၊ နားမလည်သေးပါဘူး။




질문 있어요?
မေးစရာ ရှိလား။




네, 질문 있습니다.
ဟုတ်ကဲ့၊ မေးစရာ ရှိပါတယ်။

아니요, 질문 없습니다.
ဟင့်အင်း၊ မေးစရာ မရှိပါဘူး။



# 04 안녕하세요

မင်္ဂလာပါ။

ဒီ သင်ခန်းစာမှာတော့ ကိုရီးယားလို နှုတ်ဆက်ပုံ အမျိုးမျိုးကို လေ့လာကြည့်ကြရအောင်။






တစ်ယောက်နဲ့ တစ်ယောက် တွေ့ရင် ဘယ်လို နှုတ်ဆက်ကြမလဲ။








တစ်ယောက်နဲ့ တစ်ယောက် လမ်းခွဲကြတဲ့အခါ ဘယ်လို နှုတ်ဆက်ကြမလဲ။






ကျေးဇူးတင်တဲ့အခါနဲ့ တောင်းပန်တဲ့အခါမှာ ဒီလို ပြောရပါတယ်။








# 주말 잘 보내세요

## ပိတ်ရက်မှာ အေးအေးဆေးဆေး နားပါ။

ဒီ သင်ခန်းစာမှာတော့ သင်ခန်းစာ(၄)က နှုတ်ဆက်စကားများရဲ့ နောက်ဆက်တွဲအားဖြင့် ကိုရီးယားယဉ်ကျေးမှုရဲ့ နှုတ်ဆက်နည်းများကို ထပ်ဆင့် လေ့လာသွားမှာ ဖြစ်ပါတယ်။

Track 21



မနက် အိပ်ရာထချိန်နဲ့ ညအိပ်ရာဝင်ချိန် နှုတ်ဆက်နည်းကို လေ့လာကြည့်ရအောင်။









အစာ မစားမီနဲ့ စားပြီးရင်လည်း အခုလို နှုတ်ဆက်ရပါတယ်။








ရက်သတ္တပတ် ကုန်ဆုံးချိန် လမ်းခွဲကြတဲ့အခါ ဘယ်လို နှုတ်ဆက်ကြမလဲ။






ဂုဏ်ပြုစကားကိုရော ဘယ်လို ပြောရမလဲ။






# 저는 투안입니다
ကျွန်တော်က ထူအန်းပါ။

**학습 안내**
သင်ရိုး အညွှန်း

- □ **သင်ခန်းစာ ရည်ရွယ်ချက်** မိမိကိုယ်ကို မိတ်ဆက်ခြင်း
- □ **သဒ္ဒါ** 입니다, 입니까
- □ **ဝေါဟာရ** နိုင်ငံအမည်များ၊ အလုပ်အကိုင်
- □ **သတင်းအချက်အလက်နှင့် ယဉ်ကျေးမှု** နှုတ်ဆက်ခြင်း



## 대화 1 စကားပြော ၁






အောက်မှာ မင်းဆုနဲ့ ထူအန်းတို့ စကားပြောနေတာလေး ဖော်ပြထားပါတယ်။ သူတို့ နှစ်ယောက် တစ်ဦးနှင့် တစ်ဦး အပြန်အလှန် နှုတ်ဆက်နေပါတယ်။ အရင်ဆုံး သူတို့ ပြောတာကို နှစ်ခေါက် နားထောင်ပြီး လိုက်ဆိုကြည့်ရအောင်။

민수 안녕하세요.
မင်္ဂလာပါ။
저는 이민수입니다.
ကျွန်တော် အီမင်းဆုပါ။

투안 안녕하세요.
မင်္ဂလာပါ။
저는 투안입니다.
ကျွန်တော် ထူအန်းပါ။
저는 베트남 사람입니다.
ကျွန်တော်က

**저 ကျွန်တော်၊ ကျွန်မ**
ပြောသူက တဖက်သားနှင့် စကားပြောချိန် မိမိကိုယ်ကို နှိမ့်ချပြောဆိုသော စကား
- 저는 이영진입니다.
  ကျွန်မ အီယောင်းဂျင်း ဖြစ်ပါတယ်။
- 저는 미얀마 사람입니다.
  ကျွန်တော်ကတော့ မြန်မာလူမျိုးပါ။

**안녕하세요 မင်္ဂလာပါ**
တခြားသူနှင့် တွေ့ဆုံနှုတ်ဆက်ချိန် အသုံးပြုသော အသုံးအနှုန်း
- 안녕하세요. 저는 이민수입니다.
  မင်္ဂလာပါ။ ကျွန်တော် အီမင်းဆုပါ။
- 안녕하세요. 만나서 반갑습니다.
  မင်္ဂလာပါ။ တွေ့ရတာ ဝမ်းသာပါတယ်။



အသေအချာ နားထောင်ပြီး လိုက်ဆိုပြီးပြီလား။ အောက်က မေးခွန်းတွေ ဖြေပေးပါ။

1. 투안 씨는 누구와 인사를 했어요? ထူအန်းက ဘယ်သူနဲ့ နှုတ်ဆက်ခဲ့လဲ။
2. 투안 씨는 어느 나라 사람이에요? ထူအန်းက ဘာလူမျိုးလဲ။

정답 1. 민수 씨와 인사를 했어요. 2. 베트남 사람입니다.





## 어휘 1 ဝေါဟာရ ၁ — 나라 နိုင်ငံ



အောက်ပါ အလံများမှာ ကိုရီးယားသို့ အလုပ် လာလုပ်သူများရဲ့ နိုင်ငံအလံများ ဖြစ်ပါတယ်။ နိုင်ငံတစ်နိုင်ငံချင်းစီရဲ့ အလံများနဲ့ ပတ်သက်ပြီး သင်ယူကြရအောင်။



한국
တောင်ကိုရီးယား

미얀마
မြန်မာ



네팔
နီပေါ



동티모르
အရှေ့တီမော





몽골
မွန်ဂို



필리핀
ဖိလစ်ပိုင်



방글라데시
ဘင်္ဂလားဒေ့ရှ်



베트남
ဗီယက်နမ်



스리랑카
သီရိလင်္ကာ





우즈베키스탄
ဥဇဘက်ကစ္စတန်



중국
တရုတ်





캄보디아
ကမ္ဘောဒီးယား



키르기스스탄
ကာဂျစ္စတန်



태국
ထိုင်း



파키스탄
ပါကစ္စတန်



인도네시아
အင်ဒိုနီးရှား

### Tip 입니다 ဖြစ်တယ်

မြန်မာစကားမှာ ကြိယာရဲ့ မူရင်းပုံစံကို ပြောတဲ့အခါ '-သည်' ကို သုံးပါတယ်။ ဥပမာ 'ဖြစ်သည်' 'ချစ်သည်' စသည်ဖြင့် ရှိပါတယ်။ အလားတူပဲ ကိုရီးယားစကားမှာလည်း ကြိယာရဲ့ မူရင်းပုံစံကို ပြောတဲ့အခါ '-다'ကို သုံးပါတယ်။ '이다' ဆိုရင် 'ဖြစ်သည်'ဆိုတဲ့ အဓိပ္ပါယ်ဖြစ်ပါတယ်။ 'ဖြစ်သည်'ဆိုတဲ့ စကားလုံးကို ဝါကျထဲမှာ သုံးချင်ရင် ဝါကျအဆုံးသတ်စကားလုံး '-တယ' နဲ့ တွဲပေးရပါတယ်။ အလားတူပဲ ကိုရီးယားစကားမှာလည်း စကားလုံးကို ဝါကျဖွဲ့ချင်ရင် ကြိယာနဲ့ ဝါကျအဆုံးသတ်စကားလုံးကို တွဲပေးရပါတယ်။

- ဥပမာ '이다 + ㅂ니다 = 입니다' : 이것은 펜입니다. ဒါက ဘောပင်ဖြစ်ပါတယ်။
- မေးခွန်းဝါကျဆိုရင် '이다 + ㅂ니까 = 입니까?' : 이것은 펜입니까? ဒါက ဘောပင်ဖြစ်ပါသလား။

## 문법 1 သဒ္ဒါ ၁ 입니다




'입니다' ကိုတော့ နာမည်၊ နိုင်ငံသား၊ အလုပ်အကိုင် စသည်ဖြင့် မိမိကိုယ်ကို မိတ်ဆက်ရာတွင် သုံးပါသည်။ နားထောင်သူကို လေးစားသောအားဖြင့် သုံးသော ယဉ်ကျေးသည့် အသုံးအနှုန်းဖြစ်ပါသည်။

- 가: 한국 사람**입니다**. ကိုရီးယားလူမျိုး ဖြစ်ပါတယ်။ 나: 저는 민수**입니다**. ကျွန်တော်ကတော့ မင်းဆုပါ။



**비교해 보세요** နှိုင်းယှဉ်ကြည့်ပါ။

### ✓ '입니다' နှင့် '이/가 아닙니다'

'입니다' ပြောသူ၏ ဖြစ်ခြင်း သို့မဟုတ် ဟုတ်မှန်ခြင်းကို ဖော်ပြရာတွင် အသုံးပြုသည်။ '아닙니다' သည် '입니다' နှင့် ဆန့်ကျင်စွာ မဟုတ်ကြောင်းကို ဖော်ပြသည်။ '아닙니다' သည် ကြိယာပုဒ်ဖြစ်သောကြောင့် အရှေ့မှ နာမ်ပုဒ်များနှင့် ခွဲရေးသည်။

- 저는 한국 사람**입니다**.(O)
- 저는 한국 사람아닙니다.(X)
- 저는 한국 사람**이 아닙니다**.(O)



'입니다' ကို နားလည်ရင် အောက်ပါဝါကျများကို ဥပမာပေးထားတဲ့အတိုင်း ဖြည့်ပေးပါ။

1. 〈보기〉처럼 문장을 완성하세요. ဥပမာအတိုင်း ဝါကျများကို ဖြည့်ပေးပါ။

보기 (투안) 저는 투안입니다. ကျွန်တော် ထူအန်းပါ ။

1) 리한 ________________.　　2) 수피카 ________________.

2. 〈보기〉처럼 문장을 완성하세요. ဥပမာအတိုင်း ဝါကျများကို ဖြည့်ပေးပါ။

보기 (베트남) 저는 베트남 사람입니다. ကျွန်တော် ဗီယက်နမ်လူမျိုးပါ။ .

1) 파키스탄 ________________.　　2) 태국 ________________.

정답 1. 1) 저는 리한입니다 2) 저는 수피카입니다 2. 1) 저는 파키스탄 사람입니다 2) 저는 태국 사람입니다



## 대화 2 စကားပြော ၂

Track 23



ထူအန်းနဲ့ ဂျွန်ဂူဟာ တစ်ယောက်နဲ့ တစ်ယောက် အပြန်အလှန် နှုတ်ဆက်နေကြပါတယ်။ ပြီးတော့ သူတို့ရဲ့ နိုင်ငံနဲ့ အလုပ်အကိုင်အကြောင်း ပြောနေကြပါတယ်။ သူတို့ ဘယ်နိုင်ငံက လာတာလဲ။ အရင်ဆုံး နစ်ခေါက် နားထောင်ကြည့်ရအောင်။

투안　**저는 투안입니다.**
ကျွန်တော် ထူအန်းပါ။

준구　**어느 나라 사람입니까?**
ဘယ်နိုင်ငံသားလဲ။

투안　**베트남 사람입니다.**
ဗီယက်နမ်လူမျိုးပါ။

준구　**학생입니까?**
ကျောင်းသားလား။

투안　**아니요, 회사원입니다.**
မဟုတ်ပါဘူး။ ကုမ္ပဏီဝန်ထမ်းပါ။

> **어느 ကျွန်တော်၊**
> ဘယ် N. အများအပြား ရှိသည့် အထဲမှ ရည်ရွယ်ဦးတည်ရာကို မေးသော အချိန် အသုံးပြုသည့် စကား
>
> 가: 어느 나라 사람입니까?
> ဘယ်နိုင်ငံသားလဲ။
> 나: 한국 사람입니다.
> ကိုရီးယားလူမျိုးပါ။

> **아니요 မဟုတ်ဘူး**
> ဖြစ်ရပ်တစ်ခုကို ငြင်းဆိုသော အဓိပ္ပါယ်ဖြင့် သုံးသည့် စကား။ လက်ခံသော အဓိပ္ပါယ်ဖြင့် သုံးချိန်တွင် '네' ကို အသုံးပြုသည်။
>
> 가: 러시아 사람입니까?
> ရုရှား လူမျိုး ဖြစ်ပါသလား။
> 나: 아니요, 미얀마 사람입니다.
> မဟုတ်ပါဘူး။ မြန်မာလူမျိုးပါ။



အခု သင့်ကိုယ်သင် ထူအန်းနဲ့ ဂျွန်ဂူတို့ နေရာမှာ ဝင်သရုပ်ဆောင်ပြီး လိုက်ပြောကြည့်ရအောင်။ သေချာ နားထောင်ပြီး လိုက်ဆိုပြီးပြီလား။ အောက်ပါ မေးခွန်းတွေ ဖြေကြည့်ရအောင်။

1. 투안 씨는 어느 나라 사람이에요? ထူအန်းက ဘယ်နိုင်ငံက လာတာလဲ။
2. 투안 씨의 직업은 뭐예요? ထူအန်းက ဘာလုပ်လဲ။

정답 1. 베트남 사람입니다. 2. 회사원입니다.



## 어휘 2 စကားပြော ၂ 직업 အလုပ်အကိုင်



အလုပ်အကိုင်နဲ့ ပတ်သက်တဲ့ ဝေါဟာရတွေ သင်ယူရအောင်။



학생
ကျောင်းသား



선생님
ဆရာမ



회사원
ကုမ္ပဏီဝန်ထမ်း



주부
အိမ်ရှင်မ



경찰관
ရဲသား



소방관
မီးသတ်သမား



공무원
အစိုးရဝန်ထမ်း



점원
အရောင်းစာရေး



의사
ဆရာဝန်



간호사
သူနာပြု



요리사
စားဖိုမှူး



운전기사
ဒရိုင်ဘာ



기술자
အင်ဂျင်နီယာ



목수
လက်သမား



농부
လယ်သမား



어부
တံငါသည်



အပေါ်က သင်ယူခဲ့တဲ့ ဝေါဟာရလေးတွေ ပြန်စဉ်းစားပြီး အောက်မှ မေးခွန်းတွေ ဖြေကြည့်ပါ။

1. 그림을 보고 〈보기〉처럼 알맞은 말을 연결하세요.
ဥပမာပေးထားတဲ့အတိုင်း ဝေါဟာရနဲ့ ကိုက်ညီတဲ့ ပုံကို တွဲပေးပါ။




정답 ① ㉢ ② ㉠ ③ ㉤ ④ ㉣

## 문법 2 သဒ္ဒါ ၂ 입니까




'입니다' ကဲ့သို့ ယဉ်ကျေးမှုအသုံးအနှုန်းဖြစ်ပြီး မေးခွန်းပုံစံတွင် သုံးပါသည်။

- 가: 어느 나라 사람**입니까**? ဘာလူမျိုးလဲ။
  나: 저는 미얀마 사람입니다. ကျွန်တော်ကတော့ မြန်မာလူမျိုး ဖြစ်ပါတယ်။
- 가: 회사원**입니까**? ကုမ္ပဏီဝန်ထမ်းလား?
  나: 네, 회사원입니다. ဟုတ်ပါတယ်။



'입니까?' နှင့်အတူ ဥပမာအတိုင်း စာကြောင်းများကို ဖြည့်ပေးပါ။

2. 〈보기〉처럼 문장을 완성하세요. ဥပမာအတိုင်း စာကြောင်းများကို ဖြည့်ပေးပါ။

보기 학생 → 학생입니까? ကျောင်းသားလား။

1) 회사원 → ____________________?
2) 소방관 → ____________________?
3) 간호사 → ____________________?
4) 기술자 → ____________________?

정답 1) 회사원입니까 2) 소방관입니까 3) 간호사입니까 4) 기술자입니까

'입니까?' နှင့်အတူ ပုံအတိုင်း စာကြောင်းများကို ဖြည့်ပေးပါ။

1. 
가: 중국 사람입니까?
나: 아니요, ____________________.

2. 
가: 간호사 ____________________?
나: 아니요, ____________________.

3. 
가: 요리사 ____________________?
나: 아니요, ____________________.

정답 1. 태국 사람입니다 2. 입니까, 의사입니다 3. 입니까, 기술자입니다



## 활동 အသုံးချသင်ခန်းစာများ

〈보기〉처럼 친구들과 이름, 국적, 직업을 묻고 대답해 보세요.
ဥပမာအတိုင်း သူငယ်ချင်းနဲ့အတူ သူတို့ နာမည်၊နိုင်ငံသားနဲ့ အလုပ်အကိုင်အကြောင်းကို မေးခွန်း မေးပြီး ဖြေကြည့်ရအောင်။

보기

투안 : 이름이 무엇입니까? နာမည် ဘယ်လို ခေါ်လဲ။
리한 : 리한입니다. ငါ ရီဟန်ပါ။
투안 : 어느 나라 사람입니까? ဘာလူမျိုးလဲ။
리한 : 파키스탄 사람입니다. ပါကစ္စတန်လူမျိုးပါ။
투안 : 회사원입니까? ကုမ္ပဏီဝန်ထမ်းလား။
리한 : 네, 회사원입니다. ဟုတ်ကဲ့၊ ကုမ္ပဏီဝန်ထမ်းပါ။

| | 이름 နာမည် | 국적 နိုင်ငံသား | 직업 အလုပ်အကိုင် |
|---|---|---|---|
| 보기 | 리한<br>ရီဟန် | 파키스탄 사람<br>ပါကစ္စတန် | 회사원<br>ကုမ္ပဏီဝန်ထမ်း |
| 1 | | | |
| 2 | | | |
| 3 | | | |
| 4 | | | |
| 5 | | | |



**유용한 표현** အသုံးဝင်သော အသုံးအနှုန်းများ

처음 뵙겠습니다. တွေ့ရတာ ဝမ်းသာပါတယ်။

가: 만나서 반가워요. တွေ့ ရတာ ဝမ်းသာပါတယ်။
나: 투안이라고 합니다. **처음 뵙겠습니다.** ထူအန်းလို့ ခေါ်ပါတယ်။ **တွေ့ရတာ ဝမ်းသာပါတယ်။**



## 정보 သတင်းအချက်အလက်

# 인사 예절 နှုတ်ဆက်ခြင်း



### 자신보다 나이가 많거나 지위가 높은 사람과 인사할 때

ကိုရီးယားများသည် မိမိထက် ရာထူးကြီးသော သို့မဟုတ် အသက်ကြီးသော သူများနှင့် နှုတ်ဆက်သည့်အခါ ခါးညွှတ်ပြီး နှုတ်ဆက်ပါသည်။





### 처음 만나는 사람과 인사할 때

ပထမဆုံး တွေ့သူနှင့် နှုတ်ဆက်သည့်အခါ လက်ဆွဲ နှုတ်ဆက်ပါသည်။



### 직장 동료나 아는 사람과 인사할 때

ကိုရီးယားများသည် အလုပ်ခွင်တွင် လုပ်ဖော်ကိုင်ဖက် အသိများနှင့် နှုတ်ဆက်သည့်အချိန် ခေါင်းငုံ့နှုတ်ဆက်လေ့ရှိပါသည်။



### 자신보다 나이가 어리거나 친한 사람과 인사할 때

ကိုရီးယားများသည် အသိများ သို့မဟုတ် မိမိထက် ငယ်သူများနှင့် နှုတ်ဆက်သည့်ချိန်တွင် လက်ပြနှုတ်ဆက်လေ့ရှိပါသည်။

## 내용 확인 ဉာဏ်စမ်းမေးခွန်း

✚ 빈칸에 알맞은 말을 쓰세요. ကွက်လပ်တွင် သင့်တော်သော စကားလုံးကို ဖြည့်ပါ။

(1) 어른을 만나면 '□□□□□'라고 인사합니다.
အသက်ကြီးသူ သို့မဟုတ် ရာထူးကြီးသူနှင့် တွေ့ဆုံသည့် အချိန် 'မင်္ဂလာပါ' ဟု နှုတ်ဆက်ပါသည်။

(2) 처음 만나는 사람에게는 '□□□ □□□□'라고 인사합니다.
ပထမဆုံးအကြိမ် တွေ့ဆုံလျှင် "တွေ့ရတာ ဝမ်းသာပါတယ်" ဟု နှုတ်ဆက်ပါသည်။

(3) 친구를 만나면 '□□'이라고 인사합니다.
သူငယ်ချင်းနှင့် တွေ့ဆုံချိန် 'ဟိုင်း' ဟု နှုတ်ဆက်ပါသည်။.

정답 (1) 안녕하세요 (2) 만나서 반갑습니다 (3) 안녕



မေးခွန်း ၁နဲ့ ၂မှာ နိုင်ငံသားလူမျိုးကို ရွေးချယ်တဲ့ မေးခွန်းများ ဖြစ်ပါတယ်။ သေချာ နားထောင်ပြီး ရွေးပေးပါ။

[1~3] 들은 것을 고르십시오. နားထောင်ပြီး အဖြေ ရွေးပေးပါ။ Track 24

1. ① 중국 ② 네팔 ③ 한국 ④ 몽골

2. ① 태국 ② 미얀마 ③ 베트남 ④ 필리핀

3. ① 동티모르 ② 스리랑카 ③ 캄보디아 ④ 파키스탄



မေးခွန်း ၄နဲ့ ၅မှာ အလုပ်အကိုင်နဲ့ ပတ်သက်သော မေးခွန်းများ ဖြစ်ပါတယ်။ နားမထောင်ခင် ပုံကို သေချာကြည့်ပြီး သင့်တော်သော အလုပ်အကိုင်ကို ရှာပေးပါ။

[4~5] 다음 그림을 보고 알맞은 것을 고르십시오. ပုံအတိုင်း သင့်တော်သော စာလုံးများကို ရွေးပေးပါ။

4.  ① ② ③ ④

5.  ① ② ③ ④



### 듣기 대본 စာသား

1. 여: 한국 ကိုရီးယား
2. 남: 미얀마 မြန်မာ
3. 여: 동티모르 အရှေ့တီမော
4. ① 남: 의사 ဆရာဝန်　② 남: 목수 လက်သမား
   ③ 남: 학생 ကျောင်းသား　④ 남: 주부 အိမ်ရှင်မ
5. ① 여: 회사원 ကုမ္ပဏီဝန်ထမ်း　② 여: 소방관 မီးသတ်သမား
   ③ 여: 요리사 စားဖိုမှူး　④ 여: 기술자 အင်ဂျင်နီယာ

정답 1. ③ 2. ② 3. ① 4. ① 5. ③



### 확장 연습 ထပ်ဆောင်း လေ့ကျင့်ရန် L-06

1. 들은 것을 고르십시오. မေးခွန်းကို နားထောင်ပြီး အဖြေကို ရွေးပါ။

   ① 몽골　② 중국　③ 파키스탄　④ 인도네시아

2. 질문에 알맞은 대답을 고르십시오.
   မေးခွန်းနှင့် သင့်တော်သော အဖြေကို ရွေးပေးပါ။

   ① 네, 학생입니다.　② 아니요, 농부입니다.
   ③ 네, 베트남 사람입니다.　④ 아니요, 리한입니다.

### 확장 연습 듣기 대본 ထပ်ဆောင်း လေ့ကျင့်ရန် စာသား

1. 남: 몽골 မွန်ဂို
2. 남: 회사원입니까? ကုမ္ပဏီဝန်ထမ်းလား။

정답 1. ① 2. ②



## EPS-TOPIK 읽기 EPS-TOPIK အဖတ် စာမေးပွဲ



မေးခွန်း ၁နဲ့ ၂မှာ အလုပ်အကိုင်နဲ့ ပတ်သက်တဲ့ စကားလုံးတွေ ဖြစ်ပါတယ်။ ပုံကို သေချာကြည့်ပြီး မှန်ကန်တဲ့ အလုပ်အကိုင်ကို ရွေးပေးပါ။

[1~2] 다음 그림을 보고 맞는 단어를 고르십시오. ပုံကို ကြည့်ပြီး သင့်တော်သော စကားလုံးကို ရွေးပေးပါ။

1.



① 회사원 ② 선생님
③ 경찰관 ④ 공무원

2.



① 점원 ② 어부
③ 목수 ④ 농부



မေးခွန်း ၃မှာ နိုင်ငံသားနဲ့ ပတ်သက်တဲ့ စကားလုံးကို ရွေးချယ်ပေးရမှာ ဖြစ်ပြီး မေးခွန်း ၄မှာ နာမည်နဲ့ ပတ်သက်ပြီး ရွေးပေးရမှာပါ။ မေးခွန်း ၅မှာ ဟုတ်ကဲ့ သို့မဟုတ် မဟုတ်ပါဘူး နဲ့ ပတ်သက်တဲ့ မေးခွန်းဖြစ်ပါတယ်။ ဒီနေ့ လေ့လာသင်ယူခဲ့တာကို သေချာစဉ်းစားပြီး ဖြေကြည့်ရအောင်။

[3~5] 빈칸에 들어갈 가장 알맞은 것을 고르십시오.
ကွက်လပ်တွင် အသင့်တော်ဆုံး စကားလုံးကို ရွေးပေးပါ။

3. 저는 베트남 ______________ 입니다. ကျွန်တော် ဗီယက်နမ်လူမျိုးပါ။

① 몽골 ② 사람 ③ 인사 ④ 나라

4. 가: ______________이 무엇입니까? နာမည် ဘယ်လိုခေါ်ပါသလဲ။
나: 리한입니다. ရီဟန်ပါ။

① 한국 ② 직업 ③ 이름 ④ 점원

5. 가: 학생입니까? ကျောင်းသားလား။
나: ______________, 회사원입니다. မဟုတ်ပါဘူး။ ကုမ္ပဏီဝန်ထမ်းပါ။

① 네 ② 아니요 ③ 괜찮아요 ④ 감사합니다

정답 1. ② 2. ④ 3. ② 4. ③ 5. ②





## 확장 연습 ထပ်ဆောင်း လေ့ကျင့်ရန်

[1~3] 다음 그림을 보고 맞는 문장을 고르십시오.
အောက်ပါ ပုံကို ကြည့်ပြီး သင့်တော်သော ဝါကျကို ရွေးပေးပါ။

1.  

① 태국 사람입니다. ② 중국 사람입니다.
③ 미얀마 사람입니다. ④ 우즈베키스탄 사람입니다.

2. 

① 가위입니다. ② 필통입니다.
③ 볼펜입니다. ④ 지갑입니다.

[3~4] 빈칸에 들어갈 가장 알맞은 것을 고르십시오.
ကွက်လပ်တွင် အသင့်တော်ဆုံး အဖြေကို ရွေးထည့်ပေးပါ။

3.

가: ____________________?
나: 아니요, 간호사입니다. မဟုတ်ပါဘူး။ သူနာပြုပါ။

① 회사원입니까 ② 리한 씨입니까
③ 한국 사람입니까 ④ 어느 나라 사람입니까

4.

가: 안녕히 계세요. ခွင့်ပြုပါဦး။
나: ____________________.

① 안녕하세요 ② 실례합니다
③ 안녕히 가세요 ④ 처음 뵙겠습니다

정답 1. ③ 2. ① 3. ① 4. ③



## 발음 အသံထွက် 


### သေချာ နားထောင်ပြီး လိုက်ဆိုပါ။

ကိုရီးယားဘာသာစကားမှာ သံတိုသရ (၈)လုံး (아, 이, 우, 애, 오, 에, 어, 으) ရှိပါတယ်။
လူငယ်အတော်များများကတော့ ဒီသရတွေထဲက 'ㅔ [e]' နဲ့ 'ㅐ [æ]' အသံကို ခွဲခြားပြီး မထွက်နိုင်ကြတော့ပါဘူး။

(1) 이, 에, 애, 아
(2) 우, 오, 어, 아, 우, 으
(3) 아이, 오이, 아우, 우애




# 여기가 사무실이에요

ဒါ ရုံးခန်းပါ။

**학습 안내**
သင်ရိုး အညွှန်း

- ☐ **သင်ခန်းစာ ရည်ရွယ်ချက်** နေရာနှင့် ပစ္စည်းများအကြောင်း အမေးအဖြေ
- ☐ **သဒ္ဒါ** 이/가, 이에요/예요
- ☐ **ဝေါဟာရ** နေရာ၊ ပစ္စည်း
- ☐ **သတင်းအချက်အလက်နှင့် ယဉ်ကျေးမှု** ကိုရီးယားနိုင်ငံ၏ ကြမ်းခင်းပေါ် ထိုင်ခြင်း ယဉ်ကျေးမှုဓလေ့နှင့် လူနေမှုအသုံးအဆောင်ပစ္စည်းများ



## 대화 1 စကားပြော ၁

Track 25



အောက်တွင် မင်းဆူနဲ့ ထူအန်းတို့ စကားပြောတာကို ဖော်ပြထားပါတယ်။ မင်းဆူက ထူအန်းကို ကုမ္ပဏီမှ အိမ်သာနဲ့ ရုံးခန်းများ အကြောင်း ပြောပြနေတာပါ။ အရင်ဆုံး နစ်ခေါက် နားထောင်ကြည့်ပြီး လိုက်ပြောကြည့်ရအောင်။

투안 **여기가 사무실입니까?**
ဒါ ရုံးခန်းလား။

민수 **네, 사무실입니다.**
ဟုတ်ကဲ့၊ ဒါ ရုံးခန်းပါ။

투안 **화장실이 어디입니까?**
အိမ်သာ ဘယ်မှာလဲ။

민수 **저기입니다.**
ဟိုမှာပါ။

> **여기** ဒီနေရာ၊ ဒီ
> - 여기가 사무실입니다.
>   ဒါ ရုံးခန်းပါ။
> - 여기가 집입니다.
>   ဒါ အိမ်ပါ။

> **어디** ဘယ်မှာ
> - 사무실이 어디입니까?
>   ရုံးခန်း ဘယ်မှာလဲ ။
> - 저기가 어디입니까?
>   အဲ့ဒါ ဘယ်နေရာလဲ။

အသေအချာ နားထောင်ပြီး လိုက်ဆိုပြီးရင် အောက်က မေးခွန်းကို ဖြေပေးပါ။

1. 민수 씨는 무엇을 하고 있어요? မင်းဆူ ဘာလုပ်နေလဲ။
2. 두 사람은 지금 어디에 있어요? သူတို့ အခု ဘယ်မှာလဲ။

정답 1. 회사를 소개하고 있어요. 2. 사무실에 있어요.





## 어휘 1 ဝေါဟာရ ၁ 장소 နေရာ



အောက်တွင် နေရာများကို ဖော်ပြထားပါတယ်။ အရင်ဆုံး သင် သိသော ဝေါဟာရ ရှိလား ရှာကြည့်ပါ။ ပြီးနောက် ပုံကို ကြည့်ပြီး ကိုရီးယားလို ဘယ်လိုခေါ်လဲ လေ့လာရအောင်။



















| | | | |
|---|---|---|---|
| 여기<br>ဒီမှာ | 저기<br>ဟိုးမှာ | 거기<br>အဲ့မှာ | 어디<br>ဘယ်မှာ |
| 회사<br>ကုမ္ပဏီ | 사무실<br>ရုံးခန်း | 화장실<br>အိမ်သာ | 식당<br>စားသောက်ဆိုင် |
| 집<br>အိမ် | 기숙사<br>အဆောင် | 세탁소<br>အဝတ်လျှော်ဆိုင် | 미용실<br>အလှပြင်ဆိုင် |
| 시장<br>ဈေး | 마트<br>ကုန်စုံဆိုင် | 편의점<br>၂၄နာရီ ကုန်စုံဆိုင် | 슈퍼마켓<br>စူပါမားကတ် |



အပေါ်မှ ဝေါဟာရများကို မကြည့်ဘဲ ဖြေကြည့်ပါ။

1. 그림을 보고 알맞은 단어를 연결하세요. ပုံနှင့် သင့်တော်သော ဝေါဟာရကို တွဲပေးပါ။

①  ②  ③  ④ 

㉠ 회사 ㉡ 사무실 ㉢ 집 ㉣ 화장실

정답 ① ㉢ ② ㉠ ③ ㉡ ④ ㉣

## 문법 1 သဒ္ဒါ ၁ 이/가




'이/가' ကတော့ နာမ်ပုဒ်ကို အထောက်အကူပြုသော အသုံးအနှုန်းဖြစ်ပါသည်။ '이' ကို ဗျည်းအသတ်နှင့် ဆုံးပါက သုံးပြီး '가' ကိုတော့ သရနှင့် ဆုံးပါက အသုံးပြုသည်။

| 자음 (ဗျည်း) + **이** | 모음 (သရ) + **가** |
|---|---|
| 사무실**이** | 여기**가** |

- 여기**가** 사무실입니다. ဒီမှာက ရုံးခန်းပါ။
- 시장**이** 어디입니까? ဈေးက ဘယ်မှာလဲ။



**비교해 보세요** နှိုင်းယှဉ်ကြည့်ပါ။

### ✓ '이/가' နှင့် '은/는'

'이/가' နှင့် '은/는' သည် ဝါကျ၏ ပြုသူနောက်တွင် အသုံးပြုသည်။ '이/가' ကို ပြုသူ၏ နောက်တွင်သာ အသုံးပြုနိုင်သော်လည်း '은/는' ကို ရည်ရွယ်ချက်ပြပုဒ်၊ ကြိယာဝိသေသနပုဒ်တွင်လည်း သုံးနိုင်သည်။ ထို့ပြင် '은/는' သည် ယှဉ်တွဲပြပုဒ် သို့မဟုတ် ဆိုလိုရင်းကို ဖော်ပြရာပေးနိုင်စွမ်းရှိသော်လည်း '이/가' မှာ ထိုကဲ့သို့သော နေရာတွင် မသုံးဘဲ အသစ် ဖြစ်ပျက်သော အကြောင်းအရာကို ဖော်ပြသည့် အခါတွင် သုံးသည်။

- 제 이름이 김민수입니다.(X)
- 어떤 사람**이** 길을 물었습니다.(O)
- 제 이름**은** 김민수입니다.(O)
- 어떤 사람은 길을 물었습니다.(X)



'이/가' နဲ့ ပတ်သက်ပြီး နားလည်ပြီလား။ ဒါဆို အောက်က ဝါကျများကို ဥပမာအတိုင်း ဖြည့်ကြည့်ပါ။

2. 〈보기〉처럼 '이/가'를 사용해서 문장을 완성하세요.
'이/가' ကို အသုံးပြုပြီး ဝါကျဖြည့်ပါ။

보기 화장실(이) 어디입니까? အိမ်သာ ဘယ်မှာလဲ။

1) 식당( ) 어디입니까?
စားသောက်ဆိုင်က ဘယ်မှာလဲ။

2) 세탁소( ) 어디입니까?
အဝတ်လျှော်ဆိုင် ဘယ်မှာလဲ။

3) 여기( ) 시장입니다.
ဒီနေရာက ဈေးပါ။

4) 편의점( ) 저기입니다.
ဟိုမှာ ၂၄နာရီဆိုင် ရှိတယ်။

정답 1) 이 2) 가 3) 가 4) 이



ထပ်ပြီး လေ့လာကြဦးမလား။ အောက်က ပုံကို ကြည့်ပြီး '이/가' ဖြည့်ပေးပါ။

1. ________이/가 어디입니까?

2. 

________이/가 어디입니까?

정답 1. 시장이 2. 슈퍼마켓이



## 대화 2 စကားပြော ၂

Track 26

ရီဟန်နဲ့ ထူအန်းတို့ဟာ အဆောင်အခန်းမှာ ရှိတဲ့ ပစ္စည်းတွေ အကြောင်း ပြောနေကြတယ်။ အရင်ဆုံး ပြောတာကို နစ်ခေါက် နားထောင်ပြီး လိုက်ဆိုကြည့်ရအောင်။

리한 　여기가 기숙사예요.
ဒါ အဆောင်ပါ။
이건 기숙사 열쇠예요.
ဒီဟာကတော့ အခန်းသော့ပါ။

투안 　감사합니다.
ကျေးဇူးတင်ပါတယ်။
그런데 저게 뭐예요?
ဒါနဲ့ ဟိုဟာက ဘာလဲ။

리한 　가족사진이에요.
အဲ့ဒါ ကျွန်တော့် မိသားစုဓာတ်ပုံ

**그런데 ဒါနဲ့**
ဒုတိယဝါကျမှာ အကြောင်းအရာ ခေါင်းစဉ် ပြောင်းပြီး ပြောချင်တဲ့အခါ ဝါကျဆက်အနေနဲ့ သုံးပါတယ်။

- 가: 사무실이 어디예요?
  ရုံးခန်း ဘယ်မှာလဲ။
  나: 저기예요. 그런데 사무실에 왜 가요?
  ဟိုမှာပါ။ ဒါနဲ့ ရုံးခန်းကို ဘာလို့ သွားတာလဲ။

**뭐 ဘာ**
무엇 အတိုကောက်

- 이름이 뭐예요?
  နာမည် ဘယ်လိုခေါ်လဲ။
- 이게 뭐예요?
  ဒီဟာ ဘာလဲ။

အခု ရီဟန်နဲ့ ထူအန်း နေရာမှာ ဝင်သရုပ်ဆောင်ပြီး လိုက်ပြောကြည့်ပါ။ သေချာနားထောင်ပြီး လိုက်ဆိုပြီးပြီလား။ ဒါဆို အောက်ပါ မေးခွန်းတွေ ဖြေကြည့်ပါ။

1. 리한 씨와 투안 씨는 어디에 있어요? ရီဟန်နဲ့ ထူအန်းတို့ ဘယ်မှာ ရှိနေလဲ။
2. 기숙사에 뭐가 있어요? အဆောင်မှာ ဘာရှိလဲ။

정답 1. 기숙사 2. 열쇠, 가족사진

**Tip 줄임말** အတိုကောက် စကားလုံး

말하기에서는 줄임말을 많이 사용합니다.
စကားပြောချိန်တွင် အတိုကောက်စကားလုံးများကို အများအပြား သုံးသည်။

| | |
|---|---|
| · 이것은 → 이건 | 이것이 → 이게 |
| · 저것은 → 저건 | 저것이 → 저게 |
| · 그것은 → 그건 | 그것이 → 그게 |

## 어휘 2 စကားပြော ၂ 물건 ပစ္စည်းများ

ပစ္စည်းများနဲ့ ပတ်သက်တဲ့ စကားလုံးတွေကို လေ့လာကြရအောင်။

| | | | |
|---|---|---|---|
| 열쇠<br>သော့ | 가족사진<br>မိသားစုဓာတ်ပုံ | 가방<br>အိတ် | 지갑<br>ပိုက်ဆံအိတ် |
| 여권<br>နိုင်ငံကူးလက်မှတ် | 우산<br>ထီး | 거울<br>မှန် | 화장품<br>အလှကုန် |
| 빗<br>ခေါင်းဘီး | 헤어드라이어<br>လေမှုတ်စက် | 베개<br>ခေါင်းအုံး | 이불<br>စောင် |



လေ့လာထားတဲ့ ဝေါဟာရတွေကို ပြန်စဉ်းစားပြီး အောက်ပါ မေးခွန်းများကို ဖြေကြည့်ပါ။

1. 그림을 보고 알맞은 단어를 연결하세요. ပုံကို ကြည့်ပြီး သင့်တော်သော စကားလုံးနှင့် ချိတ်ဆက်ပေးပါ။




정답 ①㉢ ②㉡ ③㉣ ④㉠

## 문법 2 သဒ္ဒါ ၂ 이에요/예요




'이에요/예요' သည် ဖြစ်တယ်ဟု အဓိပ္ပါယ်ရသည်။ '이에요/예요' ကို ဝါကျအဆုံးသတ်အဖြစ် သုံးနိုင်သလို မေးခွန်းဝါကျ အဆုံးသတ်အဖြစ်လည်း သုံးနိုင်သည်။ ပုံမှန် သမရိုးကျ စကားပြောတွင် အများဆုံး အသုံးပြုသည်။ '입니다' သည် '이에요' ကို ဗျည်းအသတ်နာမ်နှင့် သုံးပြီး '예요' ကို သရနှင့် ဆုံးလျှင် သုံးသည်။

| 자음 (ဗျည်း) + **이에요** | 모음 (သရ) + **예요** |
| --- | --- |
| 가방**이에요** | 베개**예요** |

- 가: 여기가 어디**예요**? ဒီနေရာက ဘယ်နေရာပါလဲ။ 나: 기숙사**예요**. အဆောင်ပါ။
- 가: 어느 나라 사람**이에요**? ဘာလူမျိုးလဲ။ 나: 미얀마 사람**이에요**. မြန်မာလူမျိုးပါ။



### 비교해 보세요 နှိုင်းယှဉ်ကြည့်ပါ။

**✓ '이에요/예요' နှင့် '입니다'**

'이에요/예요' သည် ရင်းရင်းနှီးနှီး သက်တောင့်သက်သာ စကားပြောနိုင်သည့် အခြေအနေတွင် သုံးသည်။ '입니다' သည် အစည်းအဝေး သို့မဟုတ် စာတမ်းဖတ်ပွဲ စသော အခမ်းအနားနေရာများတွင် ယဉ်ကျေးမှုအရ သုံးနှုန်းသည်။

- 저는 이민수**예요**. ကျွန်တော် အီမင်းဆုပါ။
- 저는 이영진**이에요**. ကျွန်မ အီယောင်းဂျင်းပါ။
- 저는 이민수**입니다**. ကျွန်တော် အီမင်းဆု ဖြစ်ပါတယ်။
- 저는 이영진**입니다**. ကျွန်မ အီယောင်းဂျင်း ဖြစ်ပါတယ်။



'이에요/예요' နဲ့ ပတ်သက်ပြီး နားလည်ပြီလား။ ဒါဆို အောက်က ဝါကျများကို ဥပမာအတိုင်း ဖြည့်ကြည့်ပါ။

2. 〈보기〉처럼 '이에요/예요'를 사용해서 대화를 완성하세요. ဝါကျများကို '이에요/예요' သုံး၍ ဖြည့် ကြည့်ပါ။

**보기**




가: 이게 뭐예요? ဒါက ဘာလဲ။
나: <u>화장품이에요.</u> အလှပြင်ပစ္စည်းပါ။

1)  가: 이게 뭐예요?
나: ____________________.

2) 가: 이게 뭐예요?
나: ____________________.

3)  가: 저게 뭐예요?
나: ____________________.

4) 가: 저게 뭐예요?
나: ____________________.

**정답** 1) 여권이에요 2) 지갑이에요 3) 열쇠예요 4) 베개예요



### 유용한 표현 အသုံးဝင်သော အသုံးအနှုန်းများ

**잘 부탁드립니다. လိုအပ်တာ ရှိရင် ကူညီပါ။**

가: 안녕하세요? 처음 뵙겠습니다. မင်္ဂလာပါ။ တွေ့ရတာ ဝမ်းသာပါတယ်။
나: 안녕하세요? **잘 부탁드립니다.** မင်္ဂလာပါ။ **လိုအပ်တာ ရှိရင် ကူညီပါ။**



## 활동 အသုံးချသင်ခန်းစာများ

<보기>처럼 친구와 이야기해 보세요. ဥပမာအတိုင်း သူငယ်ချင်းနဲ့ ပြောကြည့်ပါ။

보기

가: 여기가 어디예요? ဒါ ဘယ်နေရာလဲ။
나: 교실이에요. စာသင်ခန်းပါ။
가: 이게 뭐예요? ဒီဟာ ဘာလဲ။
나: 컴퓨터예요. ကွန်ပျူတာပါ။

(1)



(2)





ပုံမှာ စာသင်ခန်းနဲ့ အိပ်ခန်းကို တွေ့ရမှာပါ။ ပုံကို ကြည့်ပြီး အောက်ပါ မေးခွန်းများကို ဖြေကြည့်ပါ။



### 퀴즈 ဉာဏ်စမ်းမေးခွန်း

✚ 알맞은 말에 ✓하세요. မှန်သော အဖြေတွင် ✓ ခြစ်ပေးပါ။



☐ 시계예요.
☐ 텔레비전이에요.



☐ 책상이에요.
☐ 침대예요.

정답 1. 시계예요. 2. 침대예요.



## 문화 ယဉ်ကျေးမှု

# 한국의 좌식 문화 ကိုရီးယား၏ ကြမ်းခင်းပေါ် ထိုင်သော ယဉ်ကျေးမှု

한국은 바닥에 앉아서 생활하는 좌식 문화가 발달했습니다. 그래서 한국 사람들은 대부분 집에서 신발을 벗고 생활합니다. 그리고 신발을 벗고 들어가서 식사를 하는 식당도 있습니다.

ကိုရီးယားနိုင်ငံတွင် ကြမ်းပြင်ပေါ် ထိုင်သော ယဉ်ကျေးမှုဓလေ့ ရှိပါသည်။ ထို့ကြောင့် ကိုရီးယားလူမျိုး အများစုသည် အိမ်တွင် ဖိနပ်ချွတ်ပြီး နေလေ့ရှိပါသည်။ ထို့ပြင် ဖိနပ်ချွတ်ပြီး ဝင်ရောက်စားသောက်ရသော စားသောက်ဆိုင်များလည်း ရှိပါသည်။



### 생활필수품(세면도구) လူနေမှုအသုံးအဆောင်ပစ္စည်းများ (ရေချိုးခန်းသုံးပစ္စည်း)



린스 ဆံပင်ပျော့ဆေး　　샴푸 ခေါင်းလျှော်ရည်　　비누 ဆပ်ပြာ
칫솔 သွားတိုက်ဆေး　　치약 သွားတိုက်ဆေး　　수건 မျက်နှာသုတ်ပုဝါ
면도기 အမွေးရိတ်ဓား　　휴지 အိမ်သာသုံးစက္ကူ　　컵 ခွက်



မေးခွန်း ၁နဲ့ ၂မှာ နေရာနဲ့ ပတ်သက်သော ဝေါဟာရများကို ရွေးချယ်ပေးရမှာ ဖြစ်ပြီး မေးခွန်း ၃မှာ ပစ္စည်းများအမည်နဲ့ ပတ်သက်တာကို ရွေးပေးရမှာပါ။ သေသေချာချာ နားထောင်ပြီး မှန်ကန်တဲ့ အဖြေကို ရွေးပေးပါ။

[1~3] 들은 것을 고르십시오. နားထောင်ပြီး အဖြေ ရွေးပေးပါ။

Track 27

1. ① 여기 ② 저기 ③ 어디 ④ 거기

2. ① 회사 ② 식당 ③ 시장 ④ 마트

3. ① 열쇠 ② 가방 ③ 우산 ④ 베개



အောက်ပါ မေးခွန်းများမှ ပုံများကို သေချာ ကြည့်ပြီး မှန်ကန်သော စကားလုံးကို ရွေးချယ်ပါ။ မေးခွန်းများ နားမထောင်ခင် ပုံကို သေချာကြည့်ပါ။




[4~5] 다음 그림을 보고 알맞은 대답을 고르십시오.
ပုံကို ကြည့်ပြီး သင့်တော်သော အဖြေကို ရွေးပေးပါ။

4. ① ② ③ ④

5. ① ② ③ ④

### 듣기 대본 စာသား

1. 여: 여기 ဒီမှာ
2. 남: 시장 ဈေး
3. 여: 베개 ခေါင်းအုံး
4. ① 여: 사무실 ရုံး ② 여: 세탁소 အဝတ်လျှော်ဆိုင်
   ③ 여: 화장실 အိမ်သာ ④ 여: 기숙사 အဆောင်
5. ① 남: 지갑 ပိုက်ဆံအိတ် ② 남: 여권 နိုင်ငံကူးလက်မှတ်
   ③ 남: 이불 စောင် ④ 남: 거울 မှန်

정답 1. ① 2. ③ 3. ④ 4. ③ 5. ②



## 확장 연습 ထပ်ဆောင်း လေ့ကျင့်ရန် L-07

1. 들은 것을 고르십시오. မေးခွန်းကို နားထောင်ပြီး အဖြေကို ရွေးပါ။

   ① 사진 ② 화장품 ③ 거울 ④ 여권

2. 질문을 듣고 알맞은 대답을 고르십시오.
   မေးခွန်းနှင့် သင့်တော်သော အဖြေကို ရွေးပေးပါ။



   ① 지갑이에요. ② 거울이에요.
   ③ 네, 지갑이에요. ④ 아니요, 거울이에요.

### 확장 연습 듣기 대본 ထပ်ဆောင်း လေ့ကျင့်ရန် စာသား

1. 남: 화장품 အလှကုန်
2. 남: 이게 뭐예요? ဒါ ဘာလဲ။

정답 1. ② 2. ①



## 유용한 표현 အသုံးဝင်သော အသုံးအနှုန်းများ

**안부 전해 주세요. နှုတ်ဆက်တယ်လို့ ပြောပေးပါ။**

가: 오랜만에 수피카 씨를 만나기로 했어요. ဆူဖီခါနဲ့ မတွေ့တာကြာလို့ တွေ့ဖို့ ပြောထားတယ်။
나: **안부 전해 주세요. ငါက နှုတ်ဆက်တယ်လို့ ပြောပေးပါ။**



## EPS-TOPIK 읽기 EPS-TOPIK အဖတ် စာမေးပွဲ



မေးခွန်း ၁နဲ့ ၂က ပုံကို ကြည့်ပြီး မှန်ကန်တဲ့ အဖြေကို ရွေးပေးရမှာ ဖြစ်ပြီး မေးခွန်း ၃မှာလည်း အဖြေမှန်ကို ရွေးပေးရမှာပါ။ ပုံနဲ့ ကိုက်ညီသော အဖြေမှန်ကို ရွေးပေးပါ။

[1~3] 다음 그림을 보고 맞는 단어를 고르십시오.
ပုံကို ကြည့်ပြီး သင့်တော်သော စကားလုံးကို ရွေးပေးပါ။

1. 

① 집 ② 시장
③ 회사 ④ 마트

2. 

① 미용실 ② 편의점
③ 세탁소 ④ 슈퍼마켓

3. 

① 이불 ② 우산
③ 열쇠 ④ 가방



မေးခွန်းကို နားထောင်ပြီး အောက်ပါ မေးခွန်းများကို ဖြေပါ။ လေ့လာသင်ယူထားသော စကားလုံးများကို ပြန်စဉ်းစားပြီး ဖြေကြည့်ပါ။

[4~5] 빈칸에 들어갈 가장 알맞은 것을 고르십시오.
ကွက်လပ်တွင် အသင့်တော်ဆုံး စကားလုံးကို ရွေးဖြည့်ပေးပါ။

4.
가: 여기가 ______________입니까? ဒါ ဘယ်နေရာလဲ။
나: 사무실입니다. ရုံးပါ။

① 언제 ② 누구 ③ 어디 ④ 무슨

5.
가: 저게 ______________예요? ဟိုဟာက ဘာလဲ။
나: 가족사진이에요. မိသားစုဓာတ်ပုံပါ။

① 왜 ② 뭐 ③ 장소 ④ 나라

정답 1. ① 2. ③ 3. ② 4. ③ 5. ②



## 확장 연습 ထပ်ဆောင်း လေ့ကျင့်ရန်

[1~3] 다음 그림을 보고 알맞은 단어를 고르십시오.
အောက်ပါ ပုံကို ကြည့်ပြီး သင့်တော်သော ဝေါဟာရကို ရွေးပေးပါ။

1.
① 마트예요. ② 세탁소예요.
③ 식당이에요. ④ 사무실이에요.

2.




① 회사예요. ② 기숙사예요.
③ 시장이에요. ④ 사무실이에요.

3.


① 열쇠예요. ② 베개예요.
③ 가방이에요. ④ 여권이에요.

[4~5] 빈칸에 들어갈 가장 알맞은 것을 고르십시오.
ကွက်လပ်တွင် အသင့်တော်ဆုံး အဖြေကို ရွေးထည့်ပေးပါ။

4.
가: ____________________?
나: 기숙사예요. အဆောင်ပါ။

① 저기가 어디예요 ② 이름이 뭐예요
③ 어디가 기숙사예요 ④ 어느 나라 사람이에요

5.
가: 이게 ____________예요? ဒီဟာက ဘာလဲ။
나: 가방이에요. အိတ်ပါ။

① 뭐 ② 어디
③ 저기 ④ 어느

6.
저는 매달 월급을 받으면 ____________에 가서 적금을 넣습니다. 그리고 고향에 있는 가족에게 돈을 보내기도 합니다.
ကျွန်တော် လစဉ် လစာရရင် ဘဏ်ကို သွားပြီး ငွေစုပါတယ်။ ပြီးတော့ မွေးရပ်မြေမှာ ရှိတဲ့ မိသားစုဆီကို ငွေလွှဲပေးပါတယ်။

① 병원 ② 서점
③ 공원 ④ 은행

정답 1. ③ 2. ③ 3. ④ 4. ① 5. ① 6. ④



# 08 12시 30분에 점심을 먹어요

၁၂ခွဲမှာ နေ့လယ်စာ စားတယ်။

**학습 안내**
သင်ရိုး အညွှန်း

- □ **သင်ခန်းစာ ရည်ရွယ်ချက်** နေ့စဉ် လှုပ်ရှားမှု၊ အချိန်နှင့် ပတ်သက်သော အမေးအဖြေ
- □ **သဒ္ဒါ** -아요/어요, 에(အချိန်)
- □ **ဝေါဟာရ** နေ့စဉ်ဘဝ၊ အချိန်နှင့် ပတ်သက်သော အသုံးအနှုန်းများ
- □ **သတင်းအချက်အလက်နှင့် ယဉ်ကျေးမှု** အလုပ်ကို အချိန်မှန် သွားရအောင်။



## 대화 1 စကားပြော ၁






ဆုရှုနဲ့ ထူအန်းတို့ စကားပြောနေကြပါတယ်။ သူတို့နှစ်ယောက် အခု လုပ်နေတာတွေကို အပြန်အလှန် မေးနေကြတာပါ။ အရင်ဆုံး နှစ်ခေါက် နားထောင်ပြီး လိုက်ပြောကြည့်ရအောင်။

수루 투안 씨, 지금 뭐 해요?
ထူအန်း အခု ဘာလုပ်နေလဲ။

투안 텔레비전을 봐요.
တီဗီ ကြည့်နေတယ်။
수루 씨는 뭐 해요?
ဆုရှုရော ဘာလုပ်နေလဲ။

수루 저는 지금 요리해요.
ထမင်းဟင်း ချက်နေတယ်။

**씨 ရှီ**
မိသားစုနာမည် သို့မဟုတ် နာမည် နောက်တွင် သုံးပြီး ထိုသူကို လေးစားမှုဖြင့် ခေါ်ဆိုသော အသုံးအနှုန်း
- 이분은 마웅 씨예요. 미얀마 사람이에요.
  ဒီပုဂ္ဂိုလ်ကတော့ မောင်မောင် ဖြစ်ပါတယ်။ မြန်မာလူမျိုးပါ။
- 민수 씨, 지금 뭐 해요?
  မင်းဆုရှီ၊ အခု ဘာလုပ်နေလဲ။

**을/를 ကို**
နာမ်နှင့် အတူတကွ သုံးသည်။ ကြိယာရှေ့ တွင် ရှိပြီး စာကြောင်း၏ ရည်ရွယ်ချက်ကို ဖော်ပြပေးသည်။ ဗျည်းအက္ခရာဖြင့် ဆုံးသော နာမ်ကို '을'၊ သရဖြင့် ဆုံးသော နာမ်ကို '를' ဖြင့်အတူတကွ အသုံးပြုသည်။ '하다' ကြိယာတွင် '을/를' ကို ဖယ်၍ အသုံးပြုနိုင်သည်။
- 저는 점심을 먹어요.
  ကျွန်မ နေ့လယ်စာကို စားနေတယ်။
- 수루 씨는 요리를 해요/요리해요.
  ဆုရှုရှီက ဟင်းကို ချက်နေတယ်၊ ဟင်းချက်တယ်။

အသေအချာ နားထောင်ပြီး လိုက်ဆိုပြီးပြီလား။ မေးခွန်းကို ဖြေကြည့်ပါ။

1. 투안 씨는 지금 뭐 해요? ထူအန်း ဘာလုပ်နေလဲ။
2. 수루 씨는 지금 뭐 해요? ဆုရှု ဘာလုပ်နေလဲ။

정답 1. 텔레비전을 봐요. 2. 요리해요.



## 어휘 1 ဝေါဟာရ ၁ — 일과 နေ့စဉ်ဘဝ



ကိုရီးယား ကြိယာအသုံးအနှုန်းများကို အောက်မှာ ဖော်ပြထားပါတယ်။ ဘယ်လို စကားလုံး တွေလဲဆိုတာ မသိချင်ဘူးလား။



텔레비전을 보다
တီဗီကြည့်သည်။



장을 보다
ဈေးဝယ်ထွက်သည်။



일어나다
အိပ်ရာထသည်။



자다
အိပ်သည်။



쉬다
အနားယူသည်။



씻다
ဆေးသည်။



커피를 마시다
ကော်ဖီသောက်သည်။



아침/점심/저녁을 먹다
မနက်စာ၊ နေ့လယ်စာ၊ ညစာ



일하다
အလုပ်လုပ်သည်။



요리하다
ထမင်းဟင်းချက်သည်။



운동하다
အားကစား လုပ်သည်။



전화하다
ဖုန်းဆက်သည်။



회사에 가다
အလုပ်သွားသည်။



집에 오다
အိမ်ပြန်သည်။



အထက်မှ ဝေါဟာရများကို မကြည့်ဘဲ အောက်ပါ မေးခွန်းများကို ဖြေပါ။

1. 그림을 보고 알맞은 단어를 연결하세요. ပုံကို ကြည့်ပြီး သင့်တော်သော စကားလုံးနှင့် ချိတ်ဆက်ပေးပါ။

① 

② 

③ 


④ 

㉠ 자다　㉡ 운동하다　㉢ 요리하다　㉣ 점심을 먹다

정답 ①㉡ ②㉢ ③㉣ ④㉠

## 문법 1 သဒ္ဒါ ၁ -아요/어요

 G08-1

'-아요/아요' မှာ ပုံမှန်စကား သို့မဟုတ် ယဉ်ကျေးသော အသုံးအနှုန်းအဖြစ် ကြိယာ သို့မဟုတ် ဂုဏ်ရည်ပြကြိယာ တွဲသုံးသော ဝါကျအဆုံးသတ်စကားလုံးဖြစ်ပါသည်။ 'ㅏ' သို့မဟုတ် 'ㅗ' နှင့် အဆုံးသတ်လျှင် '-아요' သုံး၍ အခြားသရဖြင့် အဆုံးသတ်လျှင် '-어요' ကို သုံးသည်။ '하다' ဖြင့်အဆုံးသတ်သော ကြိယာ သို့မဟုတ် နာမဝိသေသန ကိုတော့ '해요' အဖြစ် ပြောင်းသုံးသည်။ '-아요/어요?' ကို မေးခွန်းဝါကျတွေမှာလည်း သုံးနိုင်သည်။

| ㅏ, ㅗ → **-아요** | ㅓ, ㅜ, ㅣ စသည်ဖြင့် → **-어요** | 하다 → **해요** |
|---|---|---|
| 가다 → 가요<br>보다 → 봐요 | 먹다 → 먹어요<br>읽다 → 읽어요 | 공부하다 → 공부해요<br>운동하다 → 운동해요 |

- 투안 씨는 커피를 **마셔요**. ထူအန်းက ကော်ဖီသောက်တယ်။
- 저는 지금 점심을 **먹어요**. ကျွန်တော် အခု နေ့လယ်စာ စားတယ်။
- 투안 씨는 텔레비전을 **봐요**. ထူအန်းက တီဗီကြည့်တယ်။
- 아침에 **운동해요**? မနက်ပိုင်းမှာ အားကစား လုပ်သလား။



'-아요/어요' ကို နားလည်ပြီဆိုရင် ဥပမာအတိုင်း ဝါကျတွေကို ဖြည့်ပေးပါ။

2. 그림을 보고 〈보기〉처럼 대화를 완성하세요. ဥပမာအတိုင်း ဝါကျတွေကို ဖြည့်ပေးပါ။

보기


씻다

가: 지금 뭐 해요? အခု ဘာလုပ်နေလဲ။
나: 씻어요. ခြေလက်မျက်နှာ ဆေးကြောနေတယ်။

1) 
텔레비전을 보다

가: 지금 뭐 해요?
나: ______________.

2) 
커피를 마시다

가: 지금 뭐 해요?
나: ______________.

3) 
일하다

가: 지금 뭐 해요?
나: ______________.

4) 
운동하다

가: 지금 뭐 해요?
나: ______________.

정답 1) 텔레비전을 봐요 2) 커피를 마셔요 3) 일해요 4) 운동해요



ထပ်ပြီးတော့ လေ့လာကြစို့။ အောက်ပါ ပုံများကို '-아요/어요' အသုံးပြုပြီး ဖြည့်ပေးပါ။

1. 

가: 지금 뭐 해요?
나: ______________.

2. 

가: 지금 뭐 해요?
나: ______________.

정답 1. 전화해요 2. 장을 봐요



## 대화 2 စကားပြော ၂

Track 29



ရီဟန်နဲ့ ထူအန်းဟာ အလုပ်ခန်းထဲက နာရီကို ကြည့်ပြီး စကားပြောနေကြတယ်။ သူတို့ ဘာတွေ ပြောနေကြလဲ နားထောင်ကြည့်ရအောင်။ အရင်ဆုံး စကားပြောနေတာကို နှစ်ခေါက် နားထောင်ပြီး လိုက်ဆိုကြည့်ပါ။

투안 **지금 몇 시예요?**
အခု ဘယ်နနာရီလဲ။

리한 **11시예요.**
၁၁နာရီပါ။

투안 **몇 시에 점심을 먹어요?**
ဘယ်အချိန် နေ့လယ်စာ စားလဲ။

리한 **12시 30분에 먹어요.**
၁၂ခွဲမှာ နေ့လယ်စာ စားတယ်။

몇 ဘယ်နှ
- 몇 시예요? ဘယ်နနာရီလဲ။
- 몇 시에 회사에 가요? ဘယ်နနာရီမှာ ကုမ္ပဏီကို သွားလဲ။

시, 분 နာရီ၊ မိနစ်
အချိန်ကို ပြောသည့်အခါ အသုံးပြုသည်။
- 지금 12시예요. အခု ၁၂နာရီပါ။
- 6시 30분에 집에 가요. ၆နာရီ မိနစ် ၃၀မှာ အိမ်ကို သွားတယ်။



ရီဟန်နဲ့ ထူအန်းအဖြစ် သရုပ်ဆောင်ပြီး လိုက်ပြောကြည့်ပါ။ ပြီးရင် အောက်ပါ မေးခွန်းကို ဖြေပေးပါ။

1. 지금 몇 시예요? ဘယ်အချိန်လဲ။
2. 리한 씨는 몇 시에 점심을 먹어요? ရီဟန်က ဘယ်အချိန်မှာ နေ့လယ်စာ စားလဲ။

정답 1. 11시예요. 2. 12시 30분에 먹어요.

**Tip ○시 ○분 ○ နာရီ ○ မိနစ်**

| ○시 | | |
|---|---|---|
| 01:00 | 1시 | 한 시 |
| 02:00 | 2시 | 두 시 |
| 03:00 | 3시 | 세 시 |
| 04:00 | 4시 | 네 시 |
| 05:00 | 5시 | 다섯 시 |
| 06:00 | 6시 | 여섯 시 |
| 07:00 | 7시 | 일곱 시 |
| 08:00 | 8시 | 여덟 시 |
| 09:00 | 9시 | 아홉 시 |
| 10:00 | 10시 | 열 시 |
| 11:00 | 11시 | 열한 시 |
| 12:00 | 12시 | 열두 시 |

| ○분 | | |
|---|---|---|
| 00:01 | 1분 | 일 분 |
| 00:02 | 2분 | 이 분 |
| 00:03 | 3분 | 삼 분 |
| 00:04 | 4분 | 사 분 |
| 00:05 | 5분 | 오 분 |
| 00:06 | 6분 | 육 분 |
| 00:07 | 7분 | 칠 분 |
| 00:08 | 8분 | 팔 분 |
| 00:09 | 9분 | 구 분 |
| 00:10 | 10분 | 십 분 |
| 00:20 | 20분 | 이십 분 |
| 00:30 | 30분 | 삼십 분 |
| 00:40 | 40분 | 사십 분 |
| 00:50 | 50분 | 오십 분 |
| ※ 1시간 = 60분(육십 분) | | |



## 어휘 2 စကားပြော ၂ 시간 အချိန်



အချိန်ပြ ဝေါဟာရများကို လေ့လာသင်ယူရအောင်။



지금
အခု



오늘
ဒီနေ့



어제
မနေ့



내일
မနက်ဖြန်




오전
မနက်ခင်း




오후
ညနေခင်း



낮
နေ့



밤
ည



새벽
အရုဏ်




아침
မနက်




점심
နေ့လယ်




저녁
ညနေ



လေ့လာထားတဲ့ ဝေါဟာရတွေကို စဉ်းစားပြီး အောက်ပါ မေးခွန်းများကို ဖြေပေးပါ။

1. 〈보기〉처럼 시계를 보고 문장이 맞으면 O 틀리면 X로 표시하세요.
မှန်လျှင် O မှားလျှင် X လုပ်ပါ။

보기




지금은 밤입니다. ( X ) အခု ညပါ။

1) 7:00a.m 지금은 아침입니다. (　　)

2) 

지금은 오후입니다. (　　)

3) 

지금은 한 시입니다. (　　)

4) 

지금은 오전 열 시입니다. (　　)

정답 1) O 2) X 3) O 4) X

## 문법 2 သဒ္ဒါ ၂ 에


G08-2

'에' ကို အချိန်ပြစကားလုံးနောက် သို့မဟုတ် နေရာပြစကားလုံးနောက်တွင် အသုံးပြုသည်။ နာမ်သည် ဗျည်းဖြင့် အဆုံးသတ်သည်ဖြစ်စေ သရဖြင့် အဆုံးသတ်သည်ဖြစ်စေ '에' ဟုသာ သုံးသည်။

- 가: 몇 시**에** 점심을 먹어요? ဘယ်နနာရီ နေ့လယ်စာ စားပါသလဲ။
  나: 12시**에** 먹어요. ၁၂နာရီမှာ စားပါတယ်။
- 가: 언제 운동해요? အားကစား ဘယ်အချိန် လုပ်လဲ။
  나: 저녁**에** 운동해요. ညနေဖက် အားကစားလုပ်တယ်။

**Tip** **'언제'** '언제' ကိုတော့ အချိန်၊ နေ့ရက်၊ နေ့စွဲစသည် မေးသည့်နေရာမှာသုံးပါတယ်။



'에' နဲ့ ပတ်သက်ပြီး နားလည်ပြီဆိုရင် အောက်ပါ ဝါကျများကို ဥပမာအတိုင်း ဖြည့်ပေးပါ။

2. 그림을 보고 〈보기〉처럼 대화를 완성하세요.
   ပုံကို ကြည့်ပြီး သင့်တော်သော စကားလုံးကို ရွေးပေးပါ။

보기



가: 언제 운동해요? ဘယ်အချိန် အားကစားလုပ်လဲ။
나: 아침에 운동해요. မနက်ခင်းမှာ အားကစားလုပ်တယ်။

1) 가: 언제 운동해요?
   나: ______________________.

2) 가: 언제 커피를 마셔요?
   나: ______________________.

3) 7:00p.m
   가: 몇 시에 저녁을 먹어요?
   나: ______________________.

4) 11:00p.m
   가: 몇 시에 자요?
   나: ______________________.

정답 1) 저녁에 운동해요 2) 오후에 커피를 마셔요 3) 7시에 저녁을 먹어요 4) 11시에 자요



## 활동 အသုံးချသင်ခန်းစာများ

몇 시에 무엇을 해요? 〈보기〉처럼 이야기해 보세요.
ဘယ်နနာရီမှာ ဘာလုပ်လဲ။ ဥပမာအတိုင်း ဖြေဆိုကြည့်ပါ။






가: 몇 시에 일어나요? ဘယ်အချိန်မှာ အိပ်ရာထလဲ။
나: 7시에 일어나요. ၇နာရီမှာ အိပ်ရာထတယ်။

| | 일과 နေ့စဉ် လုပ်ရှားမှု | 시간 အချိန် |
|---|---|---|
| 1 | 일어나다 အိပ်ရာထသည်။ | |
| 2 | 아침을 먹다 မနက်စာ စားသည်။ | |
| 3 | 점심을 먹다 နေ့လည်စာ စားသည်။ | |
| 4 | 저녁을 먹다 ညစာ စားသည်။ | |
| 5 | 자다 အိပ်သည်။ | |






12:40p.m












## 문화 ယဉ်ကျေးမှု

# 출근 시간을 지킵시다

### အချိန်မှန် အလုပ်တက်ကြစို့။

출근 시간 10분 전에는 직장에 도착해야 합니다. 출근 시간이 9시라면 8시 50분쯤 도착해야 합니다. 그리고 일할 준비를 하는 것이 좋습니다.

အလုပ်ချိန် မတိုင်ခင် ဆယ်မိနစ်အလိုတွင် အလုပ်သို့ ရောက်ရှိရမည် ဖြစ်သည်။ အလုပ်စချိန်မနက် ၉ နာရီဆိုပါက ၈နာရီ မိနစ် ၅၀ ဆယ်တွင် အလုပ်သို့ ရောက်ရပါမည်။ ထို့ပြင် အလုပ်အတွက် ကြိုတင်ပြင်ဆင်မှုများလည်း ပြုလုပ်ထားသင့်သည်။



대부분의 회사원들은 9시에 일을 시작합니다. 점심은 보통 12시에서 1시 사이에 먹습니다. 퇴근은 대부분 6시에 하지만, 야근을 하는 경우도 있습니다.

ရုံးဝန်ထမ်း အများစုသည် ၉ နာရီတွင် အလုပ် စတင်လုပ်ပါသည်။ နေ့လယ်စာကို ပုံမှန် နေ့လယ် ၁၂နာရီမှ ၁နာရီကြား စားပါသည်။ ရုံးဆင်းချိန်မှာ အများစု ၆နာရီ ဖြစ်သော်လည်း ညဆိုင်း ဆင်းရသော အခါလည်း ရှိတတ်ပါသည်။

## 내용 확인 ဉာဏ်စမ်းမေးခွန်း

✚ 빈칸에 알맞은 말을 쓰세요. ကွက်လပ်တွင် သင့်တော်သော စကားလုံးကို ဖြည့်ပေးပါ။

(1) 회사에 일하러 가는 것을 ☐☐이라고 합니다.
ကုမ္ပဏီသို့ အလုပ်လုပ်ရန် သွားခြင်းကို အလုပ်တက်ခြင်း

(2) 회사에서 일이 끝나고 집으로 돌아가는 것을 ☐☐이라고 합니다.
အလုပ်ပြီး၍ အိမ်သို့ ပြန်လာခြင်းကို အလုပ်ဆင်းခြင်းဟု ခေါ်သည်။

(3) 회사에 일이 많으면 늦게까지 ☐☐을 하기도 합니다.
ကုမ္ပဏီတွင် အလုပ်များပါက နောက်ကျတဲ့အထိ ညအချိန်ပိုဆင်းရပါသည်။

정답 (1) 출근 (2) 퇴근 (3) 야근



မေးခွန်း ၁မှ မေးခွန်း ၃အထိမှာ အချိန်နဲ့ ပတ်သက်သော စကားလုံးများကို နားထောင်ပြီး ရွေးပေးရမှာ ဖြစ်ပါတယ်။ သေချာစွာ နားထောင်ပြီး အဖြေမှန်ကို ရွေးပေးပါ။

[1~3] 들은 것을 고르십시오. နားထောင်ပြီး အဖြေ ရွေးပေးပါ။




1. ① 06:00 ② 07:00 ③ 08:00 ④ 09:00

2. ① 10:40 ② 11:30 ③ 12:40 ④ 01:30

3. ① 03:15 a.m. ② 03:25 p.m. ③ 04:15 p.m. ④ 04:25 p.m.



အောက်ပါမေးခွန်းများမှ မေးခွန်းကို သေချာစွာ နားထောင်ပြီး သင့်တော်သော စကားလုံးကို ရွေးပေးရမှာ ဖြစ်ပါတယ်။

[4~5] 질문을 듣고 알맞은 대답을 고르십시오.
အသေအချာ နားထောင်ပြီး သင့်တော်သော အဖြေကို ရွေးပေးပါ။

4. ① 씻어요. ② 회사예요.
③ 오늘이에요. ④ 오전 10시예요.

5. ① 오늘 먹어요. ② 많이 먹어요.
③ 아침을 먹어요. ④ 12시에 먹어요.

### 듣기 대본 စာသား

1. 여: 아홉 시 ၉ နာရီပါ။
2. 남: 열한 시 삼십 분 ၁၁နာရီ ခွဲပါ။
3. 여: 오후 네 시 십오 분 ညနေ ၄နာရီ ၁၅မိနစ်
4. 남: 지금 뭐 해요? အခု ဘာလုပ်နေလဲ။
5. 여: 몇 시에 점심을 먹어요? နေ့လယ်စာ ဘယ်အချိန် စားလဲ။

정답 1. ④ 2. ② 3. ③ 4. ① 5. ④



## 확장 연습 ထပ်ဆောင်း လေ့ကျင့်ရန် L-08

1. 들은 것을 고르십시오.
   မေးခွန်းကို နားထောင်ပြီး အဖြေကို ရွေးပါ။

   ① 7:00 ② 8:00 ③ 9:00 ④ 10:00

2. 질문을 듣고 알맞은 대답을 고르십시오.
   မေးခွန်းနှင့် သင့်တော်သော အဖြေကို ရွေးပေးပါ။

   ① 운동해요. ② 저녁이에요.
   ③ 네, 7시에 해요. ④ 아니요, 안 해요.

### 확장 연습 듣기 대본 ထပ်ဆောင်း လေ့ကျင့်ရန် စာသား

1. 남: 여덟 시예요. ရှစ်နာရီပါ။
2. 남: 저녁에 뭐 해요? ညနေ ဘာလုပ်လဲ။

정답 1. ② 2. ①

## 유용한 표현 အသုံးဝင်သော အသုံးအနှုန်းများ

**통화 괜찮으세요? ဖုန်းပြောလို့ရလား။**

가: 여보세요? 과장님, 지금 **통화 괜찮으세요?** ဟလို၊ ဆရာ။ အခု **ဖုန်းပြောလို့ရလား။**
나: 네, 괜찮아요. ဟုတ်ကဲ့။ ရပါတယ်။



## EPS-TOPIK 읽기 EPS-TOPIK အဖတ် စာမေးပွဲ



မေးခွန်း ၁မှ ၃အထိ မှန်ကန်သော ကြိယာကို ရွေးပေးပါ။ ပုံနဲ့ ကိုက်ညီသော စကားလုံးကို ရွေးချယ်ပေးပါ။

**[1~3] 다음 그림을 보고 맞는 문장을 고르십시오.**
ပုံကို ကြည့်ပြီး သင့်တော်သော ဝါကျကို ရွေးပေးပါ။

1. 

① 자요. ② 와요.
③ 일어나요. ④ 운동해요.

2. 

① 쉬어요. ② 전화해요.
③ 회사에 가요. ④ 아침을 먹어요.

3.  

① 장을 봐요. ② 커피를 마셔요.
③ 저녁을 먹어요. ④ 텔레비전을 봐요.



အောက်ပါ မေးခွန်းများမှာ အချိန်နဲ့ ပတ်သက်တာတွေပါ။ လေ့လာသင်ယူခဲ့တာတွေကို သေချာ ပြန်စဉ်းစားပြီး ဖြေဆိုကြည့်ပါ။

**[4~5] 빈칸에 들어갈 가장 알맞은 것을 고르십시오.**
ကွက်လပ်တွင် အသင့်တော်ဆုံး စကားလုံးကို ရွေးဖြည့်ပေးပါ။

4.
가: 지금 ________ 시예요? အခု ဘယ်နနာရီလဲ။
나: 오후 두 시예요. နေ့လယ် ၂နာရီပါ။

① 몇 ② 왜 ③ 누구 ④ 무슨

5.
가: ________ 운동해요? ဘယ်အချိန်မှာ လေ့ကျင့်ခန်း လုပ်လဲ။
나: 아침에 운동해요. မနက်ပိုင်းမှာ လုပ်ပါတယ်။

① 어디 ② 언제 ③ 무엇 ④ 시간

정답 1. ① 2. ③ 3. ④ 4. ① 5. ②



## 대화 2 စကားပြော ၂

Track 44



ထူအန်းနဲ့ ဆူရူတို့ ချိန်းဆိုမှုလုပ်နေတယ်။ အရင်ဆုံး သူတို့ ပြောတာကို နှစ်ခေါက် နားထောင်ပြီး လိုက်ပြောကြည့်ရအောင်။

투안 우리 내일 어디에서 만날까요?
ငါတို့ မနက်ဖြန် ဘယ်နေရာမှာ တွေ့မလဲ။

수루 시청 앞 어때요?
မြို့တော်ခန်းမရှေ့ ဘယ်လိုလဲ။

투안 좋아요. 그러면 여섯 시쯤 만날까요?
ကောင်းတယ်။ အဲ့ဒါဆို ၆နာရီလောက်တွေ့မလား။

수루 여섯 시는 좀 빨라요.
၆နာရီတော့ နည်းနည်း စောတယ်။
일곱 시에 괜찮아요?
၇နာရီ အဆင်ပြေလား။

투안 네, 괜찮아요. ဟုတ်ကဲ့၊ အဆင်ပြေတယ်။
그럼 내일 시청 앞에서 일곱 시에 봐요.
ဒါဆို မနက်ဖြန် မြို့တော်ခန်းမ ရှေ့မှာ ၇နာရီ တွေ့မယ်။

> **어때요? ဘယ်လိုလဲ။**
> တစ်စုံတစ်ယောက်ရဲ့အခြေအနေ၊ အကြံဉာဏ်ကိုမေးတဲ့အခါသုံးတယ်။
> · 이 구두 어때요?
> ဒီ ရှူးဖိနပ် ဘယ်လိုလဲ။
> · 내일 여섯 시 어때요?
> မနက်ဖြန် ၆နာရီ ဘယ်လိုလဲ။

> **N쯤 N လောက်**
> N နဲ့ တွဲသုံးပြီး (လောက်)ဆိုတဲ့ အဓိပ္ပါယ် ရှိသည်။
> · 주말쯤 만나서 같이 영화 볼까요?
> စနေတနင်္ဂနွေလောက် တွေ့ပြီး အတူ ရုပ်ရှင် ကြည့်ကြမလား။
> · 12월 말쯤 고향으로 돌아가려고 해요.
> ၁၂ လပိုင်း အကုန်လောက် ဇာတိကို ပြန်မလို့ပါ။



သေချာနားထောင်ပြီး လိုက်ဆိုပြီးရင် အောက်က မေးခွန်းတွေ ဖြေကြည့်ကြရအောင်။

1. 투안 씨하고 수루 씨는 어디에서 만나요? ထူအန်းနဲ့ ဆူရူတို့ ဘယ်မှာ တွေ့မှာလဲ။
2. 두 사람은 몇 시에 만나요? ၂ယောက်က ဘယ်နနာရီမှာ တွေ့မှာလဲ။

정답 1. 시청 앞에서 만나요. 2. 일곱 시에 만나요.

### Tip 관공서 အစိုးရရုံးဌာန


도청
ပြည်နယ်ရုံး


시청
မြို့တော်ခန်းမ/မြို့တော်ဝန်ရုံး


구청
မြို့နယ်ရုံး


경찰서
ရဲစခန်း


소방서
မီးသတ်ဌာန


출입국관리사무소
လူဝင်မှုကြီးကြပ်ရေးရုံး


보건소
ကျန်းမာရေးရုံး


주민센터
ရပ်ကွက်ရုံး




# 가족이 몇 명이에요?

မိသားစု ဘယ်နှယောက် ရှိလဲ။

**학습 안내**
သင်ရိုး အညွှန်း

- □ **သင်ခန်းစာ ရည်ရွယ်ချက်** မိသားစုအကြောင်း အမေးအဖြေ
- □ **သဒ္ဒါ** 하고, 에(နေရာ)
- □ **ဝေါဟာရ** မိသားစု၊ ရုပ်သွင်ပြင်လက္ခဏာ၊ အကျင့်စရိုက်
- □ **သတင်းအချက်အလက်နှင့် ယဉ်ကျေးမှု** ယဉ်ကျေးသော အသုံးအနှုန်းများနှင့် ပုံမှန်စကားများ



## 대화 1 စကားပြော ၁






အောက်တွင် ထူအန်းနဲ့ ရီဟန် စကားပြောနေတာကို ဖော်ပြထားပါတယ်။ သူတို့ဟာ မိသားစုဝင် ဘယ်နှယောက် ရှိလဲဆိုတာကို အပြန်အလှန် မေးနေကြတာ ဖြစ်တယ်။ အရင်ဆုံး နှစ်ခေါက် နားထောင်ပြီး လိုက်ဆိုကြည့်ရအောင်။

리한　**투안 씨는 가족이 몇 명이에요?**
ထူအန်းမှာ မိသားစုဝင် ဘယ်နှယောက် ရှိလဲ။

투안　**어머니하고 형하고 저, 세 명이에요. 리한 씨는 가족이 몇 명이에요?**
ကျွန်တော့်မှာ မိသားစုဝင် သုံးယောက် ရှိပါတယ်။ အမေ၊ အစ်ကိုနဲ့ ကျွန်တော်ပါ။ ရီဟန်ရော ဘယ်နှယောက် ရှိလဲ။

리한　**네 명이에요. 저는 아버지하고 어머니하고 여동생이 있어요.**
လေးယောက်ပါ။ ကျွန်တော့်မှာ အဖေ ပြီးတော့ အမေနဲ့ ညီမ ရှိပါတယ်။

> **명 ယောက်**
> လူဦးရေ အရေအတွက်ကို ပြသည့် အသုံးအနှုန်း
> · 우리 가족은 세 명이에요.
> ကျွန်တော်တို့ မိသားစုက သုံးယောက်ပါ။

> **있다 ရှိသည်။**
> **있다(↔ 없다) ရှိသည်။ (↔ မရှိဘူး)**
> ပိုင်ဆိုင်မှုကို ပြသသည့် အဓိပ္ပါယ်ဖြင့် '(နာမ်)이/가 있다' ဟု အသုံးပြုသည်။ ဗျည်းဖြင့် အဆုံးသတ်သော နာမ် နောက်တွင် '이'၊ သရဖြင့် အဆုံးသတ်သော နာမ် နောက်တွင် '가' ကို သုံးသည်။
> · 저는 우산이 있어요.
> ကျွန်မမှာ ထီး ရှိတယ်။
> · 사무실 열쇠가 있어요?
> ရုံးခန်းသော့ ရှိလား။



သေချာ နားထောင်ပြီး လိုက်ဆိုကြည့်ပြီးပြီလား။ ဒါဆို အောက်မှ မေးခွန်းများကို ဖြေကြည့်ပါ။

1. 투안 씨 가족이 몇 명이에요? ထူအန်းမှာ မိသားစု ဘယ်နှယောက် ရှိလဲ။
2. 리한 씨는 동생이 있어요? ရီဟန်မှာ ညီမ ရှိလား။

정답 1. 세 명이에요. 2. 네, 여동생이 있어요.





## 어휘 1 ဝေါဟာရ ၁ 가족 မိသားစု



ကိုရီးယားတွင် မိသားစု အခေါ်အဝေါ်များမှာ ယောကျ်ားလေးနဲ့ မိန်းကလေးပေါ် မူတည်ပြီး ပြောင်းလဲပါတယ်။





**있다** ရှိသည်
**없다** မရှိသည်

저는 여동생이 **있어요**. ကျွန်တော့်မှာ ညီမ ရှိပါတယ်။
저는 여동생이 **없어요**. 누나가 **있어요**.
ကျွန်တော့်မှာ ညီမ မရှိပါဘူး။ အစ်မ ရှိပါတယ်။







**많다** များသည်
**살다** နေသည်

- 저는 가족이 **많아요**. ကျွန်တော့်မှာ မိသားစုဝင် အများကြီးပဲ။
- 우리 가족은 베트남에 **살아요**. ကျွန်တော်တို့ မိသားစု ဗီယက်နမ်မှာ နေတယ်။







할아버지 အဖိုး / 할머니 အဖွား
아버지 အဖေ / 어머니 အမေ













| | | | | | | |
|---|---|---|---|---|---|---|
| '나'가 남자일 때 ယောကျ်ားလေး ဖြစ်ပါက | 형 အစ်ကို | 누나 အစ်မ | 나 ငါ | 부인 ဇနီး | 여동생 ညီမ | 남동생 ညီ |
| '나'가 여자일 때 မိန်းကလေး ဖြစ်ပါက | 오빠 အစ်ကို | 언니 အစ်မ | 나 ငါ | 남편 ခင်ပွန်း | 여동생 ညီမ | 남동생 မောင်လေး |















아들 သား / 딸 သမီး



အထက်ရှိ မိသားစု အခေါ်အဝေါ်များကို မကြည့်ဘဲ အောက်ပါ မေးခွန်းများကို ဖြေကြည့်ပါ။

1. 그림에 맞는 단어를 〈보기〉에서 골라 넣으세요. ပုံကို ကြည့်ပြီး သင့်တော်သော စကားလုံးကို ရွေးပေးပါ။




보기: 아버지 어머니 할머니 할아버지

정답 1) 할아버지 2) 할머니 3) 아버지 4) 어머니



## 문법 1 သဒ္ဒါ ၁ 하고

G09-1

'하고' ကို ပြုလုပ်သူမှ အတူတကွလုပ်ဆောင်သော အရာ၊ လူ စသည်တို့ကို တွဲဆက်ရာတွင် အသုံးပြုသည်။ စကားပြောတွင် အများဆုံး အသုံးပြုပြီး အရေးတွင် '와/과' ကို သုံးသည်။

- 가: 지금 뭐 해요? အခု ဘာလုပ်နေလဲ။
  나: 아침을 먹어요. 빵**하고** 과일을 먹어요. မနက်စာ စားနေတယ်။ ပေါင်မုန့်နဲ့ အသီးနဲ့ စားတယ်။
- 가: 지금 혼자 살아요? တစ်ယောက်ထဲ နေတာလား။
  나: 아니요, 부모님**하고** 같이 살아요. မဟုတ်ပါဘူး။ မိဘများနဲ့ အတူနေတယ်။



**비교해 보세요** နှိုင်းယှဉ်ကြည့်ပါ။

### ✓ '하고' နှင့် '와/과'

'하고' နှင့် '와/과' ကို နာမ်နှစ်ခုကို ချိတ်ဆက်ပေးသည့် အခါတွင် သုံးသည်။ '하고' ကို စကားပြောပုံစံတွင် သုံးပြီး '와/과' ကို စာအရေးအသားတွင် ပို သုံးပါသည်။ ရိုးရိုးစကားပြောပုံစံမဟုတ်ဘဲ အခမ်းအနားတွင် မိန့်ခွန်းပြောသည့်အခါ ရှေ့ထွက်စကားပြောသည့်အခါမျိုးတွင် '와/과' ကို သုံးသည်။



'하고' ကို နားလည်ရင် အောက်ပါ မေးခွန်းများကို ဖြေကြည့်ပါ။

2. 〈보기〉처럼 대화를 완성하세요. ဥပမာအတိုင်း ဝါကျများကို ဖြည့်ပါ။

보기


남편, 딸

가: 가족이 몇 명이에요? မိသားစုဝင် ဘယ်နှယောက် ရှိလဲ။
나: 세 명이에요. 남편하고 딸이 있어요.
သုံးယောက် ရှိပါတယ်။ ခင်ပွန်းနဲ့ သမီး ရှိပါတယ်။

1) 아내, 아들
가: 가족이 몇 명이에요?
나: 세 명이에요. ________________.

2)  
아버지, 어머니
가: 가족이 몇 명이에요?
나: 세 명이에요. ________________.

3) 
할머니, 형
가: 가족이 몇 명이에요?
나: 세 명이에요. ________________.

4)  
아버지, 어머니, 누나
가: 가족이 몇 명이에요?
나: 네 명이에요. ________________.

정답 1) 아내하고 아들이 있어요 2) 아버지하고 어머니가 있어요 3) 할머니하고 형이 있어요 4) 아버지하고 어머니하고 누나가 있어요



ထပ်ပြီး လေ့လာကြစို့။ '하고' ကို အသုံးပြုပြီး အောက်က ပုံတွေနဲ့ ကိုက်ညီသော ဝါကျကို တွဲပေးပါ။

1.  ________________.

2.  오빠  언니 ________________.

정답 1. 열쇠하고 지갑이 있어요 2. 오빠하고 언니가 있어요

## 대화 2 စကားပြော ၂

Track 32



ထူအန်းနဲ့ ရီဟန်ဟာ သူတို့ မိသားစုဓာတ်ပုံ ကြည့်ပြီး စကားပြောနေကြပါတယ်။ ထူအန်းက ရီဟန်ရဲ့ ညီမအကြောင်း မေးနေတယ်။ အရင်ဆုံး နစ်ခေါက် နားထောင်ပြီး လိုက်ဆိုကြည့်ရအောင်။

| | |
|---|---|
| 투안 | **이** 사람이 리한 씨 여동생이에요?<br>ဒါ ရီဟန်ရဲ့ ညီမလား။ |
| 리한 | 네, 맞아요. **제** 여동생이에요.<br>ဟုတ်တယ်။ ကျွန်တော့် ညီမပါ။ |
| 투안 | 여동생이 정말 예뻐요. 지금 몇 살이에요?<br>အရမ်း လှတာပဲ။ အသက် ဘယ်နနှစ်လဲ။ |
| 리한 | 스무 살이에요.<br>အသက် နှစ်ဆယ်ပါ။ |
| 투안 | 여동생은 남자 친구가 있어요?<br>ညီမမှာ ရည်းစား ရှိလား။ |
| 리한 | 아니요, 없어요.<br>ဟင့်အင်း၊ မရှိပါဘူး။ |

**이 ဒီ**
စကားပြောသူ၏ အနီးအနားတွင် ရှိသော အရာ၊ လူကို ညွှန်ပြသော စကား

- 이 사람은 회사원이에요.
  ဒီလူက ကုမ္ပဏီဝန်ထမ်းပါ။
- 저는 이 책을 읽어요.
  ကျွန်တော် ဒီစာအုပ်ကို ဖတ်တယ်။

**제 ကျွန်တော်၏ (ကျွန်တော့်)၊ ကျွန်မ၏ (ကျွန်မ)**
နာမ် '저' နှင့် postposition '의' နှစ်ခု ပေါင်း၍ အတိုချုပ်ခေါ်ဆိုသော အသုံးအနှုန်းအဖြစ် ယဉ်ကျေးစွာ သုံးနှုန်းချိန် '내 (나의)' အစား '제' ကို သုံးသည်။

- 이게 제 가방이에요.
  ဒီဟာ ကျွန်မ လွယ်အိတ်ပါ။
- 제 여동생은 선생님이에요.
  ကျွန်တော့် ညီမက ဆရာမပါ။



သေချာ နားထောင်ပြီး လိုက်ဆိုပြီးပြီဆိုရင် မေးခွန်းများကို ဖြေကြည့်ပါ။

1. 리한 씨 여동생은 몇 살이에요? ရီဟန် ညီမ အသက် ဘယ်လောက်လဲ။
2. 리한 씨 여동생은 남자 친구가 있어요? ရီဟန် ညီမမှာ ရည်းစား ရှိလား။

정답 1. 스무 살이에요. 2. 아니요, 없어요.

**Tip 나이를 묻고 대답하기** အသက်နှင့် ပတ်သက်သော အမေးအဖြေ

1) 투안: 민수 씨 아들은 몇 살이에요? မင်းဆူ သား အသက် ဘယ်နနှစ်လဲ။
   민수: 세 살이에요. သုံးနှစ်ပါ။

2) 투안: 민수 씨는 나이가 어떻게 되세요? မင်းဆူရော အသက် ဘယ်လောက်ရှိပြီလဲ။
   민수: 서른 두 살이에요. ၃၂ နှစ်ပါ။

3) 투안: 아버지는 연세가 어떻게 되세요? အဖေ အသက် ဘယ်လောက်ရှိပြီလဲ။
   민수: 예순 살이세요. အသက် ခြောက်ဆယ်ပါ။



အခြားသူ၏ အသက်ကို မေးသည့် အချိန်တွင် အသုံးအနှုန်းအမျိုးမျိုးကို ပြောင်းလဲ အသုံးပြုနိုင်ပါသည်။ "나이가 어떻게 되세요?", "연세가 어떻게 되세요?" မှာ မိမိထက် အသက်ကြီးသူအား မေးသည့် အချိန်တွင် သုံးပါသည်။ '연세' သည် "အသက်" ကို လေးစားမှုဖြင့် ခေါ်ဆိုသော စကားလုံး ဖြစ်ပါသည်။



## 문화 ယဉ်ကျေးမှု

# 한국 사람들이 인사로 하는 약속

### ကိုရီးယား လူမျိုးများ နှုတ်ဆက်စကားအနေနဲ့ သုံးသောချိန်းဆိုမှု




한국 사람들은 헤어질 때 “다음에 밥 한번 같이 먹어요.”, “술 한잔 같이 해요.”라는 인사를 하기도 합니다. 특히 헤어질 때 “연락할게.”라는 말도 자주 하는데, 이런 말들은 약속이라기보다는 헤어지기 아쉬워서 하는 말인 경우가 많습니다. 구체적으로 날짜와 시간을 약속하지 않을 경우에는 가벼운 인사로 생각하는 것이 좋습니다. 만약에 한국사람들이 “언제든지 연락하세요.”라고 말했더라도 너무 이른 시간이나 늦은 시간, 그리고 식사 시간이나 휴식 시간에는 연락을 피하는 것이 좋습니다. 또한 “언제든지 놀러 오세요.”라고 말했더라도 전화로 미리 약속을 하고 만나러 가는 것이 좋습니다.

ကိုရီးယားလူမျိုးများကတော့ ခွဲခွာတဲ့အခါ “နောက်ကျရင် ထမင်း တစ်ခါလောက် အတူတူ စားကြမယ်။ တစ်ခါလောက် အတူတူ သောက်ကြမယ်။” စသည်ဖြင့် နှုတ်ဆက်ကြတာလည်း ရှိပါတယ်။ အထူးသဖြင့် ခွဲခွာတဲ့အခါ “ဖုန်းဆက်လိုက်မယ်။”ဆိုတဲ့ စကားကိုလည်း မကြာမကြာ သုံးပေမဲ့ ဒီလို စကားတွေက ချိန်းဆိုတယ်ဆိုတာထက် ခွဲခွာရတာ စိတ်မကောင်းလို့ ပြောတဲ့ စကားတွေပဲ ဖြစ်ပါတယ်။ အသေးစိတ်အနေနဲ့ နေ့ရက်နဲ့ အချိန်ကို အတိအကျ ကတိပြုတာမျိုး မဟုတ်ရင် ပေါ့ပေါ့ပါးပါး နှုတ်ဆက်တာပဲလို့ သိထားသင့်ပါတယ်။ အကယ်၍ ကိုရီးယားလူမျိုးတွေက “အချိန်မရွေး အဆက်အသွယ်လုပ်ပါ”ဆိုပြီး ပြောခဲ့ရင်လည်း အရမ်းစောစော/အရမ်းနောက်ကျတဲ့အချိန် နောက်ပြီး ထမင်းစားချိန်/နားချိန်တွေမှာ အဆက်အသွယ်လုပ်တာမျိုးကို ရှောင်ကျဉ်ပေးသင့်ပါတယ်။ နောက်ပြီး “အချိန်မရွေး လာလည်ပါ”ဆိုပြီး ပြောရင်လည်း ဖုန်းဆက်ပြီး အရင် ချိန်းပြီးမှ တွေ့ဖို့ သွားတာက ကောင်းပါတယ်။



မေးခွန်း ၁နဲ့ ၂ကတော့ အဖြေမှန်ရွေးရမှာ ဖြစ်ပါတယ်။ သေချာနားထောင်ပြီး အဖြေမှန်ရွေးပါ။

[1~2] 들은 것을 고르십시오. ကြားလိုက်တာကို ရွေးပါ။

Track 45

1. ① 내일 ② 영화 ③ 시간 ④ 극장

2. ① 도청 ② 시장 ③ 구청 ④ 시청



အောက်ပါမေးခွန်းတွေကိုဖြေရန် အကြောင်းအရာကိုနားထောင်ပြီး အဖြေမှန်ကိုရွေးပါ။
နားမထောင်ခင်မှာ မေးခွန်းတွေကို ကြိုဖတ်ထားပါ။

[3~5] 이야기를 듣고 질문에 알맞은 대답을 고르십시오.
အကြောင်းအရာကို နားထောင်ပြီး မေးခွန်းနဲ့ ကိုက်ညီသော အဖြေကိုရွေးပါ။

3. 두 사람은 내일 같이 무엇을 봅니까? သူတို့ နှစ်ယောက်က မနက်ဖြန် အတူတူ ဘာကို ကြည့်မှာလဲ။
① 책 ② 사진
③ 영화 ④ 드라마

4. 두 사람은 내일 어디에서 만납니까? သူတို့ နှစ်ယောက်က မနက်ဖြန် ဘယ်မှာ တွေ့မှာလဲ။
① 극장 앞 ② 회사 앞
③ 백화점 앞 ④ 도서관 앞

5. 두 사람은 내일 몇 시에 만납니까? သူတို့ နှစ်ယောက်က မနက်ဖြန် ဘယ်နနာရီမှာ တွေ့မှာလဲ။
① 6시 ② 7시
③ 8시 ④ 9시





### 듣기 대본 စာသား

1. 남: 영화 ရုပ်ရှင်
2. 여: 시청 မြို့တော်ခန်းမ
3. 남: 우리 내일 같이 영화 볼까요? ငါတို့ မနက်ဖြန် အတူတူ ရုပ်ရှင် ကြည့်မလား။
   여: 좋아요. 같이 봐요. ကောင်းတယ်။ အတူတူ ကြည့်မယ်။
4. 남: 우리 내일 어디에서 만날까요? ငါတို့ မနက်ဖြန် ဘယ်မှာတွေ့မလဲ။
   여: 백화점 앞에서 볼까요? ကုန်တိုက် ရှေ့မှာ တွေ့မလား။
   남: 좋아요. 거기에서 만나요. ကောင်းတယ်။ အဲဒီမှာ တွေ့မယ်။
5. 남: 내일 7시에 만날까요? မနက်ဖြန် ၇နာရီမှာ တွေ့မလား။
   여: 7시는 좀 힘들어요. 8시는 어때요? ၇နာရီတော့ နည်းနည်း ခဲယဉ်းမယ်။
   남: 좋아요. 그럼 8시에 만나요. ကောင်းပြီလေ၊ အဲဒါဆို ၈နာရီမှာ တွေ့မယ်။

정답 1. ② 2. ④ 3. ③ 4. ③ 5. ③



### 확장 연습 ထပ်ဆောင်း လေ့ကျင့်ရန် L-13

1. 들은 것을 고르십시오. ကြားလိုက်တာကို ရွေးပါ။

   ① 같습니다　② 가능합니다　③ 가깝습니다　④ 간단합니다

2. 대화를 듣고 질문에 알맞은 것을 고르십시오.
   စကားပြောကို နားထောင်ပြီး မေးခွန်းနဲ့ ကိုက်ညီတာကို ရွေးပါ။

   두 사람은 어디에서 만납니까? သူတို့နှစ်ယောက်က ဘယ်မှာ တွေ့မှာလဲ။

   ① 은행 앞에서 만납니다.　② 회사 앞에서 만납니다.
   ③ 시청 앞에서 만납니다.　④ 병원 앞에서 만납니다.

### 확장 연습 듣기 대본 ထပ်ဆောင်း လေ့ကျင့်ရန် စာသား

1. 남: 간단합니다. ရိုးရှင်းပါတယ်။
2. 남: 은행 앞에서 만날까요? ဘဏ်အရှေ့မှာ တွေ့မလား။
   여: 아니요, 시청 앞에서 만나요. ဟင့်အင်း၊ မြို့တော်ခန်းမရှေ့မှာ တွေ့မယ်။

정답 1. ④ 2. ③



# EPS-TOPIK 읽기 EPS-TOPIK အဖတ် စာမေးပွဲ



မေးခွန်း ၁နဲ့ ၂ကတော့ စကားပြောကို ဖတ်ပြီး သင့်တော်သောအဖြေကိုရွေးရမှာဖြစ်ပါတယ်။
သင်ထားတာတွေကိုပြန်စဉ်းစားပြီး မေးခွန်းများဖြေပါ။

[1~2] 다음 질문에 답하십시오. အောက်ပါမေးခွန်းများဖြေပါ။

1. 두 사람은 지금 무엇을 하고 있습니까? သူတို့ နှစ်ယောက်က အခု ဘာကို လုပ်နေတာလဲ။

가: 우리 내일 같이 저녁 먹을까요? ငါတို့ မနက်ဖြန် အတူတူ ညနေစာ စားမလား။
나: 좋아요. 같이 저녁 먹어요. ကောင်းတယ်။ အတူတူ ညနေစာ စားမယ်။

① 식사　② 운동　③ 약속　④ 쇼핑

2. 두 사람은 오늘 같이 무엇을 합니까? သူတို့ နှစ်ယောက် ဒီနေ့ အတူတူ ဘာကို လုပ်မှာလဲ။

가: 우리 오늘 뭐 할까요? 같이 영화 볼까요?
ငါတို့ ဒီနေ့ ဘာလုပ်မလဲ။ အတူတူ ရုပ်ရှင် ကြည့်မလား။
나: 산책 어때요? 공원에서 같이 산책하고 싶어요.
လမ်းလျှောက်ထွက်တာ ဘယ်လိုလဲ။ ပန်းခြံမှာ အတူတူ လမ်းလျှောက်ချင်တယ်။
가: 그래요? 좋아요. 그럼 산책해요.
ဟုတ်လား။ ကောင်းပြီလေ၊ အဲဒါဆို လမ်းလျှောက်ထွက်မယ်။

① 책을 봅니다.　② 산책을 합니다.　③ 영화를 봅니다.　④ 게임을 합니다.



မေးခွန်း ၃ကနေ ၅ကတော့ အဖြေမှန်ရွေးပြီး ကွက်လပ်ဖြည့်မေးခွန်းဖြစ်ပါတယ်။သင်ထားတာတွေကိုပြန်စဉ်းစားပြီး မေးခွန်းများဖြေပါ။

[3~5] 빈칸에 들어갈 가장 알맞은 것을 고르십시오.
ကွက်လပ်ထဲဖြည့်ရန် အသင့်တော်ဆုံးကိုရွေးပါ။

3. 수루 씨, 오늘 저녁에 ____________ 있어요? ဆုရူ၊ ဒီနေ့ ညနေ အချိန်ရှိလား။

① 시간　② 생일　③ 날짜　④ 주말

4. 우리 ______________ 영화를 볼까요? 코미디 영화 어때요?
ငါတို့ ဘယ်လို ရုပ်ရှင်ကြည့်မလဲ။ ဟာသကား ဘယ်လိုလဲ။

① 언제　② 무슨　③ 누구　④ 무엇

5. 저는 내일 친구하고 같이 영화를 ___________.
ကျွန်တော်ကတော့ မနက်ဖြန် သူငယ်ချင်းနှင့် အတူ ရုပ်ရှင်ကြည့်ချင်တယ်။

① 보세요　② 봤어요　③ 봐 주세요　④ 보고 싶어요

정답 1. ③ 2. ② 3. ① 4. ② 5. ④






## 확장 연습 ထပ်ဆောင်း လေ့ကျင့်ရန်

[1~3] 빈칸에 들어갈 알맞은 말을 고르십시오.
ကွက်လပ်ထဲ ဖြည့်ရန် သင့်တော်သော စကားကို ရွေးပါ။

1.

가: 식당이 어디에 있어요?
ထမင်းစားခန်းက ဘယ်မှာ ရှိလဲ။

나: ______________________.

〈기숙사 층별 안내〉 အဆောင် အလွှာလိုက် လမ်းညွှန်

| | |
|---|---|
| 2층 အလွှာ | 방 အခန်း, 휴게실 နားနေခန်း |
| 1층 အလွှာ | 샤워실 ရေချိုးခန်း, 세탁실 အဝတ် လျှော် ခန်း |
| 지하 မြေအောက် | 주차장 ကားပါကင်<br>식당 ထမင်းစားခန်း |

① 지하로 내려가세요
② 2층으로 올라가세요
③ 세탁실 옆에 있어요
④ 휴게실 앞에 있어요

2.

오늘 은행에 가서 ______을 하려고 합니다. 백 달러를 모두 한국 돈으로 바꾸고 싶습니다.
ဒီနေ့ ဘဏ်သို့ သွားပြီး ငွေလဲ မလို့ပါ။ ဒေါ်လာ ၁၀၀ကို အကုန် ကိုရီးယားငွေနဲ့ လဲချင်တယ်။

① 환불
② 환전
③ 확인
④ 계산

3.

이번 휴가에는 ______을/를 하려고 합니다. 제주도에 가서 구경도 하고 맛있는 음식도 먹을 것입니다.
ဒီတစ်ခေါက် ပိတ်ရက်မှာ ခရီး သွားမလို့ပါ။ ဂျယ်ဂျူးကျွန်းသို့ သွားပြီး လျှောက်လည်းလည်မယ်၊ ပြီးတော့ အရသာရှိတဲ့ အစားအစာတွေလည်း စားမယ်။

① 운동
② 여행
③ 쇼핑
④ 요리

정답 1. ① 2. ② 3. ②



## 발음 အသံထွက်




### သေချာ နားထောင်ပြီး လိုက်ဆိုပါ။

ကိုရီးယားဘာသာစကားမှာ ‘ㄴ’, ‘ㅁ’, ‘ㅇ’ ဆိုတဲ့ နှာသံတွေရှိပါတယ်။ အဲဒီ (၃)ခုထဲက ‘ㅇ’ ကတော့ အသတ်နေရာမှာပဲ နှာသံကို ဖြစ်စေနိုင်ပါတယ်။

(1) 나, 니, 누, 네, 노
(2) 누구, 누나, 나비, 나무, 노래
(3) 모두, 머리, 모자, 매미, 미나리
(4) 강, 공, 상, 방, 가방




# 저는 비빔밥을 먹을래요
ကျွန်တော်ကတော့ ထမင်းသုပ်စားမယ်။

**학습 안내**
သင်ရိုး အညွှန်း

- □ **သင်ခန်းစာ ရည်ရွယ်ချက်** အစားအသောက် မှာခြင်း။
- □ **သဒ္ဒါ** -(으)ㄹ래요, 안
- □ **ဝေါဟာရ** စားသောက်ဆိုင်များ၊ အစားအသောက် အရသာ။
- □ **သတင်းအချက်အလက်နှင့် ယဉ်ကျေးမှု** အစားအသောက် မီနူး။



## 대화 1 စကားပြော ၁






ထူအန်းနဲ့ ရီဟန်က စားသောက်ဆိုင်မှာ အစားအသောက်မှာနေတယ်။ အရင်ဆုံး သူတို့ ပြောတာကို နှစ်ခေါက် နားထောင်ပြီး လိုက်ပြောကြည့်ရအောင်။

종업원 어서 오세요. 몇 분이세요?
ကြိုဆိုပါတယ်။ ဘယ်နှဦးလဲ။

투 안 두 명이요. 자리 있어요?
နှစ်ယောက်ပါ။ နေရာရှိလား။

종업원 네, 있어요. 이쪽으로 앉으세요.
ဟုတ်ကဲ့၊ ရှိပါတယ်။ ဒီဘက်မှာ ထိုင်ပါ။
뭐 드릴까요?
ဘာမှာမလဲ။

리 한 저는 비빔밥 먹을래요.
ကျွန်တော်ကတော့ ထမင်းသုပ် စားမယ်။
투안 씨는 뭐 먹을래요?
ထူအန်းကော ဘာစားမလဲ။

투 안 저는 김치찌개 먹을래요.
ကျွန်တော်ကတော့ ဂင်ချီ ဟင်းရည် စားမယ်။

리 한 그럼 여기 비빔밥하고 김치찌개 주세요.
ဒါဆို ဒီကို ထမင်းသုပ်နဲ့ ဂင်ချီ ဟင်းရည် ပေးပါ။

> **분 ဦး / ပုဂ္ဂိုလ်**
> လူဦးရေကို ယဉ်ကျေးစွာ မေးတဲ့အခါ သုံးတယ်။
> · 저 분이 우리 사장님이세요.
> ဟို ပုဂ္ဂိုလ်ကတော့ ငါတို့ သူဌေးဖြစ်ပါတယ်။

> **뭐 드릴까요?**
> **ဘာ ပေးရမလဲ။(ဘာမှာမလဲ။)**
> စားသောက်ဆိုင် သို့မဟုတ် ကော်ဖီဆိုင်တွေမှာ ဆိုင်ဝန်ထမ်းက အော်ဒါလက်ခံတဲ့အခါ စားသုံးသူကို မေးတဲ့ စကား ဖြစ်ပါတယ်။ အများအားဖြင့် တစ်ဖက်သူရဲ့ ဆန္ဒကို မေးတဲ့အခါမှာလည်း သုံးပါတယ်။
> · 손님, 뭐 드릴까요?
> ဧည့်သည်၊ ဘာပေးရမလဲ။



သေချာနားထောင်ပြီး လိုက်ဆိုပြီးရင် အောက်က မေးခွန်းတွေ ဖြေကြည့်ကြရအောင်။

1. 리한 씨는 무엇을 주문해요? ရီဟန်က ဘာကို မှာလဲ။
2. 투안 씨는 무엇을 주문해요? ထူအန်းက ဘာကို မှာလဲ။

정답 1. 비빔밥을 주문해요. 2. 김치찌개를 주문해요.



## 어휘 1 ဝေါဟာရ ၁ 식당 စားသောက်ဆိုင်။

စားသောက်ဆိုင်မှာ စားသောက်ခြင်းနဲ့ ပတ်သက်သော ဝေါဟာရတွေကို သင်သိပါသလား။
အဲဒါတွေကို အတူတူလေ့လာကြည့်ရအောင်။

| | | | |
|---|---|---|---|
| 자리가 있다<br>နေရာ ရှိသည်။ | 자리가 없다<br>နေရာမရှိပါ။ | 메뉴판<br>မီနူးစာရွက် | 메뉴<br>မီနူး |
| 밥<br>ထမင်း | 반찬<br>အရံဟင်း။ | 숟가락<br>ဇွန်း | 젓가락<br>တူ |
| 앉다<br>ထိုင်သည်။ | 고르다<br>ရွေးချယ်သည်။ | 시키다(주문하다)<br>(အော်ဒါ)မှာသည်။ | 배달하다<br>ပို့သည်။ |



အပေါ်ကဝေါဟာရတွေကို မကြည့်ဘဲ အောက်ပါစာကြောင်းများကိုဖြည့်စွက်ပါ။

1. 그림을 보고 알맞은 단어를 연결하세요.
   ပုံကိုကြည့်ပြီး ကိုက်ညီသော စာလုံးနဲ့ဆက်ပေးပါ။




정답 ① ㉡ ② ㉠ ③ ㉣ ④ ㉢

## 문법 1 သဒ္ဒါ ၁ -(으)ㄹ래요




'-(으)ㄹ래요' က ကြိယာကို ပြုလုပ်တဲ့သူက တတိယလူဖြစ်တဲ့ ဝါကျမျိုးမှာ သုံးလို့ မရပါဘူး။ ပြောသူရဲ့ ဆန္ဒကို ဖော်ပြတဲ့အခါမှာ '-(으)ㄹ래요' ကို သုံးပြီး မျှော်လင့်ချက်ကို ဖော်ပြတဲ့အခါမှာ '-고 싶다' ကို သုံးပါတယ်။ '-(으)ㄹ래요' က ဖြစ်နိုင်ချေ ရှိတဲ့ စကားမှာပဲ သုံးပြီး '-고 싶다' ကတော့ မဖြစ်နိုင်တဲ့ မျှော်လင့်ချက်မှာလည်း သုံးလို့ရပါတယ်။

| 자음 (ဗျည်း) → **-을래요** | 모음 (သရ), 자음 (ဗျည်း) 'ㄹ'→ **-ㄹ래요** |
|---|---|
| 읽다 → 읽**을래요** | 가다 → **갈래요**　놀다 → **놀래요** |

- 가: 주말에 우리 같이 **놀래요**? ပိတ်ရက်မှာ ငါတို့ အတူ လျှောက်လည်မလား။
  나: 좋아요. 같이 놀아요. ကောင်းပြီလေ၊ အတူလျှောက်လည်မယ်။
- 가: 내일 같이 운동**할래요**? မနက်ဖြန် အတူတူ အားကစား လုပ်ကြမလား။
  나: 저는 집에서 **쉴래요**. ကျွန်တော်ကတော့ အိမ်မှာ အနားယူမယ်။

### 비교해 보세요 နှိုင်းယှဉ်ကြည့်ပါ။

**✓ '-(으)ㄹ래요' နှင့် '-고 싶다'**

'-(으)ㄹ래요' က ကြိယာကို ပြုလုပ်တဲ့သူက တတိယလူဖြစ်တဲ့ ဝါကျမျိုးမှာ သုံးလို့ မရပါဘူး။ ပြောသူရဲ့ ဆန္ဒကို ဖော်ပြတဲ့အခါမှာ '-(으)ㄹ래요' ကို သုံးပြီး မျှော်လင့်ချက်ကို ဖော်ပြတဲ့အခါမှာ '-고 싶다' ကို သုံးပါတယ်။ '-(으)ㄹ래요' က ဖြစ်နိုင်ချေ ရှိတဲ့ စကားမှာပဲ သုံးပြီး '-고 싶다' ကတော့ မဖြစ်နိုင်တဲ့ မျှော်လင့်ချက်မှာလည်း သုံးလို့ရပါတယ်။

- 하늘을 날래요.(X)
- 하늘을 **날고 싶어요**.(O)



'-(으)ㄹ래요' ရဲ့ အသုံးကို နားလည်ရင် ဥပမာဝါကျတွေကို ပြီးအောင် ရေးဖြည့်ကြည့် ရအောင်။

**2. 그림을 보고 〈보기〉처럼 '-(으)ㄹ래요'를 사용해서 대화를 완성하세요.**
ပုံကို ကြည့်ပြီး (ဥပမာ)လိုမျိုး '-(으)ㄹ래요' ကို သုံးပြီးစကားပြောကို ဖြည့်စွက်ပါ။






가: 뭐 먹을래요? ဘာစားမလဲ။
나: 저는 비빔밥 먹을래요. ကျွန်တော်ကတော့ ထမင်းသုပ် စားမယ်။

1) 가: ____________________?
나: ____________________.

2) 
가: ____________________?
나: ____________________.

3) 
가: ____________________?
나: ____________________.

4) 
가: ____________________?
나: ____________________.

**정답** 1) 가: 뭐 먹을래요 나: 저는 라면 먹을래요　3) 가: 뭐 할래요 나: 저는 영화 볼래요
2) 가: 뭐 마실래요 나: 저는 커피 마실래요　4) 가: 뭐 할래요 나: 저는 집에서 쉴래요



## 대화 2 စကားပြော ၂

Track 47



ရီဟန်နှင့် ထူအန်းက သူတို့ကြိုက်သော အစားအသောက်နှင့် အရသာအကြောင်းပြောနေကြတယ်။
အရင်ဆုံး သူတို့ ပြောတာကို နှစ်ခေါက် နားထောင်ပြီး လိုက်ပြောကြည့်ရအောင်။

리한 투안 씨는 김치찌개를 좋아해요?
ထူအန်းက ဂင်ချီ ဟင်းရည်ကို ကြိုက်လား။

투안 네, 정말 좋아해요.
ဟုတ်ကဲ့၊ တကယ် ကြိုက်တယ်။

리한 김치찌개가 안 매워요?
ဂင်ချီ ဟင်းရည်က မစပ်ဘူးလား။

투안 조금 매워요. 하지만 맛있어요.
နည်းနည်း စပ်တယ်။ ဒါပေမဲ့ အရသာရှိတယ်။
리한 씨는 김치찌개 좋아해요?
ရီဟန်ကော ဂင်ချီ ဟင်းရည် ကြိုက်လား။

리한 아니요, 전 안 좋아해요.
ဟင့်အင်း၊ ကျွန်တော် မကြိုက်ဘူး။

**조금 နည်းနည်း**
‘좀’ နဲ့လည်း ပြောင်းသုံးလို့ရပါတယ်။
- 오늘은 조금 바빠요.
  ဒီနေ့တော့နည်းနည်း အလုပ်များတယ်။
- 제 동생은 키가 조금 작아요.
  ကျွန်တော့်ညီက နည်းနည်း အရပ်ပုတယ်။

**하지만 ဒါပေမဲ့**
ရှေ့ဝါကျနဲ့ နောက်ဝါကျက အကြောင်းအရာတွေ ဆန့်ကျင်ဘက်ဖြစ်နေတဲ့အခါမှာ သုံးတယ်။
- 이 건물에 약국은 있어요. 하지만 편의점은 없어요.
  အဆောက်အဦမှာ ဆေးဆိုင်ရှိတယ်။ ဒါပေမဲ့ ၂၄နာရီဆိုင်တော့ မရှိဘူး။



သေချာနားထောင်ပြီး လိုက်ဆိုပြီးရင် အောက်က မေးခွန်းတွေ ဖြေကြည့်ကြရအောင်။

1. 누가 김치찌개를 좋아해요? ဘယ်သူက ဂင်ချီ ဟင်းရည်ကို ကြိုက်တာလဲ။
2. 김치찌개 맛이 어때요? ဂင်ချီ ဟင်းရည် အရသာဘယ်လိုလဲ။

정답 1. 투안 씨가 김치찌개를 좋아해요. 2. 조금 매워요. 하지만 맛있어요.

**Tip 음식 단위 명사** အစားအသောက်အသုံးအနှုန်းများ





## 어휘 2 စကားပြော ၂ 음식의 맛 အစားအသောက်အရသာ

အစားအသောက်ရဲ့ အရသာနဲ့ သက်ဆိုင်သော ဝေါဟာရများကို ရှာကြည့်ရအောင်။



| 맛있다<br>အရသာရှိသည်။ | 맛없다<br>အရသာ မရှိပါ။ | 맵다<br>စပ်သည်။ | 달다<br>ချိုသည်။ |
|---|---|---|---|
| 짜다<br>ငန်သည်။ | 싱겁다<br>ပေါ့သည်။ | 쓰다<br>ခါးသည်။ | 시다<br>ချဉ်သည်။ |

- 비빔밥이 정말 **맛있어요**. ထမင်းသုပ် တကယ်အရသာရှိတယ်။
- 떡볶이가 조금 **매워요**. 하지만 **맛있어요**. တောက်ပို့ကီက နည်းနည်း စပ်တယ် ။ဒါပေမဲ့ အရသာရှိတယ်။
- 음식이 **짜요**. 음식이 **짜면** 건강에 나빠요.
  အစားအသောက်က ငန်တယ်။ အစားအသောက်က ငန်ရင် ကျန်းမာရေးအတွက် မကောင်းဘူး။
- 이 오렌지는 너무 **시어요**. ဒီလိမ္မော်သီးကတော့ အရမ်းချဉ်တယ်။

**'ㅂ' ဖြင့်ဆုံးသော ကြိယာစကားလုံးများ**

'ㅂ' အသတ်ကအနောက်မှာ သရနဲ့တွေ့ရင် 'ㅂ' ပျောက်သွားပြီး 'ㅜ' ပြောင်း သွားတယ်။
예) 맵(다) + 어요 = 매워요, 싱겁(다) + 어요 = 싱거워요



ပုံမှန်အသုံးမဟုတ်သော 'ㅂ' အသတ်နဲ့နာမဝိသေသနစကားဆက်ဆိုရင် '맵다 (매워요) စပ်သည်', '싱겁다 (싱거워요) ပေါ့ သည်။' '춥다 (추워요) အေးသည်။' '무겁다 (무거워요) လေးသည်။' '가볍다 (가벼워요) ပေါ့ပါးသည်။' '쉽다 (쉬워요) လွယ်ကူသည်။' '어렵다 (어려워요) ခက်ခဲသည်။' '가깝다 (가까워요)နီးသည်။'



သင်ယူထားသော ဝေါဟာရများကို ပြန်လည်စဉ်းစားပြီး မေးခွန်းများကို ဖြေကြည့်ပါ။

1. 그림을 보고 알맞은 단어를 연결하세요. ပုံကိုကြည့်ပြီး ကိုက်ညီသော စာလုံးနဲ့ ဆက်ပေးပါ။



① ② ③ ④

㉠ 짜다 ㉡ 맵다 ㉢ 달다 ㉣ 싱겁다

정답 ① ㉠ ② ㉢ ③ ㉡ ④ ㉣

## 문법 2 သဒ္ဒါ ၂ 안




'안' နဲ့ '못' ကတော့ ကြိယာရဲ့ ရှေ့မှာ ထားသုံးတယ်။ '안' ကတော့ ရိုးရိုးရှင်းရှင်း အငြင်းနဲ့ ကံ ပြုသူရဲ့ စိတ်အတိုင်း ငြင်းတာဖြစ်ပေမဲ့၊ '못' ကတော့ ကံ ပြုသူရဲ့ အရည်အချင်းက မပြည့်စုံတာပဲဖြစ်ဖြစ်၊ တခြားအကြောင်းကြောင့် မလုပ်နိုင်တာကိုဖော်ပြတယ်။ '못' ကတော့ ဂုဏ်ရည်ပြကြိယာရဲ့ ရှေ့မှာ သုံးလို့ မရပါ။

- 가: 아침 먹었어요? မနက်စာ စားခဲ့လား။
  나: 아니요, **안** 먹었어요. ဟင့်အင်း၊ မစားခဲ့ဘူး။
- 가: 어제 운동했어요? မနေ့က အားကစားလုပ်ခဲ့လား။
  나: 아니요, 운동 **안** 했어요. ဟင့်အင်း၊ အားကစား မလုပ်ခဲ့ဘူး။
- 가: 이 영화가 재미있어요? ဒီရုပ်ရှင်က စိတ်ဝင်စားစရာကောင်းလား။
  나: 아니요, 재미**없어요**. ဟင့်အင်း၊ စိတ်ဝင်စားစရာမကောင်းဘူး။



### 비교해 보세요 နှိုင်းယှဉ်ကြည့်ပါ။

**✓ '안' နှင့် '못'**

'안' နဲ့ '못' ကတော့ ကြိယာရဲ့ ရှေ့မှာ ထားပြီး အငြင်းကို ပြတဲ့ စကားလုံးတွေဖြစ်ပါတယ်။ '안' ကတော့ ပြုသူရဲ့ သဘောအရ ငြင်းဆိုတာ ဖြစ်ပြီးတော့ '못' ကတော့ ပြုသူက မတတ်သာလို့ သို့မဟုတ် အကြောင်းရှိလို့ ငြင်းရတာမျိုး ဖြစ်ပါတယ်။ '못' ကတော့ ဂုဏ်ရည်ပြကြိယာနဲ့ မတွဲပါဘူး။

- 가고 싶지 않아서 **안** 가요.(O)
- 오늘은 **안** 추워요.(O)
- 가고 싶지 않아서 못 가요.(X)
- 오늘은 못 추워요.(X)



'안' ရဲ့ အသုံးကို နားလည်ရင် ဥပမာဝါကျတွေကို ပြီးအောင် ရေးဖြည့်ကြည့် ရအောင်။

2. 그림을 보고 <보기>처럼 대화를 완성하세요. ပုံကို ကြည့်ပြီး (ဥပမာ)လိုမျိုး စကားပြောကို ဖြည့်စွက်ပါ။

보기
가: 불고기가 매워요? ဘူးလ်ဂိုဂီက စပ်လား။
나: 아니요, <u>안 매워요</u>. ဟင့်အင်း၊ မစပ်ဘူး။

1) 가: 일요일에 회사에 가요?
   나: 아니요, ______________________.

2) 가: 아이스크림을 좋아해요?
   나: 아니요, ______________________.

3) 가: 아침을 먹었어요?
   나: 아니요, ______________________.

4) 가: 어제 운동했어요?
   나: 아니요, ______________________.

정답 1) 회사에 안 가요 2) 안 좋아해요 3) 안 먹었어요 4) 운동 안 했어요




〈보기〉처럼 친구와 함께 음식을 주문해 보세요.
ဥပမာလိုမျိုး သူငယ်ချင်းနှင့်အတူ အစားအသောက် မှာကြည့်ပါ။



**메 뉴**

| | |
|---|---|
| 김치찌개 | ₩5,000 |
| 된장찌개 | ₩5,000 |
| 순두부찌개 | ₩5,000 |
| 비빔밥 | ₩5,000 |
| 갈비탕 | ₩6,000 |
| 뚝배기불고기 | ₩6,000 |

**보기**

종업원: 어서 오세요. 몇 분이세요? ကြိုဆိုပါတယ်။ ဘယ်နှဦးလဲ။

손님1: 두 명이요. 자리 있어요? နှစ်ယောက်ပါ။ နေရာရှိလား။

종업원: 네, 있어요. 이쪽으로 앉으세요. 뭐 드릴까요?
ဟုတ်ကဲ့၊ ရှိပါတယ်။ ဒီဘက်မှာ ထိုင်ပါ။ ဘာပေးရမလဲ။

손님2: 저는 김치찌개 먹을래요. ကျွန်တော်ကတော့ ဂင်ချီဟင်းရည်စားမယ်။

손님1: 저는 갈비탕 먹을래요. ကျွန်တော်ကတော့ နံရိုးဟင်းရည် စားမယ်။

손님2: 여기 김치찌개하고 갈비탕 주세요. ဒီကို ဂင်ချီဟင်းရည်နဲ့ နံရိုးဟင်းရည်ပေးပါ။



စကားပြော ဥပမာကို ကြည့်ပြီး မေးခွန်းများ ဖြေကြည့်ပါ။

✚ 알맞은 말에 ✓하세요. မှန်ကန်သော စကားမှာ အမှန်ခြစ်ပါ။

| | | |
|---|---|---|
| (1) 식당에 자리가<br>စားသောက်ဆိုင်မှာနေရာ | ☐ 있어요.<br>ရှိတယ်။ | ☐ 없어요.<br>မရှိဘူး။ |
| (2) 갈비탕하고 김치찌개를<br>နံရိုးဟင်းရည်နဲ့ ဂင်ချီဟင်းရည် | ☐ 시켰어요.<br>မှာပြီးပြီ။ | ☐ 안 시켰어요.<br>မမှာခဲ့ဘူး။ |
| (3) 식당에 손님이<br>စားသောက်ဆိုင်သို့ ဧည့်သည်က | ☐ 한 명 왔어요.<br>တစ်ယောက် လာခဲ့တယ်။ | ☐ 두 명 왔어요.<br>နှစ်ယောက်လာခဲ့တယ်။ |
| (4) 비빔밥이 갈비탕보다<br>ထမင်းသုပ်က နံရိုးဟင်းရည်ထက် | ☐ 싸요.<br>ဈေးသက်သာတယ်။ | ☐ 비싸요.<br>ဈေးကြီးတယ်။ |

정답 (1) 있어요. (2) 시켰어요. (3) 두 명 왔어요. (4) 싸요.



## 정보 သတင်းအချက်အလက်

# 음식 메뉴 အစားအသောက် မီနူး

**한식**
ကိုရီးယားအစားအစာ



김치찌개
ဂင်ချီဟင်းရည်



된장찌개
ပဲငါးပိဟင်းရည်



순두부찌개
ပဲပြားနုဟင်းရည်



삼계탕
ကြက်ပေါင်း



갈비탕
နံရိုးဟင်းချို



감자탕
ဝက်သားအာလူးဟင်း



불고기
ဘူးလ်ဂိုဂိ(အသားနပ်)



비빔밥
ထမင်းသုတ်

**중식**
တရုတ်အစားအစာ



자장면
ပဲခေါက်ဆွဲ



짬뽕
ကျမ်းပုန်း



탕수육
ဝက်ချိုချဉ်ကြော်



군만두
ဖက်ထုပ်ကြော်

**일식**
ဂျပန်အစားအစာ



초밥
ဆူရှီ



돈가스
ဝက်သားပြားကြော်



우동
အူဒုန်း(နန်းကြီး)ခေါက်ဆွဲ



모밀
မိုမီးလ်

**분식**
ပေါ့ပေါ့ပါးပါးစားစရာ



김밥
ထမင်းလိပ်



떡볶이
တော့ပို့ကီ



튀김
အကြော်



순대
ကိုရီးယားရိုးရာဝက်
အူချောင်း(ဆွန်းဒယ်)

**간식/야식**
သွားရည်စာနှင့် ညစာ



치킨
ကြက်ကြော်



족발
ဝက်ခြေထောက်



보쌈
ဝက်သားပေါင်း



피자
ပီဇာ



မေးခွန်း ၁နဲ့ ၂ကတော့ နားထောင်ပြီး မှန်ကန်သောဝေါဟာရကို ရွေးရမှာဖြစ်ပါတယ်။

[1~2] 들은 것을 고르십시오. ကြားလိုက်တာကိုရွေးပါ။

Track 48

1. ① ② ③ ④

2. ① ② ③ ④



အောက်ပါမေးခွန်းတွေကတော့ နားထောင်ပြီး အဖြေမှန်ရွေးရမှာဖြစ်ပါတယ်။ စကားပြောကို နားမထောင်ခင် ရွေးဖို့ ပေးထားတာတွေကို အရင် ဖတ်ကြည့်ပါ။

[3~5] 이야기를 듣고 질문에 알맞은 대답을 고르십시오.
စကားပြောကို နားထောင်ပြီး မေးခွန်းနဲ့ ကိုက်ညီသော အဖြေကို ရွေးပါ။

3. 여기는 어디입니까? ဒီနေရာက ဘယ်နေရာလဲ။

① 극장 ② 식당
③ 공원 ④ 서점

4. 여자는 무엇을 먹고 싶어합니까? မိန်းကလေးက ဘာကို စားချင်သလဲ။

① 된장찌개 ② 김치찌개
③ 부대찌개 ④ 순두부찌개

5. 남자는 무엇을 좋아합니까? ယောကျ်ားလေးက ဘာကို ကြိုက်လဲ။

① 불고기 ② 비빔밥
③ 삼계탕 ④ 갈비탕

### 듣기 대본 စာသား

1. ① 남: 물수건 ရေစိုပုဝါ　　② 남: 공깃밥 ထမင်းဖြူ
   ③ 남: 메뉴판 မီနူးစာအုပ်　　④ 남: 불고기 ဘူးလ်ဂိုဂီ
2. ① 여: 짜요 ငန်တယ်။　　② 여: 써요 ခါးတယ်။
   ③ 여: 달아요 ချိုတယ်။　　④ 여: 매워요 စပ်တယ်။
3. 남: 뭐 드릴까요? ဘာပေးရမလဲ။
   여: 비빔밥하고 김치찌개 주세요. ထမင်းသုပ်နဲ့ ဂင်ချီ ဟင်းရည်ပေးပါ။
4. 남: 전 김치찌개 먹고 싶어요. 수루 씨는요? ကျွန်တော်ကတော့ ဂင်ချီ ဟင်းရည် စားချင်တယ် ။ဆူရူကရော။
   여: 저는 된장찌개 먹을래요. ကျွန်တော်ကတော့ ပဲငါးပိဟင်းရည် စားမယ်။
5. 남: 수미 씨는 불고기 좋아해요? ဆူမီကော ဘူးလ်ဂိုဂီ ကြိုက်လား။
   여: 네, 좋아해요. 투안 씨는요? ဟုတ်ကဲ့၊ ကြိုက်ပါတယ်။ ထူအန်းရော၊
   남: 전 안 좋아해요. 전 비빔밥을 좋아해요. ကျွန်တော်ကတော့ မကြိုက်ဘူး။ ကျွန်တော် ထမင်းသုပ် ကြိုက်တယ်။

정답 1. ③ 2. ③ 3. ② 4. ① 5. ②



### 확장 연습 ထပ်ဆောင်း လေ့ကျင့်ရန် L-14

1. 들은 것을 고르십시오. ကြားလိုက်တာကို ရွေးပါ။

   ① 시어요　　② 추워요　　③ 더워요　　④ 매워요

2. 대화를 듣고 질문에 알맞은 것을 고르십시오.
   စကားပြောကို နားထောင်ပြီး မေးခွန်းနှင့် ကိုက်ညီတာကို ရွေးပါ။

   여자는 무엇을 좋아합니까? မိန်းကလေးက ဘာကို ကြိုက်လဲ။

   ① 갈비탕　　② 불고기　　③ 김치찌개　　④ 된장찌개

### 확장 연습 듣기 대본 ထပ်ဆောင်း လေ့ကျင့်ရန် စာသား

1. 남: 매워요 စပ်တယ်။
2. 남: 수미 씨는 김치찌개를 좋아해요? ဆူမီကကော ဂင်ချီ ဟင်းရည်ကိုကြိုက်လား။
   여: 아니요, 저는 김치찌개를 안 좋아해요. 불고기를 좋아해요.
   ဟင့်အင် ။၊ ကျွန်တော်ကတော့ ဂင်ချီ ဟင်းရည်ကိုမကြိုက်ဘူး။ ဘူးလ်ဂိုဂီကိုကြိုက်တယ် ။
   투안 씨는요? ထူအန်းကကော၊
   남: 저는 김치찌개를 좋아해요. ကျွန်တော်ကတော့ ဂင်ချီ ဟင်းရည်ကိုကြိုက်ပါတယ် ။

정답 1. ④ 2. ②







မေးခွန်း ၁ နဲ့ ၂ကတော့ ပုံကိုကြည့်ပြီး ပုံနဲ့ ကိုက်ညီသော အသုံးကို ရွေးရသော ပုစ္ဆာဖြစ်ပါတယ်။ အဖြေမှန်ကို ရွေးပါ။

[1~2] 다음 그림을 보고 맞는 단어나 문장을 고르십시오.
အောက်ပါ ပုံကို ကြည့်ပြီး မှန်ကန်သော ဝေါဟာရ၊ ဝါကျကို ရွေးပါ။

1.



① 쇼핑　② 배달
③ 약속　④ 주문

2.



① 자리가 없습니다.　② 손님이 없습니다.
③ 반찬이 없습니다.　④ 식당이 없습니다.



အဖြေမှန်ရွေးပြီး ကွက်လပ်ဖြည့်ပါ။ သင်ယူထားတာတွေကို စဉ်းစားပြီး ဖြေပါ။

[3~5] 빈칸에 들어갈 가장 알맞은 것을 고르십시오.
ကွက်လပ်ထဲ ဖြည့်ရန် အသင့်တော်ဆုံးကို ရွေးပါ။

3.
가: 몇 분이세요? ဘယ်နှဦးလဲ။
나: ______________________.

① 두 명이요　② 비빔밥 하나요
③ 불고기 일 인분이요　④ 한 시 삼십 분이요

4.
가: 뭐 드릴까요? ဘာပေးရမလဲ။
나: ______________________.

① 네, 있어요　② 조금 매워요
③ 김치찌개 주세요　④ 아니요, 안 좋아해요

5.
가: 뭐 먹을래요? ဘာစားမလဲ။
나: ______________________.

① 지금 먹을래요　② 제가 먹을래요
③ 비빔밥 먹을래요　④ 여기에서 먹을래요

정답 1. ④ 2. ① 3. ① 4. ③ 5. ③



## 확장 연습 ထပ်ဆောင်း လေ့ကျင့်ရန်

[1~2] 다음 그림을 보고 맞는 표현을 고르십시오.
အောက်ပါ ပုံကို ကြည့်ပြီး မှန်ကန်သော အသုံးအနှုန်းကို ရွေးပါ။

1.

① 밥 ② 찌개
③ 반찬 ④ 메뉴

2.

① 사진을 찍지 마십시오. ② 음식을 먹지 마십시오.
③ 전화를 하지 마십시오. ④ 담배를 피우지 마십시오.

[3~5] 빈칸에 들어갈 가장 알맞은 것을 고르십시오.
ကွက်လပ်ထဲ ဖြည့်ရန် အသင့်တော်ဆုံးကို ရွေးပါ။

3.

제가 좋아하는 ________은/는 스키입니다. 이번 겨울에도 스키를 타러 갈 겁니다. 빨리 겨울이 되면 좋겠습니다.
ကျွန်တော် ကြိုက်နှစ်သက်သော အားကစားကတော့ စကီး(နှင်းလျှောစီး) ဖြစ်ပါတယ်။ ဆောင်းတွင်း နှင်းကျရင် စကီး(နှင်းလျှောစီး)ဖို့ သွားမယ်။ မြန်မြန်ဆောင်းတွင်း ရောက်ချင်ပြီ။

① 날씨 ② 운동
③ 계절 ④ 작업

4.

가: ____________________.
나: 저는 봄을 좋아해요. ကျွန်တော်ကတော့ နွေဦးရာသီကို ကြိုက်ပါတယ်။

① 봄에는 따뜻해요 ② 왜 봄을 좋아해요
③ 오늘 날씨가 좋아요 ④ 무슨 계절을 좋아해요

5.

저는 기숙사에 삽니다. 방이 크지 않지만 회사 동료 한 명과 방을 ________ 사용합니다.
ကျွန်တော်ကတော့ အဆောင်မှာ နေပါတယ်။ အခန်းက မကြီးပေမယ့် ကုမ္ပဏီက လုပ်ဖော်ကိုင်ဖက် တစ်ယောက်နဲ့ အခန်းကို အတူတူ သုံးပါတယ်။

① 자꾸 ② 다시
③ 먼저 ④ 같이

정답 1. ① 2. ④ 3. ② 4. ④ 5. ④




# 날씨가 맑아서 기분이 좋아요

ရာသီဥတု သာယာလို့ စိတ်ပျော်တယ်။

**학습 안내**
သင်ရိုး အညွှန်း

- □ **သင်ခန်းစာ ရည်ရွယ်ချက်** ရာသီဥတုနှင့် သင့်ရဲ့ခံစားချက်အကြောင်းပြောခြင်း။
- □ **သဒ္ဒါ** -네요, -아서/어서
- □ **ဝေါဟာရ** ရာသီဥတုနှင့် ဥတုရာသီ
- □ **သတင်းအချက်အလက်နှင့် ယဉ်ကျေးမှု** ကိုရီးယား ၄ရာသီ



## 대화 1 စကားပြော ၁






အောက်ပါစကားပြောများကတော့ ထူအန်းနှင့် ရီဟန်တို့ကြား စကားပြောများဖြစ်ပါတယ်။သူတို့ အချင်းချင်း ထီးပါလားလို့မေးနေတယ်။ အရင်ဆုံး သူတို့ ပြောတာကို နှစ်ခေါက် နားထောင်ပြီး လိုက်ပြောကြည့်ရအောင်။

투안 비가 계속 오네요.
မိုးက ဆက်တိုက် ရွာနေတယ်နော်။

리한 네, 안 그치네요.
ဟုတ်ကဲ့၊ မတိတ်ဘူးနော်။
투안 씨, 우산 있어요?
ထူအန်း၊ ထီးရှိလား။

투안 아니요, 없어요. 리한 씨는요?
ဟင့်အင်း၊ မရှိဘူး၊ ရီဟန်ကော။

리한 저는 있어요. ကျွန်တော်ကတော့ ရှိတယ်။
이따가 저하고 같이 집에 가요.
ခဏနေကျ ကျွန်တော်နဲ့ အတူ အိမ်ပြန်မယ်။

**계속 ဆက်တိုက်**
- 저는 한국어를 계속 공부하고 싶어요.
  ကျွန်တော်ကတော့ကိုရီးယားစကားကိုဆက်တိုက်လေ့လာချင်တယ်။
- 계속 비가 오면 축구를 못 할 거예요.
  ဆက်တိုက် မိုးကရွာရင် ဘောလုံးကန်လို့မရတော့ဘူး။

**이따가 ခဏနေကျ**
- 지금은 바쁘니까 이따가 오세요.
  အခုတော့ အလုပ်များနေလို့ ခဏနေကျလာခဲ့ပါ။
- 우리 이따가 이야기 좀 할까요?
  ခဏနေကျ စကားနည်းနည်းပြောမလား။



သေချာနားထောင် လိုက်ဆိုပြီးပြီဆိုရင် အောက်က မေးခွန်းတွေ ဖြေကြည့်ကြရအောင်။

1. 날씨가 어때요?
   ရာသီဥတု ဘယ်လိုလဲ။
2. 투안 씨는 우산이 있어요?
   ထူအန်းမှာ ထီးရှိလား။

정답 1. 비가 와요. 2. 아니요, 없어요.



## 어휘 1 ဝေါဟာရ ၁ 날씨와 계절 ရာသီဥတုနှင့် ဥတုရာသီ



ကိုရီးယားမှာ ၄ ရာသီရှိပါတယ်။ ရာသီဥတုက ရာသီအလိုက် မတူကွဲပြားပါတယ်။ ရာသီတစ်ခုချင်းစီရဲ့ ရာသီဥတုကို ကြည့်ကြည့်ရအောင်။


봄
နွေဦး


따뜻하다
နွေးထွေးသည်။


여름
နွေရာသီ


덥다
ပူအိုက်သည်။


가을
ဆောင်းဦး


시원하다
အေးမြသည်။


겨울
ဆောင်းရာသီ


춥다
ချမ်းသည်

· **봄**은 **따뜻해요**. နွေဦးကတော့ နွေးထွေးတယ်။
· **가을**은 **시원해요**. ဆောင်းဦးကတော့ အေးမြတယ်။
· **여름**은 **더워요**. နွေရာသီကတော့ ပူတယ်။
· **겨울**은 **추워요**. ဆောင်းကတော့ ချမ်းတယ်။

날씨가 좋다 ရာသီဥတု ကောင်းသည်။
맑다 ကြည်လင်သည်။
날씨가 나쁘다 ရာသီဥတုမကောင်းဘူး။
흐리다 ရာသီဥတုအုံ့မှိုင်းသည်။
비가 오다 မိုးရွာသည်။
눈이 오다 နှင်းကျသည်။
바람이 불다 လေတိုက်သည်။
그치다 (မိုး)တိတ်သည်။



အပေါ်ကဝေါဟာရတွေကို မကြည့်ဘဲ မေးခွန်းများကို ဖြေပါ။

1. 그림을 보고 알맞은 단어를 연결하세요. ပုံကိုကြည့်ပြီး ကိုက်ညီသော စကားလုံးနဲ့ ဆက်ပေးပါ။

① 
② 
③ 

④ 

㉠ 따뜻하다
㉡ 덥다
㉢ 시원하다
㉣ 춥다

정답 ① ㉡ ② ㉠ ③ ㉣ ④ ㉢

# 문법 1 သဒ္ဒါ ၁ -네요




'-네요' ကတော့ အခုမှ သိလိုက်ရတာ ဒါမှမဟုတ် အခုမှ ခံစားလိုက်ရတာ၊ မြင်လိုက်ရတာတွေကို အာမေဋိတ် သို့မဟုတ် မှတ်ချက်နဲ့ဖော်ပြတဲ့အခါ သုံးပါတယ်။ ကြိယာမှာ အသတ် ပါပါ မပါပါ '-네요' ပဲ သုံးပါတယ်။

- 가: 지금 추워요? အခု အေးလား။
  나: 네, 좀 **춥네요**. ဟုတ်ကဲ့၊ နည်းနည်း အေးတယ်။
- 가: 마웅 씨는 음식을 참 잘 **만드네요**.
  မောင်မောင်က ကိုရီးယား အစားအစာကို တော်တော် ကောင်းကောင်း လုပ်တတ်တာပဲ။
  나: 그래요? 감사합니다. ဟုတ်လား၊ ကျေးဇူးတင်ပါတယ်။



## 비교해 보세요 နှိုင်းယှဉ်ကြည့်ပါ။

### ✓ '-네요' နှင့် '-는군요'

'-네요' နဲ့ '-는군요' ကတော့ အခုမှ သိလိုက်ရတာကို အာမေဋိတ်နဲ့ ဖော်ပြတာချင်း တူပါတယ်။ '-네요' ကတော့ ပြောသူရဲ့ ကိုယ်တွေ့ဆိုတာကို ဖော်ပြပြီး '-는군요' ကတော့ တစ်ဖက်သားရဲ့ အတွေ့အကြုံမှာလည်း သုံးလို့ရပါတယ်။

- 가: 한국까지 비행기로 10시간쯤 걸려요.
  나: 아, 여기 오는 데 10시간이나 **걸리는군요**.(O)/걸리네요.(X)



'-네요' ရဲ့ အသုံးကို နားလည်ရင် ဥပမာဝါကျတွေကို ပြီးအောင် ရေးဖြည့်ကြည့်ရအောင်။

2. 그림을 보고 〈보기〉처럼 '-네요'를 사용해서 문장을 완성하세요.
   ပုံကို ကြည့်ပြီး(ဥပမာ)လိုမျိုး '-네요' ကို သုံးပြီး စာကြောင်းကို ဖြည့်စွက်ပါ။






오늘은 날씨가 정말 따뜻하네요. ဒီနေ့ ရာသီဥတု တကယ် နွေးတယ်။

1)  오늘은 날씨가 너무 ________.

2) 오늘은 날씨가 정말 ________.

3) 오늘은 날씨가 너무 ________.

4) 오늘은 비가 정말 많이 ________.

정답 1) 덥네요 2) 시원하네요 3) 춥네요 4) 오네요



## 대화 2 စကားပြော ၂

Track 50



ထူအန်းနှင့် ဆူရူက သူတို့ကြိုက်နှစ်သက်သော ရာသီအကြောင်းပြောနေတယ်။ သူတို့ ဘယ်ရာသီကို အကြိုက်ဆုံးလဲ။ အရင်ဆုံးစကားပြောကို နှစ်ခေါက် နားထောင်ကြည့်ပါ။

투안 오늘은 날씨가 참 좋네요.
ဒီနေ့တော့ ရာသီဥတု အရမ်း သာယာတယ်နော်။

수루 네, 요즘은 날씨가 따뜻해서 기분이 정말 좋아요.
ဟုတ်ကဲ့၊ အခုတလော ရာသီဥတုကနွေးလို့ စိတ်အရမ်းပျော်တယ်။

투안 수루 씨는 봄을 좋아해요?
ဆူရူကော နွေဦးကို ကြိုက်လား။

수루 네, 저는 봄을 가장 좋아해요.
ဟုတ်ကဲ့၊ ကျွန်တော်ကတော့ နွေဦးကို အကြိုက်ဆုံးပဲ။
투안 씨는 무슨 계절을 가장 좋아해요?
ထူအန်းကော ဘယ်ရာသီကို အကြိုက်ဆုံးလဲ။

투안 저는 겨울을 가장 좋아해요.
ကျွန်တော်ကတော့ ဆောင်းရာသီကို အကြိုက်ဆုံးပဲ။

**참 အရမ်း၊ တော်တော်**
- 오늘 참 덥네요.
  ဒီနေ့ အရမ်း ပူတယ်နော်။
- 영화가 참 재미있어요.
  ရုပ်ရှင်က အရမ်း စိတ်ဝင်စားစရာကောင်းတယ်။

**무슨 ဘယ်**
- 한국에서 무슨 일을 하고 싶어요?
  ကိုရီးယားမှာ ဘယ်အလုပ် လုပ်ချင်လဲ။
- 무슨 과일을 좋아해요?
  ဘယ်အသီးကို ကြိုက်လဲ။

ဒီတစ်ခါ၊ သင်ဟာ ထူအန်းနှင့် ဆူရူအဖြစ်နဲ့ စကားပြောကို လိုက်ပြောပါ။ သေချာနားထောင်ပြီးလိုက်ဆိုပါ။ ပြီးရင် အောက်ပါမေးခွန်းများကို ဖြေပါ။ ဆူရူနဲ့ ထူအန်ရဲ့ အကြိုက်ဆုံးရာသီက ဘယ်ရာသီတွေလဲ။

1. 오늘은 날씨가 어때요? ဒီနေ့ ရာသီဥတု ဘယ်လိုလဲ။
2. 투안 씨는 무슨 계절을 좋아해요? ထူအန်းက ဘယ်ရာသီကို ကြိုက်နှစ်သက်လဲ။
3. 수루 씨는 왜 기분이 좋아요? ဆူရူက ဘာ့ကြောင့် စိတ်ပျော်တာလဲ။

정답 1. 참 좋아요. 2. 겨울을 좋아해요. 3. 요즘 날씨가 따뜻해서 기분이 좋아요.



## 어휘 2 စကားပြော ၂ 기분과 감정 စိတ်ခံစားမှုနှင့် စိတ်ခံစားချက်

ခံစားမှုနှင့် ခံစားချက် အသုံးအနှုန်းများကို လေ့လာကြည့်ရအောင်။

| | | | |
|---|---|---|---|
|  |  |  |  |
| 기분이 좋다<br>စိတ်ပျော်သည်။ | 기쁘다<br>ပျော်ရွှင်သည်။ | 즐겁다<br>ကြည်နူးသည်။ | 신나다<br>တက်ကြွသည်။ |
|  |  |  |  |
| 기분이 나쁘다<br>စိတ်ကွက်သည်၊ စိတ်ဆိုးသည်။ | 슬프다<br>ဝမ်းနည်းသည်။ | 피곤하다<br>ပင်ပန်းသည်။ | 졸리다<br>အိပ်ငိုက်သည်။ |

외롭다 အထီးကျန်သည်။ 우울하다 စိတ်မရွှင်မလန်းဖြစ်သည်။ 상쾌하다 လန်းဆန်းသည်။ 행복하다 ပျော်သည်။

- 시험을 잘 쳐서 **기분이 좋아요**. စာမေးပွဲ ကောင်းကောင်းဖြေနိုင်လို့ စိတ်ပျော်တယ်။
- 친구한테서 편지를 받아서 정말 **기뻐요**. သူငယ်ချင်းဆီက စာ ရလို့ တကယ် ပျော်တယ်။
- 시험을 못 쳐서 **기분이 나빠요**. စာမေးပွဲ မဖြေနိုင်လို့ စိတ်မပျော်ဘူး။
- 영화가 너무 **슬퍼서** 울었어요. ရုပ်ရှင်က အရမ်း ဝမ်းနည်းစရာကောင်းလို့ ငိုခဲ့တယ်။
- 일을 많이 해서 **피곤해요**. အလုပ် အရမ်း များလို့ ပင်ပန်းတယ်။
- 어제 잠을 못 자서 **졸려요**. မနေ့က အိပ်လို့မပျော်လို့ အိပ်ငိုက်တယ်။

သင်ယူထားသော ဝေါဟာရများကို ပြန်လည်စဉ်းစားပြီး မေးခွန်းများကို ဖြေကြည့်ပါ။

1. 그림을 보고 알맞은 단어를 연결하세요.
ပုံကို ကြည့်ပြီး ကိုက်ညီသော ဝေါဟာရနဲ့ ဆက်ပေးပါ။

① ② ③ ④

㉠ 슬프다 ㉡ 외롭다 ㉢ 피곤하다 ㉣ 기분이 좋다

정답 ①㉢ ②㉣ ③㉠ ④㉡

# 문법 2 သဒ္ဒါ ၂ -아서/어서



ကြိယာ၊ ကြိယာဝိသေသနနဲ့တွဲ သုံးပြီး ရှေ့ကအကြောင်းအရာက နောက်က အကြောင်းအရာအတွက် အကြောင်းပြချက်ဖြစ်တာကို ဖော်ပြတယ်။

| ㅏ, ㅗ → **-아서** | ㅓ, ㅜ, ㅣ စသည်ဖြင့် → **-어서** | 하다 → **해서** |
|---|---|---|
| 가다 → **가서**<br>좋다 → 좋**아서** | 먹다 → 먹**어서**<br>있다 → 있**어서** | 공부하다 → 공부**해서**<br>친절하다 → 친절**해서** |

- 배가 **아파서** 병원에 갔어요. ဗိုက်အောင့်လို့ ဆေးရုံသို့ သွားခဲ့တယ်။
- 약속이 **있어서** 먼저 집에 갔어요. ချိန်းထားတာ ရှိလို့ အရင် အိမ်သို့ ပြန်ခဲ့တယ်။



## 대조적 정보 နှိုင်းယှဉ်ချက်

'-아서/어서' အဓိပ္ပါယ်က 'ကြောင့်၊လို့' ဖြစ်ပြီး၊ စာကြောင်းဆက် သဒ္ဒါအသုံးတစ်ခုပဲ ဖြစ်ပါတယ်။ ဒါပေမဲ့၊ အတိတ်ကာလပြန့်တော့ တွဲသုံးလို့ မရပါ။

- 비가 많이 **와서** 행사가 취소되었다. မိုးရွာလို့ အခမ်းအနား ပျက်သွားတယ်။



'-아서/어서' ကို နားလည်လား။အောက်ပါစကားပြောမှာ ကွက်လပ်ဖြည့်ပါ။

2. 그림을 보고 〈보기〉처럼 '-아서/어서'를 사용해서 대화를 완성하세요.
ပုံကို ကြည့်ပြီး(ဥပမာ)လိုမျိုး '-아서/어서' ကို သုံးပြီး စကားပြောကို ဖြည့်စွက်ပါ။



보기



가: 무슨 계절을 좋아해요? ဘယ်ရာသီကို ကြိုက်လဲ။
나: 날씨가 따뜻해서 봄을 좋아해요.
ရာသီဥတုက နွေးလို့ နွေဦးရာသီကို ကြိုက်တယ်။

1) 

가: 무슨 계절을 좋아해요?
나: 날씨가 ________________ 가을을 좋아해요.

2) 

가: 무슨 계절을 좋아해요?
나: 눈이 ________________ 겨울을 좋아해요.

3) 

가: 오늘 기분이 어때요?
나: 날씨가 ________________ 기분이 좋아요.

4) 

가: 오늘 기분이 어때요?
나: 비가 ________________ 기분이 안 좋아요.

정답 1) 시원해서 2) 와서 3) 좋아서 4) 와서



## 활동 အသုံးချသင်ခန်းစာများ

〈보기〉처럼 여러분 나라의 계절과 날씨를 소개해 보세요.
(ဥပမာ)လိုမျိုး လူကြီးမင်းတို့ နိုင်ငံရဲ့ ရာသီနှင့်ရာသီဥတုကို မိတ်ဆက်ကြည့်ပါ။



보기

**한국의 계절**

한국에는 봄, 여름, 가을, 겨울이 있습니다. 봄은 날씨가 따뜻합니다. 여름은 날씨가 덥습니다. 그리고 비가 많이 옵니다. 가을은 날씨가 시원합니다. 겨울은 날씨가 춥습니다. 그리고 눈이 옵니다.

**ကိုရီးယားရဲ့ဥတုရာသီ**

ကိုရီးယားမှာတော့ နွေဦး၊ နွေ၊ ဆောင်းဦး၊ ဆောင်းဆိုပြီး ရှိပါတယ်။ နွေရာသီကတော ရာသီဥတုက ပူပါတယ်။ နောက်ပြီး မိုးအများကြီး ရွာပါတယ်။ ဆောင်းဦးကတော့ ရာသီဥတု အေးမြပါတယ်။ ဆောင်းကတော့ ရာသီဥတု အေးပါတယ်။ နောက်ပြီး နှင်းကျပါတယ်။



ဖိလစ်ပိုင်မှာတော့ ကိုရီးယားနှင့် မတူဘဲ ၂ ရာသီရှိပါတယ်။ ခြောက်သွေ့ရာသီနှင့် စိုစွတ်ရာသီတို့ပဲဖြစ်ပါတယ်။ ကိုရီးယားမှာ ၄ရာသီရှိပြီး ရာသီအလိုက် ရာသီဥတုက မတူကွဲပြားပါတယ်။ ဥပမာကို ဖတ်ပြီး အောက်ပါမေးခွန်းများကို ဖြေပါ။

✚ 알맞은 말에 ✔하세요. မှန်သော အဖြေတွင် ✔ ခြစ်ပေးပါ။

(1) 봄은 날씨가 ☐ 따뜻합니다. ☐ 시원합니다.
နွေဦးကတော့ ရာသီဥတုက နွေးတယ်။ အေးမြတယ်။

(2) 겨울은 춥습니다. 그리고 ☐ 비가 옵니다. ☐ 눈이 옵니다.
ဆောင်းမှာတော့ အေးတယ်။ ပြီးတော့ မိုး ရွာတယ်။ နှင်းကျတယ်။

(3) 날씨가 아주 덥습니다. 지금은 ☐ 여름입니다. ☐ 가을입니다.
ရာသီဥတုက အရမ်း ပူတယ်။ အခုတော့ နွေဖြစ်ပါတယ် ဆောင်းဦးဖြစ်ပါတယ်။

정답 1) 따뜻합니다. 2) 눈이 옵니다. 3) 여름입니다.



## 퀴즈 ဉာဏ်စမ်းမေးခွန်း

✚ 다음 그림을 보고 생각나는 계절은 뭐예요?
အောက်ပါ ပုံကိုကြည့်ပြီးခေါင်းထဲမှာ ပေါ်လာသောရာသီက ဘာတွေပါလဲ။

   


정답 여름



## 정보 သတင်းအချက်အလက်

### 한국의 사계절 ကိုရီးယားရဲ့ ၄ရာသီ




| 겨울 | ဆောင်း | 봄 | နွေဦး | 여름 | နွေ | 가을 | ဆောင်းဦး |
|---|---|---|---|---|---|---|---|
| 12월 | ဒီဇင်ဘာလ | 3월 | မတ်လ | 6월 | ဇွန်လ | 9월 | စက်တင်ဘာလ |
| 1월 | ဇန်နဝါရီလ | 4월 | ဧပြီလ | 7월 | ဇူလိုင်လ | 10월 | အောက်တိုဘာလ |
| 2월 | ဖေဖော်ဝါရီလ | 5월 | မေလ | 8월 | ဩဂုတ်လ | 11월 | နိုဝင်ဘာလ |

### 내용 확인 ဉာဏ်စမ်းမေးခွန်း

✚ 빈칸에 알맞은 말을 쓰세요. ကွက်လပ်ဖြည့်ပါ။

(1) 12월부터 2월까지는 '　　'입니다. ၁၂လပိုင်းမှစပြီး ၂လပိုင်းအထိကတော့ ဆောင်းရာသီဖြစ်ပါတယ်။

(2) 겨울에는 '　'이 옵니다. ဆောင်းတွင်းမှာတော့ နှင်း ကျပါတယ်။

(3) 여름은 날씨가 '　　　　'. နွေရာသီကတော့ ရာသီဥတုက ပူပါတယ်။

정답 (1) 겨울 (2) 눈 (3) 덥습니다



# EPS-TOPIK 듣기 EPS-TOPIK အကြား စာမေးပွဲ



မေးခွန်း ၁ ကတော့ ဥတုရာသီနဲ့ ပတ်သက်သော ဝေါဟာရအကြောင်းဖြစ်ပါတယ်။ မေးခွန်း ၂ကတော့ ရာသီဥတုနဲ့ ပတ်သက်သော ဝေါဟာရအကြောင်းဖြစ်ပါတယ်။ သေချာနားထောင်ပြီး ကြားလိုက်တာကို ရွေးပါ။

[1~2] 들은 것을 고르십시오. ကြားလိုက်တာကို ရွေးပါ။




1. ① 봄 ② 여름 ③ 가을 ④ 겨울

2. ① 더워요 ② 추워요 ③ 맑아요 ④ 흐려요



အောက်က ပုစ္ဆာတွေအတွက် မေးခွန်းကို နားထောင်ပြီး အဖြေမှန်ကို ရွေးပေးရမှာပါ။ စကားပြောကို နားမထောင်ခင် ရွေးဖို့ ပေးထားတာတွေကို အရင် ဖတ်ကြည့်ပါ။

[3~5] 이야기를 듣고 질문에 알맞은 대답을 고르십시오.
အကြောင်းအရာကို နားထောင်ပြီး မေးခွန်းနဲ့ ကိုက်ညီတာသော အဖြေကို ရွေးပါ။

3. 지금은 무슨 계절입니까? အခု ဘာ ရာသီလဲ။
① 봄 ② 여름
③ 가을 ④ 겨울

4. 오늘 날씨는 어떻습니까? ဒီနေ့ ရာသီဥတုက ဘယ်လိုလဲ။
① 비가 옵니다. ② 눈이 옵니다.
③ 날씨가 좋습니다. ④ 날씨가 흐립니다.

5. 남자는 무슨 계절을 좋아합니까? ယောကျ်ားလေးက ဘယ်ရာသီကို ကြိုက်လဲ။
① 봄 ② 여름
③ 가을 ④ 겨울

### 듣기 대본 စာသား

1. 남: 가을 ဆောင်းဦး
2. 여: 추워요. အေးတယ်။
3. 남: 오늘 날씨가 많이 춥네요. ဒီနေ့ ရာသီဥတု အရမ်း အေးတယ်။

   여: 하지만 눈이 와서 기분이 너무 좋아요.
   ဒါပေမဲ့ နှင်းကျလို့ စိတ်အရမ်းပျော်တယ်။
4. 남: 지금 비가 와요? အခုမိုးရွာလား။

   여: 아니요, 안 와요. 날씨가 아주 맑아요. ဟင့်အင်း၊ မရွာဘူး။ ရာသီဥတု အရမ်း သာယာတယ်။
5. 남: 수미 씨는 무슨 계절을 좋아해요? ဆူမီက ဘယ်ရာသီကို ကြိုက်လဲ။

   여: 저는 여름을 좋아해요. 투안 씨는요? ကျွန်မကတော့ နွေရာသီကို ကြိုက်တယ်။ ထူအန်းကော။

   남: 전 봄을 좋아해요. ကျွန်တော်ကတော့ နွေရာသီကို ကြိုက်တယ်။

정답 1. ③ 2. ② 3. ④ 4. ③ 5. ①



## 확장 연습 ထပ်ဆောင်း လေ့ကျင့်ရန် L-15

1. 들은 것을 고르십시오. ကြားလိုက်တာကိုရွေးပါ။

   ① 덥습니다　② 춥습니다　③ 시원합니다　④ 따뜻합니다

2. 대화를 듣고 질문에 알맞은 것을 고르십시오.
   စကားပြောကို နားထောင်ပြီး မေးခွန်းနဲ့ ကိုက်ညီတာကို ရွေးပါ။

   지금 날씨는 어떻습니까? အခု ရာသီဥတုက ဘယ်လိုလဲ။

   ① 바람이 붑니다.　② 비가 옵니다.
   ③ 날씨가 맑습니다.　④ 날씨가 좋습니다.

### 확장 연습 듣기 대본 ထပ်ဆောင်း လေ့ကျင့်ရန် စာသား

1. 남: 따뜻합니다. နွေးတယ်။
2. 남: 지금 날씨가 좋아요? အခုရာသီဥတု ကောင်းလား။

   여: 아니요, 날씨가 안 좋아요. 흐리고 바람이 불어요.
   ဟင့်အင်း၊ ရာသီဥတု မကောင်းဘူး။ မိုးအုံ့ပြီး လေတိုက်နေတယ်။

정답 1. ④ 2. ①



# EPS-TOPIK 읽기 EPS-TOPIK အဖတ် စာမေးပွဲ



မေးခွန်း ၁ ကတော့ ရာသီဥတုနဲ့ ပတ်သက်သော အသုံးများ ဖြစ်ပါတယ်။ မေးခွန်း ၂ကတော့ စိတ်ခံစားမှု အကြောင်းဖြစ်ပါတယ်။အဖြေမှန်ကို ရွေးပါ။

[1~2] 다음 그림을 보고 맞는 문장을 고르십시오. အောက်ပါ ပုံကို ကြည့်ပြီး မှန်တဲ့ စာကြောင်းကို ရွေးပါ။

1. 

① 더워요. ② 추워요.
③ 흐려요. ④ 시원해요.

2. 

① 슬픕니다. ② 외롭습니다.
③ 행복합니다. ④ 피곤합니다.



အောက်ပါမေးခွန်းတွေကတော့ ရာသီဥတုနှင့် ရာသီအကြောင်းပဲဖြစ်ပါတယ်။ ဘယ်ရာသီတွေရှိလဲနဲ့ ဘယ်ရာသီဥတုနဲ့ တူလဲဆိုတာ စဉ်စားပြီးမေးခွန်းတွေ ဖြေကြည့်ပါ။

[3~5] 빈칸에 들어갈 가장 알맞은 것을 고르십시오.
ကွက်လပ်ထဲ ဖြည့်ရန် အသင့်တော်ဆုံးကို ရွေးပါ။

3. 필리핀에는 겨울이 없어요. 그래서 ______________________.
ဖိလစ်ပိုင်မှာတော့ ဆောင်းရာသီ မရှိပါ။ ဒါ့ကြောင့် နှင်းမကျဘူး။

① 너무 추워요 ② 눈이 안 와요 ③ 겨울이 있어요 ④ 날씨가 흐려요

4. 가: ____________________________?
나: 아주 좋아요. 맑아요. အရမ်းကောင်းတယ် ကြည်လင်တယ်။

① 가을이 없어요 ② 비가 많이 와요
③ 오늘 날씨가 어때요 ④ 무슨 계절을 좋아해요

5. 여름은 날씨가 __________ 저는 여름을 안 좋아해요.
နွေရာသီကတော့ ရာသီဥတု ပူလို့ ကျွန်တော်ကတော့ နွေရာသီကို မကြိုက်ဘူး။

① 없어서 ② 있어서 ③ 더워서 ④ 추워서

정답 1. ④ 2. ③ 3. ② 4. ③ 5. ③



## 확장 연습 ထပ်ဆောင်း လေ့ကျင့်ရန်

[1~2] 다음 그림을 보고 맞는 문장을 고르십시오.
အောက်ပါပုံကို ကြည့်ပြီး မှန်ကန်သော စာကြောင်းကို ရွေးပါ။

1. 

① 비가 옵니다. ② 눈이 옵니다.
③ 날씨가 덥습니다. ④ 날씨가 따뜻합니다.

2. 

① 기쁩니다. ② 슬픕니다.
③ 졸립니다. ④ 즐겁습니다.

[3~5] 빈칸에 들어갈 가장 알맞은 것을 고르십시오.
ကွက်လပ်ထဲ ဖြည့်ရန် အသင့်တော်ဆုံးကို ရွေးပါ။

3.

부모님께서 오늘 8시 비행기로 한국에 오십니다. 그래서 부모님을 마중하러 지금 ____________에 가는 길입니다.

မိဘတွေက ဒီနေ့ ၈နာရီ လေယာဉ်နဲ့ ကိုရီးယား လာမယ်။ ဒါကြောင့် မိဘတွေကို ကြိုဖို့ အခု လေဆိပ်သို့ သွားနေတဲ့ လမ်းပေါ်မှာပါ။

① 공항 ② 공장
③ 우체국 ④ 백화점

4.

제 방에는 침대하고 책상이 없습니다. 그래서 내일 ____________에 가서 침대하고 책상을 사려고 합니다.

ကျွန်တော့်အခန်းမှာ ကုတင်နဲ့ စားပွဲလိုအပ်ပါတယ်။ ဒါ့ကြောင့် မနက်ဖြန် ပရိဘောဂဆိုင်သို့ သွားပြီး ကုတင်နဲ့ စားပွဲ ဝယ်မလို့ပါ။

① 서점 ② 음식점
③ 가구점 ④ 편의점

5.

어제 늦게까지 일을 해서 좀 ____________. 오늘은 일찍 집에 가서 쉬고 싶습니다.

မနေ့က နောက်ကျတဲ့အထိ အလုပ်လုပ်ခဲ့လို့ နည်းနည်း ပင်ပန်းတယ်။ ဒီနေ့တော့ အိမ်စောစော ပြန်ပြီး နားချင်တယ်။

① 기쁩니다 ② 신납니다
③ 행복합니다 ④ 피곤합니다

정답 1. ② 2. ② 3. ① 4. ③ 5. ④



# 시간 있을 때 주로 테니스를 치러 가요

အချိန်ရတဲ့အခါ တင်းနစ်ရိုက်ဖို့ ပုံမှန် သွားပါတယ်။

**학습 안내**
သင်ရိုး အညွှန်း

- □ **သင်ခန်းစာ ရည်ရွယ်ချက်** ဝါသနာအကြောင်း ပြောဆိုနိုင်ခြင်း
- □ **သဒ္ဒါ** -(으)ㄹ 때, -(으)러 가다
- □ **ဝေါဟာရ** ဝါသနာ၊ အားကစား
- □ **သတင်းအချက်အလက်နှင့် ယဉ်ကျေးမှု** ဝါသနာနှင့် အပျော်တမ်း သင်တန်းများ



## 대화 1 စကားပြော ၁

Track 52



အောက်မှာ ဆူရူနဲ့ ထူအန်းတို့ စကားပြောနေတာလေးတွေကို ဖော်ပြထားပါတယ်။ သူတို့ နှစ်ယောက် ဝါသနာလေးတွေအကြောင်း ပြောနေကြတာပါ။ အရင်ဆုံး သူတို့ ပြောတာကို နှစ်ခေါက် နားထောင်ပြီး လိုက်ပြောကြည့်ရအောင်။

투안 수루 씨는 취미가 뭐예요?
ဆူရူက ဘာ ဝါသနာပါလဲ။

수루 제 취미는 독서예요.
ကျွန်တော့် ဝါသနာကတော့ စာဖတ်တာပါ။
투안 씨는 취미가 뭐예요?
ထူအန်းကရော ဘာ ဝါသနာပါတာလဲ။

투안 전 낚시를 좋아해요.
ကျွန်တော်ကတော့ ငါးမျှားရတာ ကြိုက်တယ်။
그래서 시간이 있을 때 낚시하러 자주 가요.
အဲဒါကြောင့် အချိန်ရတဲ့အခါ ငါးမျှားဖို့ မကြာခဏ သွားပါတယ်။

**시간이 있다** အချိန်ရသည်
⇔ **시간이 없다** အချိန်မရ ဖြစ်သည်

- 가: 월요일에 시간이 있어요?
  တနင်္လာနေ့ အချိန်ရလား။
  나: 미안해요. 월요일에는 바빠서 시간이 없어요.
  အားနာလိုက်တာ၊ တနင်္လာနေ့မှာ အလုပ်များလို့ အချိန်မရပါဘူး။
- 언제 시간이 있어요?
  ဘယ်တော့လောက် အချိန်ရမလဲဟင်။

**취미** ဝါသနာ
ထူအန်းကတော့ ဝါသနာပါတာတွေ အများကြီးပဲ။

- 제 취미는 낚시예요.
  ကျွန်တော့် ဝါသနာကတော့ ငါးမျှားတာပါ။
- 투안 씨는 취미가 많아요.
  ထူအန်းကတော့ ဝါသနာပါတာတွေ အများကြီးပဲ။

သချာ နားထောင်ပြီး လိုက်ဆိုခဲ့ရဲ့လား။ ဒါဆိုရင် အောက်က မေးခွန်းတွေ ဖြေကြည့်ရအောင်။

1. 수루 씨의 취미는 뭐예요? ဆူရူရဲ့ ဝါသနာက ဘာလဲ။
2. 투안 씨는 시간이 있을 때 뭐 해요? ထူအန်းကရော အချိန်ရတဲ့အခါ ဘာလုပ်တတ်လဲ။

정답 1. 독서 2. 낚시

**Tip 빈도 부사** အကြိမ်အရေအတွက်ပြ ကြိယာဝိသေသနများ

항상/언제나 အမြဲတမ်း 주로/보통 ပုံမှန်၊ များသောအားဖြင့် 자주 မကြာခဏ 가끔 တစ်ခါတစ်လေ




## 어휘 1 ဝေါဟာရ ၁

**취미** ဝါသနာ



ဒါကတော့ ဝါသနာမျိုးစုံနဲ့ သက်ဆိုင်တဲ့ အသုံးအနှုန်းတွေပါ။ ဘာတွေရှိလဲဆိုတာ လေ့လာကြည့်ရအောင်။


독서하다
စာဖတ်သည်


낚시하다
ငါးမျှားသည်


여행하다
ခရီးသွားသည်


등산하다
တောင်တက်သည်


사진을 찍다
ဓာတ်ပုံရိုက်သည်



외국어를 배우다
နိုင်ငံခြားဘာသာစကား လေ့လာသည်


콘서트를 보다
ဂီတပွဲ ကြည့်သည်


운동 경기를 보다
အားကစားပြိုင်ပွဲ ကြည့်သည်


음악을 듣다
သီချင်း နားထောင်သည်


기타를 치다
ဂီတာတီးသည်


피아노를 치다
စန္ဒရားတီးသည်


춤을 추다
ကသည်

### ‘ㄷ’ အသတ်ဖြင့် ဆုံးသော ကြိယာများ

‘ㄷ’ က မူလ ကြိယာရဲ့ နောက်ဆုံးနေရာမှာ ဗျည်းအဖြစ်ရှိနေပြီး သရ နောက်တစ်ခုနဲ့ ပေါင်းစပ်တဲ့ အခါ ‘ㄷ’ က ‘ㄹ’ ဖြစ်သွားပါတယ်။

예) 듣(다) +어요 =들어요, 걷(다) +을래요 =걸으래요



အပေါ်က ဝေါဟာရတွေကို မကြည့်ဘဲ မေးခွန်းလေးတွေ ဖြေကြည့်ရအောင်။

1. 그림을 보고 알맞은 표현을 연결하세요. ပုံကို ကြည့်ပြီး သင့်တော်ရာ အသုံးအနှုန်းနဲ့ မျဉ်းကြောင်းဆွဲ ဆက်သွယ်ပါ။

① 

② 

③ 

④ 

㉠ 낚시하다　㉡ 독서하다　㉢ 등산하다　㉣ 여행하다

정답 ①㉡ ②㉠ ③㉣ ④㉢

## 문법 1 သဒ္ဒါ ၁ -(으)ㄹ 때

G16-1

ပြုခြင်းပြ၊ ဖြစ်ခြင်းပြကြိယာများနဲ့ တွဲဖက်ပြီး တစ်စုံတစ်ရာ ပြု/ဖြစ်နေချိန်(ကာလ)ကို ဖော်ပြလိုတဲ့အခါ သုံးပါတယ်။

| 자음 (ဗျည်း) → **-을 때** | 모음 (သရ) 'ㄹ' → **-ㄹ 때** |
|---|---|
| 읽다 → 읽**을 때** | 자다 → **잘 때**<br>놀다 → **놀 때** |

- 가: 운동을 매일 해요? အားကစား နေ့တိုင်း လုပ်လား။
  나: 아니요, 시간이 **있을 때** 해요. ဟင့်အင်း၊ အချိန် ရတဲ့အခါ လုပ်ပါတယ်။
- 가: 그 사람을 언제 만났어요? အဲ့ဒီလူကို ဘယ်တုန်းက တွေ့ခဲ့တာလဲ။
  나: **여행할 때** 만났어요. အလည်သွားတုန်းက တွေ့ခဲ့တာပါ။



'-(으)ㄹ 때' ရဲ့ အသုံးကို နားလည်ပြီလား။ ဒါဆိုရင် ဥပမာထဲကလို စကားပြောကို အဆုံးသတ်ကြည့်ပါ။

**2. 그림을 보고 〈보기〉처럼 '-(으)ㄹ 때'를 사용해서 대화를 완성하세요.**
ပုံကို ကြည့်ပြီး ဥပမာထဲက အတိုင်း '-(으)ㄹ 때' ကို သုံးပြီး ဝါကျကို အဆုံးသတ်ပါ။






가: <u>날씨가 좋을 때</u> 뭐 해요? ရာသီဥတု သာယာတဲ့အခါ ဘာလုပ်ဖြစ်လဲ။
나: 등산해요. တောင်တက်သွားဖြစ်ပါတယ်။

1) 가: ______________________ 뭐 해요?
나: 집에서 책을 읽어요.



2) 가: ______________________ 뭐 해요?
나: 노래를 불러요.



3) 가: ______________________ 뭐 해요?
나: 음악을 들어요.



4) 가: ______________________ 뭐 해요?
나: 많이 자요.

정답 1) 비가 올 때 2) 기분이 좋을 때 3) 화가 날 때 4) 피곤할 때



## 대화 2 စကားပြော ၂

Track 53



မင်ဆူနဲ့ ရီဟန်တို့ နှစ်ယောက် နားရက်မှာ တစ်ခုခု လုပ်ဖို့ ပြောနေကြတယ်။ သူတို့ ဘာလုပ်ဖို့ စီစဉ်နေလဲ ခန့်မှန်းကြည့်ရအောင်။ အရင်ဆုံး သူတို့ ပြောနေတာကို နှစ်ခေါက် နားထောင်ကြည့်ပါ။ ပြီးရင်တော့ မင်ဆူနဲ့ ရီဟန် ပြောသလို လိုက်ပြောကြည့်ပါ။

민수 리한 씨는 주말에 보통 뭐 해요?
ရီဟန် နားရက်မှာ များသောအားဖြင့် ဘာလုပ်ဖြစ်လဲ။

리한 전 운동을 좋아해서 주로 운동해요.
ကျွန်တော်က အားကစားကို ကြိုက်တော့ ပုံမှန် အားကစား ပုံမှန် လုပ်ဖြစ်ပါတယ်။

민수 무슨 운동을 가장 좋아해요?
ဘယ်အားကစားကို အကြိုက်ဆုံးလဲ။

리한 축구를 가장 좋아해요.
ဘောလုံးကန်တာကို အကြိုက်ဆုံးပါပဲ။

민수 그래요? 그러면 내일 저하고 같이 축구하러 갈래요?
ဟုတ်လား။ ဒါဆို မနက်ဖြန် ကျွန်တော်နဲ့ အတူတူ ဘောလုံးကန်ဖို့ သွားကြမလား။

리한 좋아요. 같이 가요. 저도 축구를 하고 싶었어요.
ကောင်းသားပဲ။ အတူတူ သွားကြမယ်လေ။ ကျွန်တော်လည်း ဘောလုံး ကန်ချင်နေတာ။

> **N하고 같이 Nနဲ့ အတူတူ**
> နာမ်/နာမ်စားနဲ့ တွဲဖက်ပြီး တစ်ယောက်ယောက်နဲ့ တစ်ခုခု အတူတူ လုပ်တာကို ညွှန်းသည်။
> - 오늘은 친구하고 같이 등산해요.
>   ဒီနေ့တော့ သူငယ်ချင်းနဲ့ အတူတူ တောင်တက်မယ်။
> - 어제 동생하고 같이 시장에 갔어요.
>   မနေ့က ညီမလေးနဲ့ အတူတူ ဈေးသွားခဲ့ပါတယ်။



သေချာ နားထောင်ပြီး လိုက်ဆိုခဲ့ရဲ့လား။ ဒါဆိုရင် အောက်က မေးခွန်းတွေ ဖြေကြည့်ရအောင်။

1. 리한 씨는 주말에 보통 뭐 해요? ရီဟန်က နားရက်မှာ များသောအားဖြင့် ဘာလုပ်ဖြစ်လဲ။
2. 두 사람은 내일 뭘 할 거예요? သူတို့ နှစ်ယောက် မနက်ဖြန် ဘာလုပ်ကြမှာလဲ။

정답 1. 운동해요. 2. 축구를 할 거예요.

**Tip 취미 활동 동호회** ဝါသနာတူများ အသင်းအဖွဲ့

같은 취미를 가진 사람들이 취미 활동을 같이 하는 모임입니다.
ဝါသနာတူ လူတွေ စုပေါင်း ဖွဲ့စည်းထားတဲ့ အပျော်တမ်း အသင်းအဖွဲ့တွေ ဖြစ်ပါတယ်။


축구 동호회
ဘောလုံးအသင်း


등산 동호회
တောင်တက်အသင်း


사진 동호회
ဓာတ်ပုံအသင်း


요리 동호회
အချက်အပြုတ်အသင်း



## 어휘 2 ဝေါဟာရ ၂ 운동 အားကစား



အားကစားနဲ့ ပတ်သက်တဲ့ စကားလုံးတွေ ဘာတွေရှိလဲဆိုတာ လေ့လာကြည့်ရအောင်။



축구하다
ဘောလုံးကန်သည်



농구하다
ဘတ်စကတ်ဘောကစားသည်



야구하다
ဘေ့စ်ဘောကစားသည်



수영하다
ရေကူးသည်



테니스를 치다
တင်းနစ်ရိုက်သည်



배드민턴을 치다
ကြက်တောင်ရိုက်သည်



볼링을 치다
ဘိုးလင်းပစ်သည်



골프를 치다
ဂေါက်သီးရိုက်သည်



스케이트를 타다
စကိတ်စီးသည်



스키를 타다
နှင်းလျှောစီးသည်



자전거를 타다
စက်ဘီးစီးသည်



အပေါ်မှာ လေ့လာခဲ့တဲ့ ဝေါဟာရတွေကို ပြန်စဉ်းစားရင်း မေးခွန်းတွေ ဖြေကြည့်ကြရအောင်။

1. 그림을 보고 알맞은 표현을 연결하세요. ပုံကို ကြည့်ပြီး သင့်တော်ရာ အသုံးအနှုန်းနဲ့ မျဉ်းကြောင်းဆွဲ ဆက်သွယ်ပါ။

① ② ③ ④

㉠ 수영하다 ㉡ 축구하다 ㉢ 농구하다 ㉣ 야구하다

정답 1) ㉡ 2) ㉢ 3) ㉣ 4) ㉠

## 문법 2 သဒ္ဒါ ၂ –(으)러 가다/오다




ကြိယာနဲ့ တွဲဖက်ပြီး ပြောသူက တစ်နေရာရာကို ဘာလုပ်ဖို့ သွားတာလဲ ဆိုတာကို ပြချင်တဲ့အခါ သုံးပါတယ်။ ပြုခြင်းပြ ကြိယာတွေဖြစ်တဲ့ '가다(သွားသည်)', '오다(လာသည်)' နဲ့ '다니다(တက်ရောက်သည်)' တို့ကို '-(으)러' ရဲ့ နောက်မှာ သင့်တော်သလို ရွေးချယ် အသုံးပြုနိုင်ပါတယ်။

| 자음 (ဗျည်း) → **-으러 가다/오다** | 모음 (သရ), 자음 (ဗျည်း) 'ㄹ' → **-러 가다/오다** |
|---|---|
| 찾다 → 찾**으러 가다/오다** | 쉬다 → 쉬**러 가다/오다**<br>놀다 → 놀**러 가다/오다** |

- 주말에 친구하고 같이 **운동하러 갈 거예요**. နားရက်မှာ သူငယ်ချင်းနဲ့ အတူတူ အားကစားလုပ်ဖို့ သွားမလို့ပါ။
- 가: 시간 있을 때 뭐 해요? အချိန်ရတဲ့အခါ ဘာလုပ်ဖြစ်လဲ။
  나: 주로 사진 **찍으러 가요**. ပုံမှန်အားဖြင့်တော့ ဓာတ်ပုံရိုက်ဖို့ သွားဖြစ်ပါတယ်။

'-았/었-' သို့မဟုတ် '-겠' ကိုတော့ '-(으)러' မှာ မပေါင်းရပါဘူး။ ကြိယာ '가다, 오다' မှာ ပေါင်းရပါတယ်။



'-(으)러 가다/오다' ရဲ့ အသုံးကို နားလည်ပြီလား။ ဒါဆိုရင် ဥပမာထဲကလို စကားပြောကို အဆုံးသတ်ကြည့်ပါ။

2. 그림을 보고 〈보기〉처럼 '-(으)러 가다'를 사용해서 대화를 완성하세요.
ပုံကို ကြည့်ပြီး ဥပမာထဲက အတိုင်း '-(으)러 가다' ကို သုံးပြီး ဝါကျကို အဆုံးသတ်ပါ။






가: 시간이 있을 때 뭐 해요? အချိန်ရတဲ့အခါ ဘာလုပ်ဖြစ်လဲ။
나: 축구하러 가요. ဘောလုံးကန်ဖို့ သွားပါတယ်။

1) 가: 시간이 있을 때 뭐 해요?
나: ______________________.



2) 가: 시간이 있을 때 뭐 해요?
나: ______________________.



3) 가: 시간이 있을 때 뭐 해요?
나: ______________________.

4) 가: 시간이 있을 때 뭐 해요?
나: ______________________.

정답 1) 농구하러 가요 2) 테니스를 치러 가요 3) 골프를 치러 가요 4) 자전거를 타러 가요



## 활동 အသုံးချသင်ခန်းစာများ

〈보기〉처럼 친구들의 취미를 조사해 보세요. ဥပမာမှာ ပြထားသလို သူငယ်ချင်းရဲ့ ဝါသနာကို မေးစမ်းကြည့်ပါ။



가: 리한 씨는 취미가 뭐예요? ရီဟန်က ဘာဝါသနာပါလဲ။
나: 제 취미는 요리예요. ကျွန်တော့် ဝါသနာကတော့ ဟင်းချက်တာပါ။
가: 언제 요리해요? ဘယ်အချိန်တွေမှာ ဟင်းချက်ဖြစ်လဲ။
나: 시간이 있을 때 가끔 요리해요. အချိန်ရတဲ့အခါ တစ်ခါတစ်လေ ချက်ပါတယ်။

| | 이름 အမည် | 취미 ဝါသနာ | 언제 အချိန် |
|---|---|---|---|
| 보기 | 리한 | 요리<br>အချက်အပြုတ် | 시간 있을 때 가끔<br>အချိန်ရတဲ့အခါ တစ်ခါတစ်လေ |
| 1) | 투안 | 등산<br>တောင်တက် | 기분이 안 좋을 때<br>စိတ်ညစ်ညူးတဲ့အခါ |
| 2) | | | |
| 3) | | | |
| 4) | | | |
| 5) | | | |



## 퀴즈 ဉာဏ်စမ်းမေးခွန်း

✚ 다음 문장을 보고 생각나는 운동을 이야기해 보세요.
အောက်ပါ ဝါကျများကို ဖတ်ပြီးနောက် စိတ်ထဲ ပေါ်လာတဲ့ အားကစား အမျိုးအစားကို ပြောကြည့်ပါ။

| 공으로 하는 운동이에요. ဘောလုံးနဲ့ ကစားရတဲ့ အားကစား ဖြစ်ပါတယ်။ |
|---|
| 공에 날개가 있어요. ဘောလုံးမှာ တောင်ပံ ပါပါတယ်။ |
| 두 사람 이상 할 수 있어요. လူနှစ်ယောက်နဲ့ အထက် ကစားလို့ ရပါတယ်။ |

정답 배드민턴



**정보** သတင်းအချက်အလက်

# 취미 활동 프로그램

## ဝါသနာအရ လှုပ်ရှားမှု အစီအစဉ်များ

각 지역의 복지관, 외국인근로자센터, 외국인력지원센터, 다문화지원센터 등에서는 외국인들의 즐거운 한국생활을 위해 다양한 교육 프로그램을 지원하고 있습니다. 한국어교육, 컴퓨터, 태권도 프로그램을 통하여 취미 활동을 즐길 수 있습니다.

ရပ်ရွာဒေသ အသီးသီးရှိ လူမှုဝန်ထမ်းဦးစီးဌာန၊ နိုင်ငံခြားသားလုပ်သားထောက်ပံ့ရေးစင်တာ၊ ယဉ်ကျေးမှု ပေါင်းစုံ ထောက်ပံ့ရေးစင်တာတွေကနေ နိုင်ငံခြားသားများရဲ့ ပျော်ရွှင်ဖွယ် ကိုရီးယား လူနေမှုဘဝအတွက် အမျိုးပေါင်းများစွာသော ပညာပေး အစီအစဉ်များကို ပံ့ပိုးကူညီပေးလျက်ရှိပါတယ်။ ကိုရီးယားဘာသာစကား သင်တန်း၊ ကွန်ပျူတာနှင့် တိုက်ကွမ်ဒို သင်တန်းတွေကနေတစ်ဆင့် မိမိ ဝါသနာပါရာကို ရွေးချယ် သင်ယူနိုင်ပါတယ်။




한국어 수업
ကိုရီးယားဘာသာစကား သင်တန်း



컴퓨터 수업
ကွန်ပျူတာ သင်တန်း




태권도 수업
တိုက်ကွမ်ဒို သင်တန်း



요리 수업
ဟင်းချက် သင်တန်း



မေးခွန်း နံပါတ် ၁နဲ့ ၂မှာတော့ ပုံကို ကြည့်ပြီး မှန်တဲ့ စကားလုံးကို ရွေးပေးရမှာပါ။ သေချာ နားထောင်ပြီး အဖြေမှန်ကို ရွေးပါ။



[1~2] 다음 그림을 보고 알맞은 것을 고르십시오.
ပုံကို ကြည့်ပြီး သင့်တော်ရာကို ရွေးပါ။

Track 54

1. ① ② ③ ④

2. ① ② ③ ④



အောက်က ပုစ္ဆာတွေအတွက် မေးခွန်းကို နားထောင်ပြီး အဖြေမှန်ကို ရွေးပေးရမှာပါ။ စကားပြောကို နားမထောင်ခင် ရွေးဖို့ ပေးထားတာတွေကို အရင် ဖတ်ကြည့်ပါ။

[3~5] 질문을 듣고 알맞은 대답을 고르십시오.
မေးခွန်းကို နားထောင်ပြီး သင့်တော်မယ့် အဖြေကို ရွေးပါ။

3. ① 독서예요. ② 독서할래요.
③ 독서 안 해요. ④ 독서하고 싶어요.

4. ① 낚시하러 가요. ② 제 취미는 낚시예요.
③ 친구하고 같이 해요. ④ 시간이 있을 때 해요.

5. ① 일요일에 해요. ② 테니스 치러 가요.
③ 내일이 주말이에요. ④ 음악을 들을 때 기분이 좋아요.

### 듣기 대본 စာသား

1. ① 여: 독서 စာဖတ်ခြင်း
   ② 여: 낚시 ငါးမျှားခြင်း
   ③ 여: 여행 ခရီးထွက်ခြင်း
   ④ 여: 등산 တောင်တက်ခြင်း
2. ① 남: 축구 ဘောလုံးကစားခြင်း
   ② 남: 농구 ဘတ်စကတ်ဘောကစားခြင်း
   ③ 남: 야구 ဘေ့စ်ဘောကစားခြင်း
   ④ 남: 수영 ရေကူးခြင်း
3. 여: 취미가 뭐예요? ဘာဝါသနာပါသလဲ။
4. 남: 주로 언제 낚시를 해요? ပုံမှန် ဘယ်အချိန်လောက် ငါးမျှားလေ့ရှိလဲ။
5. 여: 주말에 보통 뭐 해요? နားရက်မှာ များသောအားဖြင့် ဘာလုပ်လေ့ရှိလဲ။

정답 1. ② 2. ③ 3. ① 4. ④ 5. ②



## 확장 연습 ထပ်ဆောင်း လေ့ကျင့်ရန် L-16

1. 이 사람은 무엇을 하고 있습니까? ပုံထဲကလူ ဘာလုပ်နေတာလဲ။



①　②　③　④

2. 대화를 듣고 질문에 알맞은 것을 고르십시오.
   စကားပြောကို နားထောင်ပြီး မေးခွန်းအတွက် သင့်တော်ရာ အဖြေကို ရွေးပါ။

   남자는 이번 주말에 무엇을 하겠습니까? ယောက်ျားလေးက ဒီတစ်ပတ် နားရက်မှာ ဘာလုပ်မှာပါလဲ။

   ① 자전거를 배울 겁니다.
   ② 야간 근무를 하러 갈 겁니다.
   ③ 여자와 공원에서 산책을 할 겁니다.
   ④ 여자에게 자전거 타는 법을 가르쳐 줄 겁니다.

### 확장 연습 듣기 대본 ထပ်ဆောင်း လေ့ကျင့်ရန် စာသား

1. 남: ① 기타를 치고 있습니다. ဂီတာတီးနေပါတယ်။
   남: ② 피아노를 치고 있습니다. စန္ဒရားတီးနေပါတယ်။
   남: ③ 기타를 고치고 있습니다. ဂီတာပြင်နေပါတယ်။
   남: ④ 피아노를 고치고 있습니다. စန္ဒရားပြင်နေပါတယ်။
2. 여: 리한 씨, 요즘도 바빠요? ရီဟန် အခုတစ်လောရော အလုပ်များသေးလား။
   남: 어제까지 야간근무가 있어서 좀 바빴어요. 오늘부터 다음 주말까지는 별로 바쁘지 않아요.
   မနေ့ကအထိ ညဆိုင်းအလုပ် ရှိလို့ နည်းနည်း အလုပ်များခဲ့ပါတယ်။ ဒီနေ့ကနေ နောက်အပတ် နားရက်အထိတော့ သိပ် အလုပ် မများပါဘူး။
   여: 그래요? 제가 자전거를 배워 보려고 하는데 혹시 좀 가르쳐 줄 수 있어요?
   ဟုတ်လား။ ကျွန်မ စက်ဘီးစီး သင်ကြည့်မလားလို့ အဲ့ဒါ ဖြစ်နိုင်ရင် တစ်ဆိတ်လောက် သင်ပေးနိုင်မလားလို့ပါ။
   남: 그럼요. 주말에 같이 공원에 가요. 제가 가르쳐 드릴게요.
   ဒါပေ့ါဗျာ။ နားရက်မှာ အတူတူ ပန်းခြံကို သွားကြမယ်လေ။ ကျွန်တော် သင်ပေးမှာပေ့ါ။

정답 1. ① 2. ④



# EPS-TOPIK 읽기 EPS-TOPIK အဖတ် စာမေးပွဲ



မေးခွန်း နံပါတ် ၁နဲ့ ၂မှာတော့ ပုံကို ကြည့်ပြီး မှန်တဲ့ ဝါကျကို ရွေးပေးရမှာပါ။ ပေးထားတဲ့ ပုံနဲ့ သင့်တော်တဲ့ ဝါကျကို ရွေးပါ။

[1~2] 다음 그림을 보고 맞는 문장을 고르십시오. အောက်ပါ ပုံကို ကြည့်ပြီး မှန်တဲ့ ဝါကျကို ရွေးပါ။

1.



① 피아노를 쳐요.
② 음악을 들어요.
③ 사진을 찍어요.
④ 외국어를 배워요.

2.



① 축구해요.
② 수영해요.
③ 테니스를 쳐요.
④ 자전거를 타요.



အောက်ပါ မေးခွန်းတွေအတွက် ဝါကျတွေ၊ စကားပြောတွေကို ဖတ်ပြီး ကွက်လပ်ဖြည့်ဖို့ မှန်ကန်တဲ့ အသုံးအနှုန်းတွေကို ရွေးပေးရမှာပါ။ အရင် လေ့လာခဲ့တာတွေကို ပြန်စဉ်းစားပြီး မေးခွန်းတွေကို ဖြေကြည့်ရအောင်။

[3~5] 빈칸에 들어갈 가장 알맞은 것을 고르십시오. ကွက်လပ်ဖြည့်ရန် အသင့်တော်ဆုံး အရာကို ရွေးပါ။

3.

제 취미는 낚시예요. 저는 낚시가 정말 ________. 그래서 시간이 있을 때 항상 낚시를 하러 가요.

ကျွန်တော့် ဝါသနာကတော့ ငါးမျှားတာပါ။ ကျွန်တော် ငါးမျှားရတာ အရမ်း ကြိုက်ပါတယ်။ အဲဒါကြောင့် အချိန်ရတဲ့အခါ အမြဲ ငါးမျှားဖို့ အမြဲ သွားပါတယ်။

① 슬퍼요　② 좋아요　③ 맛있어요　④ 재미없어요

4.

가: ________?

나: 전 주로 자전거를 타러 가요. ကျွန်တော် စက်ဘီးစီးဖို့ ပုံမှန် သွားဖြစ်ပါတယ်။

① 왜 자전거를 타요
② 주말에 보통 뭐 해요
③ 누구하고 자전거를 타요
④ 이번 주말에 시간 있어요

5.

가: 무슨 ________을 좋아해요? ဘယ်အားကစားကို ကြိုက်လဲ။

나: 전 축구를 좋아해요. ကျွန်တော်ကတော့ ဘောလုံးကစားရတာကို ကြိုက်ပါတယ်။

① 음식　② 계절　③ 요일　④ 운동

정답 1. ③ 2. ④ 3. ② 4. ② 5. ④



## 확장 연습 ထပ်ဆောင်း လေ့ကျင့်ရန်

1. 다음 그림을 보고 맞는 단어를 고르십시오. ပုံကို ကြည့်ပြီး သင့်တော်ရာ စကားလုံးကို ရွေးပါ။



① 수영 ② 등산
③ 스키 ④ 볼링

[2~3] 빈칸에 들어갈 가장 알맞은 것을 고르십시오. ကွက်လပ်ဖြည့်ရန် အသင့်တော်ဆုံး အရာကို ရွေးပါ။

2. 요즘 토요일마다 문화센터에서 기타를 배우고 있습니다. 기타를 ________ 게 어렵지만 재미있습니다.

အခုတစ်လော စနေနေ့တိုင်း ယဉ်ကျေးမှုစင်တာမှာ ဂီတာတီးသင်နေပါတယ်။ ဂီတာတီးရတာ ခက်ပေမယ့် အရမ်း စိတ်ဝင်စားစရာ ကောင်းပါတယ်။

① 보는 ② 타는 ③ 찍는 ④ 치는

3. 여권을 만들려면 사진이 필요합니다. 지난 주말에 여권 사진을 ________ 시내에 있는 사진관에 다녀왔습니다.

နိုင်ငံကူးလက်မှတ် လုပ်ဖို့ဆိုရင် ဓာတ်ပုံ လိုပါတယ်။ ပြီးခဲ့တဲ့ အပတ် နားရက်မှာ ပတ်စပို့ဓာတ်ပုံ ရိုက်ဖို့ မြို့ထဲက ဓာတ်ပုံဆိုင်ကို သွားပြီးပြန်လာခဲ့ပါတယ်။

① 찍으러 ② 시키러 ③ 부르러 ④ 만나러

정답 1. ③ 2. ④ 3. ①



## 발음 အသံထွက်



P-05

### သေချာ နားထောင်ပြီး လိုက်ဆိုပါ။

ကိုရီးယားဘာသာစကားမှာ လျှာလိပ်သံက 'ㄹ' တစ်ခုပဲ ရှိပါတယ်။ အဲဒီ 'ㄹ' ဟာ သရ နှစ်ခုအကြားမှာ ရှိရင် [r]သံထွက်ပြီး အသတ် နေရာမှာ ရှိရင်တော့ [l]သံ ထွက်ပါတယ်။

(1) 다리, 우리, 노래, 소리
(2) 달, 말, 쌀, 솔, 하늘




# 휴가 때 제주도에 다녀올 거예요

ပိတ်ရက်မှာ ဂျယ်ဂျူကျွန်းကို အလည်သွားမလို့ပါ။

**학습 안내**
သင်ရိုး အညွှန်း

- □ **သင်ခန်းစာ ရည်ရွယ်ချက်** အတွေ့အကြုံဟောင်းများ ဆွေးနွေးနိုင်ခြင်းနှင့် ခရီးထွက်ရန် ပြင်ဆင်နိုင်ခြင်း
- □ **သဒ္ဒါ** -아/어 보다, -(으)ㄹ 거예요
- □ **ဝေါဟာရ** ခရီးသွားများ ကြိုက်နှစ်သက်လေ့ ရှိသော နေရာများ ခရီးထွက်ရန် ပြင်ဆင်ခြင်းနှင့် လှုပ်ရှားသွားလာမှုများ
- □ **သတင်းအချက်အလက်နှင့် ယဉ်ကျေးမှု** ကိုရီးယားရှိ လည်ပတ်စရာ နေရာများ



## 대화 1 စကားပြော ၁

Track 55



အောက်မှာ ရီဟန်နဲ့ ထူအန်းတို့ စကားပြောနေတာလေးကို ဖော်ပြထားပါတယ်။ သူတို့ နှစ်ယောက် ခရီးသွား အတွေ့အကြုံလေးတွေအကြောင်း ပြောနေကြတာပါ။ အရင်ဆုံး သူတို့ ပြောတာကို နှစ်ခေါက် နားထောင်ပြီး လိုက်ပြောကြည့်ရအောင်။

투안 리한 씨는 제주도에 가 봤어요?
ရီဟန် ဂျယ်ဂျူကျွန်းကို ရောက်ဖူးလား။

리한 네, 가 봤어요.
ဟုတ်ကဲ့၊ ရောက်ဖူးပါတယ်။

투안 제주도가 어땠어요? 좋았어요?
ဂျယ်ဂျူကျွန်းက ဘယ်လိုနေလဲ။ ပျော်ခဲ့ရဲ့လား။

리한 네, 정말 좋았어요.
ဟုတ်ကဲ့၊ အရမ်း ပျော်ခဲ့ပါတယ်။
특히 바다가 너무 아름다웠어요.
အထူးသဖြင့် ပင်လယ်က အရမ်း လှပါတယ်။

투안 어땠어요? 저도 제주도에 가 보고 싶어요.
ဟုတ်လား။ ကျွန်တော်လည်း ဂျယ်ဂျူကျွန်းကို သွားကြည့်ချင်လိုက်တာ။

**특히 အထူးသဖြင့်**
ပုံမှန်ထက် သာလွန်သည်ကို ညွှန်းသည်။

- 저는 운동을 좋아해요. 특히 축구를 좋아해요.
  ကျွန်တော်က အားကစားကို ကြိုက်တယ်။ အထူးသဖြင့် ဘောလုံးကို ကြိုက်တယ်။
- 한국 음식은 아주 맛있어요. 특히 비빔밥이 맛있어요.
  ကိုရီးယား အစားအစာက အရမ်း အရသာရှိတယ်။ အထူးသဖြင့် ထမင်းသုပ်က အရသာရှိတယ်။

**어땠어요? ဘယ်လိုနေလဲ။**
တစ်ဖက်သားရဲ့ အတွေ့အကြုံနဲ့ ပတ်သက်တဲ့ အခြေအနေ၊ အမြင်တို့ကို မေးသောအခါ သုံးသည်။

- 가: 어제 구경한 집은 어땠어요?
  မနေ့က သွားကြည့်တဲ့ အိမ်က ဘယ်လိုနေလဲ။
  나: 깨끗하고 좋았어요. 그런데 월세가 좀 비쌌어요.
  သန့်လို့ သဘောကျနေတာ... ဒါပေမယ့် လခက နည်းနည်း ဈေးကြီးတယ်။

သေချာ နားထောင်ပြီး လိုက်ဆိုခဲ့ရဲ့လား။ ဒါဆိုရင် အောက်က မေးခွန်းတွေ ဖြေကြည့်ရအောင်။

1. 리한 씨는 어디에 가 봤어요? ရီဟန်က ဘယ်ကို ရောက်ဖူးတာလဲ။
2. 제주도가 어때요? ဂျယ်ဂျူကျွန်းက ဘယ်လိုနေလဲ။

정답 1. 제주도 2. 바다가 아름다워요.





## 어휘 1 ဝေါဟာရ ၁ — 여행지 ခရီးသွား ဒေသများ



ဒါကတော့ ကိုရီးယားမှာရှိတဲ့ ခရီးသွားစရာ နေရာတွေနဲ့ ပတ်သက်တဲ့ စကားလုံးလေးတွေပါ။
ဘာတွေရှိလဲဆိုတာ လေ့လာကြည့်ရအောင်။


산
တောင်


동굴
လိုဏ်ဂူ


폭포
ရေတံခွန်


호수
ရေကန်


강
မြစ်


바다
ပင်လယ်


섬
ကျွန်း



온천
ရေပူစမ်း


유적지
သမိုင်းဝင်မြေ


민속촌
တိုင်းရင်းသားကျေးရွာ


놀이공원
ကစားကွင်း


드라마 촬영지
ရုပ်ရှင်ရိုက်ကွင်း


아름답다
လှပသည်


유명하다
နာမည်ကျော်ကြားသည်


경치가 좋다
ရှုခင်းလှသည်


사람들이 친절하다
လူတွေက ဖော်ရွေသည်



အပေါ်က ဝေါဟာရတွေကို မကြည့်ဘဲ မေးခွန်းလေးတွေ ဖြေကြည့်ရအောင်။

1. 그림에 맞는 표현을 〈보기〉에서 골라 넣으세요.
အောက်က ပုံနဲ့ လိုက်မယ့် အသုံးအနှုန်းကို ဥပမာ ဝေါဟာရထဲကနေ ရွေးပြီး ထည့်ပါ။


1)


2)


3)


4)




정답 1) 사람들이 친절하다 2) 아름답다 3) 유명하다 4) 경치가 좋다

## 문법 1 သဒ္ဒါ ၁ -아/어 보다



"ကြိယာနဲ့ တွဲပြီး စမ်းသပ်ကြည့်မှုနဲ့ အတွေ့အကြုံကို ဖော်ပြတဲ့အခါ သုံးပါတယ်။ စမ်းသပ်ကြည့်မှုပုံစံကတော့ '-아/어 봐요' နဲ့ '-아/어 보세요' တွေ ဖြစ်ပြီး '-아/어 봤다' ကတော့ လုပ်ဖူးတယ်ဆိုတဲ့ အတွေ့အကြုံ ဖြစ်ပါတယ်။ သူက ကြိယာ '보다' နဲ့ တွဲမသုံးပါဘူး။"

| ㅏ, ㅗ → -아 보다 | ㅓ, ㅜ, ㅣ စသည်ဖြင့် → -어 보다 | 하다 → 해 보다 |
|---|---|---|
| 가다 → 가 보다<br>앉다 → 앉아 보세요. | 먹다 → 먹어 보다<br>읽다 → 읽어 보다 | 공부하다 → 공부해 보다<br>운동하다 → 운동해 보다 |

- 이 옷을 **입어 보세요**. ဒီ အင်္ကျီကို ဝတ်ကြည့်ပါ။
- 한국에 있을 때 여행을 많이 **해 보고 싶어요**. ကိုရီးယားမှာ ရှိတုန်း ခရီးတွေ အများကြီး ထွက်ချင်ပါတယ်။
- 가: 제주도에 **가 봤어요**? ဂျယ်ဂျူကျွန်းကို ရောက်ဖူးလား။
  나: 네, **가 봤어요**. 마웅 씨도 한번 **가 보세요**.
  ဟုတ်ကဲ့၊ ရောက်ဖူးတယ်။ မောင်မောင်လည်း တစ်ခါလောက် သွားကြည့်ပါလား။





### 대조적 정보 နှိုင်းယှဉ်ချက်

မြန်မာစာမှာတော့ -ကြည့်သည်ကို ဘယ်ကြိယာနောက်မှာမဆို တန်းကပ်ရေးလို့ ရပေမယ့် ကိုရီးယားစာမှာတော့ 보다 ရဲ့ ရှေ့က ကြိယာပေါ်မှာ မူတည်ပြီး '-아/어 보다' နဲ့ '해 보다' ထဲကနေ ရွေးပြီး ပေါင်းစပ်ပေးရပါတယ်။

- 한국음식을 **먹어 보세요**. ကိုရီးယားစာကို စားကြည့်ပါ။
- 서울 타워에 **가 보세요**. ဆိုးလ်မျှော်စင်ကို သွားကြည့်ပါ။



'아/어 보다' ရဲ့ အသုံးကို နားလည်ပြီလား။ ဒါဆိုရင် ဥပမာထဲကလို ဝါကျကို အဆုံးသတ်ကြည့်ပါ။

2. 그림을 보고 〈보기〉처럼 '-아/어 보다'를 사용해서 문장을 완성하세요.
ပုံကို ကြည့်ပြီး ဥပမာထဲက အတိုင်း '-아/어 보다' ကို သုံးပြီး ဝါကျကို အဆုံးသတ်ပါ။

보기



제주도에 가 봤어요. ဂျယ်ဂျူကျွန်းကို ရောက်ဖူးပါတယ်။

1)  바다에서 ______________.

2)  불고기를 ______________.

3)  한복을 ______________.

4)  김치를 ______________.

정답 1) 수영해 봤어요 2) 먹어 봤어요 3) 입어 봤어요 4) 담가 봤어요



## 대화 2 စကားပြော ၂

Track 56



ထူအန်းနဲ့ ဆူရူတို့ နှစ်ယောက် ပိတ်ရက်မှာ လုပ်မယ့် အစီအစဉ်တွေ အကြောင်း ပြောနေကြပါတယ်။ သူတို့ ဘာလုပ်ဖို့ စီစဉ်နေလဲ ဆိုတာ ခန့်မှန်းကြည့်ရအောင်။ အရင်ဆုံး သူတို့ ပြောနေတာကို နှစ်ခေါက် နားထောင်ကြည့်ပါ။ ပြီးရင်တော့ ထူအန်းနဲ့ ဆူရူ ပြောသလို လိုက်ပြောကြည့်ပါ။

투안 수루 씨, 이번 휴가 때 뭐 할 거예요?
ဆူရူ ဒီတစ်ခေါက် ပိတ်ရက်မှာ ဘာလုပ်မှာလဲ။

수루 친구하고 설악산에 갈 거예요.
သူငယ်ချင်းနဲ့ ဆောရာ့တောင်ကို သွားမလို့ပါ။
투안 씨는 뭐 할 거예요?
ထူအန်းရော ဘာလုပ်မှာလဲ။

투안 저는 제주도에 다녀올 거예요.
ကျွန်တော်ကတော့ ဂျယ်ဂျူကျွန်းကို အလည်သွားမလို့ပါ။

수루 비행기 표는 샀어요?
လေယာဉ်လက်မှတ်ရော ဝယ်ပြီးပြီလား။

투안 네, 숙소도 벌써 다 예약했어요.
ဟုတ်ကဲ့၊ တည်းဖို့တောင် အားလုံး ကြိုပြီး ဘွတ်ကင်လုပ်ထားပြီးပြီလေ။

**이번 (지난 / 다음)**
ဒီတစ်ခေါက်(ပြီးခဲ့တဲ့/နောက်)

N နဲ့ တွဲပြီး ဘယ်အချိန်လဲဆိုတာကို ညွှန်းသည်။

- 이번 주말에 테니스를 치러 가요.
  ဒီတစ်ခေါက် နားရက်မှာ တင်းနစ် ရိုက်ဖို့ သွားရအောင်။
- 지난해에 한국에 왔어요.
  ပြီးခဲ့တဲ့ နှစ်က ကိုရီးယားကို လာခဲ့တာပါ။
- 다음 휴가에는 제주도에 갈 거예요.
  နောက်ပိတ်ရက်မှာတော့ ဂျယ်ဂျူကျွန်းကို သွားမလို့ပါ။

**N 때 N (အချိန်)မှာ**

N ကို လုပ်တဲ့ အချိန်ကို ညွှန်းသည်။

- 오늘 점심 때 뭐 먹었어요?
  ဒီနေ့ နေ့လယ်မှာ ဘာစားခဲ့လဲ။
- 방학 때 고향에 갈 거예요.
  ကျောင်းပိတ်ရက်မှာ မွေးရပ်မြေကို ပြန်မလို့ပါ။



သေချာ နားထောင်ပြီး လိုက်ဆိုခဲ့ရဲ့လား။ ဒါဆိုရင် အောက်က မေးခွန်းတွေ ဖြေကြည့်ရအောင်။

1. 수루 씨는 이번 휴가 때 뭐 할 거예요? ဆူရူ ဒီတစ်ခေါက် ပိတ်ရက်မှာ ဘာလုပ်မှာလဲ။
2. 투안 씨는 휴가 때 어디에 갈 거예요? ထူအန်းက ပိတ်ရက်မှာ ဘယ်ကို သွားမှာလဲ။

정답 1. 설악산에 갈 거예요. 2. 제주도

**Tip 숙소** တည်းခိုရာနေရာများ


호텔
တည်းခိုခန်း


콘도
ကွန်ဒိုရိပ်မွန်



여관
ဧည့်ရိပ်သာ



민박
ဒေသခံတည်းခိုအိမ်


펜션
လုံးချင်းဧည့်ရိပ်မွန်


유스호스텔
လူငယ်ဧည့်ရိပ်သာ



## 어휘 2 ဝေါဟာရ ၂

### 여행 준비와 활동 ခရီးထွက်ရန် ပြင်ဆင်ခြင်းနှင့် လှုပ်ရှားသွားလာမှုများ

ခရီးသွားဖို့ ပြင်တဲ့အခါ သုံးတဲ့ စကားလုံးတွေနဲ့ အားလပ်ချိန် လုပ်စရာတွေကို ဖော်ပြတဲ့ အသုံးအနှုန်းလေးတွေ ဘာတွေရှိလဲဆိုတာ လေ့လာကြည့်ရအောင်။




여행을 계획하다
ခရီးအတွက် စီစဉ်သည်



여행을 준비하다
ခရီးအတွက် ပြင်ဆင်သည်




표를 사다
လက်မှတ်ဝယ်သည်




숙소를 예약하다
တည်းရာနေရာ ဘွတ်ကင်လုပ်သည်



짐을 싸다
အထုပ်အပိုးပြင်သည်




출발하다
ထွက်ခွာသည်




도착하다
ဆိုက်ရောက်သည်



짐을 풀다
အထုပ်အပိုးဖြည်သည်



묵다
တည်းခိုသည်



박물관을 관람하다
ပြတိုက်ကို လှည့်လည်ကြည့်ရှုသည်




축제를 구경하다
ပွဲတော် လျှောက်လည်သည်




기념품을 사다
အမှတ်တရပစ္စည်း ဝယ်သည်



အပေါ်မှာ လေ့လာခဲ့တဲ့ ဝေါဟာရတွေကို ပြန်စဉ်းစားရင်း မေးခွန်းတွေ ဖြေကြည့်ကြရအောင်။

1. 그림에 맞는 표현을 <보기>에서 골라 넣으세요.
အောက်ကပုံနဲ့ လိုက်မယ့် အသုံးအနှုန်းကို ဥပမာ ဝေါဟာရထဲကနေ ရွေးပြီး ထည့်ပါ။



1) ______ 2) ______ 3) ______ 4) ______

**보기** 표를 사다 / 짐을 싸다 / 기념품을 사다 / 박물관을 관람하다

정답 1) 기념품을 사다 2) 박물관을 관람하다 3) 표를 사다 4) 짐을 싸다

## 문법 2 သဒ္ဒါ ၂ -(으)ㄹ 거예요




ကြိယာနဲ့ တွဲဖက်ပြီး အနာဂတ်မှာ လုပ်ဆောင်မယ့် အရာကို ဖော်ပြပါတယ်။

| 자음 (ဗျည်း) → **-을 거예요** | 모음 (သရ), 자음 (ဗျည်း) 'ㄹ' → **-ㄹ 거예요** |
|---|---|
| 읽다 → 읽**을 거예요** | 자다 → **잘 거예요**<br>알다 → **알 거예요** |

- 가: 오늘 저녁을 어디에서 **먹을 거예요?** ဒီနေ့ ညနေစာကို ဘယ်မှာ စားမှာလဲ။
  나: 집에서 **먹을 거예요**. အိမ်မှာ စားမလို့ပါ။
- 가: 이번 연휴에 뭐 **할 거예요**? ဒီတစ်ခေါက် ပိတ်ရက်ရှည်မှာ ဘာ လုပ်မှာလဲ။
  나: 친구를 만나러 부산에 **갈 거예요**. သူငယ်ချင်းကို တွေ့ဖို့ ဘူဆန်ကို သွားမလို့ပါ။



'-(으)ㄹ 거예요' ရဲ့ အသုံးကို နားလည်ပြီလား။ ဒါဆိုရင် ဥပမာထဲကလို စကားပြောကို အဆုံးသတ်ကြည့်ပါ။

2. 그림을 보고 〈보기〉처럼 '-(으)ㄹ 거예요'를 사용해서 대화를 완성하세요.
ပုံကို ကြည့်ပြီး ဥပမာထဲက အတိုင်း '-(으)ㄹ 거예요' ကို သုံးပြီး ဝါကျကို အဆုံးသတ်ပါ။

보기



가: 내일 뭐 할 거예요? မနက်ဖြန် ဘာလုပ်မှာလဲ။
나: 집에서 쉴 거예요. အိမ်မှာ နားမလို့ပါ။

1) 가: 내일 뭐 할 거예요?
나: 친구를 ______________________.

2) 가: 주말에 뭐 할 거예요?
나: 부산에 ______________________.



3) 가: 휴가 때 뭐 할 거예요?
나: 친구하고 같이 ______________________.





4) 가: 휴가 때 뭐 할 거예요?
나: 제주도에 ______________________.

정답 1) 만날 거예요 2) 갈 거예요 3) 여행 갈 거예요 4) 갈 거예요



## 활동 အသုံးချသင်ခန်းစာများ

〈보기〉처럼 친구와 이야기해 보세요. ဥပမာမှာ ပြထားသလို သူငယ်ချင်းနဲ့ စကားပြောကြည့်ပါ။

보기

가: 리한 씨는 어디에 가 봤어요? ရီဟန် ဘယ်ကို ရောက်ဖူးလဲ။
나: 제주도에 가 봤어요. ဂျယ်ဂျူကျွန်းကို ရောက်ဖူးတယ်။
가: 어땠어요? ဘယ်လိုနေလဲ။
나: 경치가 정말 아름다웠어요. ရှုခင်းတွေ အရမ်း လှတယ်။

| | 이름<br>အမည် | 어디에 가 봤어요?<br>ဘယ်ကို ရောက်ဖူးသလဲ။ | 어땠어요?<br>ဘယ်လို ခံစားခဲ့ရလဲ။ |
|---|---|---|---|
| 보기 | 리한 | 제주도<br>ဂျယ်ဂျူကျွန်း | 경치가 정말 아름다웠어요<br>ရှုခင်းတွေ အရမ်း လှတယ်။ |
| 1) | 투안 | 부산<br>ဘူဆန် | 맛있는 음식이 많았어요<br>အရသာရှိတဲ့ အစားအစာတွေ များတယ် |
| 2) | | | |
| 3) | | | |
| 4) | | | |
| 5) | | | |

### 퀴즈 ဉာဏ်စမ်းမေးခွန်း

✚ 다음 단어를 보고 끝말잇기를 해 보세요.

အောက်ပါ ဝေါဟာရများကို ကြည့်ပြီး ရှေ့ ဝေါဟာရမှ နောက်ဆုံးစာလုံးကို အစစာလုံးအဖြစ် ပြန်ယူကာ ဝေါဟာရ နောက်တစ်ခု ဖြစ်အောင် ပြန်ရေးကြည့်ပါ။

지도 ➡ 도시 ➡ 시(　) ➡ (　)

정답 계 → 계획



## 정보 သတင်းအချက်အလက်

# 한국의 관광지

### ကိုရီးယားမှ လည်ပတ်စရာ နေရာများ

강원도
ဂန်ဝန်ပြည်နယ်

속초
ဆိုချို

강릉
ဂန်နွန်း

춘천
ချွန်းချောန်

서울 시티투어
ဆိုးလ်မြို့ပတ်ခရီးစဉ်

63빌딩
၆၃ထပ်တိုက်

한강 유람선
ဟန်မြစ်အပျော်စီးသင်္ဘော

경복궁
ဂယောင်ဘို့ နန်းတော်

경주
ဂယောင်ဂျူ

불국사
ဘူလ်ဂု ဘုန်းကြီးကျောင်း

서해안
အနောက် ကမ်းရိုးတန်း

대천 해수욕장
ဒယ်ချောန် ကမ်းခြေ

부산
ဘူဆန်

해운대
ဟယ်အွန်းဒယ် ကမ်းခြေ

제주도
ဂျယ်ဂျူကျွန်း

한라산
ဟာလာတောင်

### 알아 두세요! 외국인력지원센터의 단체 여행

သိထားရင် အမြတ်ချည်းပါ။ နိုင်ငံခြားသားလုပ်သားထောက်ပံ့ရေးစင်တာရဲ့ အုပ်စုလိုက် ခရီးသွားအစီအစဉ်

가까운 외국인지원센터나 외국인상담소의 여행 정보를 이용하면 저렴하고 재미있는 단체 여행 정보를 얻을 수 있습니다.

အနီးအနားက နိုင်ငံခြားသားလုပ်သားထောက်ပံ့ရေးစင်တာ မှာပဲဖြစ်ဖြစ်၊ နိုင်ငံခြားသား တိုင်ပင်ဆွေးနွေးဌာန မှာပဲဖြစ်ဖြစ် ခရီးသွားတာနဲ့ ပတ်သက်တဲ့ သတင်းအချက်အလက်များ ရယူခြင်းဖြင့် လွယ်ကူသက်သာတဲ့ ပျော်ရွှင်စရာ အုပ်စုလိုက် ခရီးသွားအစီအစဉ်တွေကို သိရှိခံစားနိုင်မှာ ဖြစ်ပါတယ်။



## EPS-TOPIK 듣기 EPS-TOPIK အကြား စာမေးပွဲ



မေးခွန်း နံပါတ် ၁နဲ့ ၂မှာတော့ ပုံကို ကြည့်ပြီး မှန်တဲ့ စကားလုံးကို ရွေးပေးရမှာပါ။ သေချာ နားထောင်ပြီး အဖြေမှန်ကို ရွေးပါ။



[1~2] 다음 그림을 보고 알맞은 것을 고르십시오.
ပုံကို ကြည့်ပြီး သင့်တော်ရာကို ရွေးပါ။

Track 57

1. ① ② ③ ④

2. ① ② ③ ④



အောက်က ပုစ္ဆာတွေအတွက် မေးခွန်းကို နားထောင်ပြီး အဖြေမှန်ကို ရွေးပေးရမှာပါ။ စကားပြောကို နားမထောင်ခင် ရွေးဖို့ ပေးထားတာတွေကို အရင် ဖတ်ကြည့်ပါ။

[3~5] 질문을 듣고 알맞은 대답을 고르십시오.
မေးခွန်းကို နားထောင်ပြီး သင့်တော်မယ့် အဖြေကို ရွေးပါ။

3. ① 네, 안 봤어요. ② 네, 가 봤어요.
③ 아니요, 보고 싶어요. ④ 아니요, 작년에 갔어요.

4. ① 작년에 갔어요. ② 많이 바빴어요.
③ 정말 아름다웠어요. ④ 친구하고 같이 갔어요.

5. ① 내일 할 거예요. ② 동생이 다녀올 거예요.
③ 제주도에 다녀올 거예요. ④ 시간이 있을 때 할 거예요.

### 듣기 대본 စာသား

1. ① 남: 산 တောင်　　② 남: 동굴 လိုဏ်ဂူ
   ③ 남: 바다 ပင်လယ်　　④ 남: 민속촌 တိုင်းရင်းသားကျေးရွာ
2. ① 여: 독서 စာဖတ်ခြင်း　　② 여: 여행 ခရီး
   ③ 여: 요리 ချက်ပြုတ်ခြင်း　　④ 여: 낚시 ငါးမျှားခြင်း
3. 남: 제주도에 가 봤어요? ဂျယ်ဂျူကျွန်းကို ရောက်ဖူးလား။
4. 여: 설악산이 어땠어요? ဆောရာ့တောင်က ဘယ်လိုနေလဲ။
5. 남: 휴가 때 뭐 할 거예요? ပိတ်ရက်မှာ ဘာလုပ်မှာလဲ။


정답 1. ③ 2. ② 3. ② 4. ③ 5. ③



### 확장 연습 ထပ်ဆောင်း လေ့ကျင့်ရန် L-17

1. 여기는 어디입니까? ဒါ ဘယ်နေရာလဲ။



① ② ③ ④

2. 잘 듣고 들은 내용과 관계있는 그림을 고르십시오.
သေချာ နားထောင်ပြီး သက်ဆိုင်တဲ့ ပုံကို ရွေးပါ။

①



②



③



④



### 확장 연습 듣기 대본 ထပ်ဆောင်း လေ့ကျင့်ရန် စာသား

1. 남: ① 해수욕장입니다. ကမ်းခြေပါ။　　남: ② 국제공항입니다. အပြည်ပြည်ဆိုင်ရာလေဆိပ်ပါ။
   남: ③ 놀이공원입니다. ကစားကွင်းပါ။　　남: ④ 버스 터미널입니다. အဝေးပြေးဘတ်စ်ကားဂိတ်ပါ။
2. 남: 제주도에 몇 박 며칠로 여행 가요? ဂျယ်ဂျူကျွန်းကို ဘယ်နှစ်ညအိပ်ခရီး သွားမှာလဲ။
   여: 2박 3일로 가려고요. ၂ ညအိပ် ၃ရက် သွားမှာပါ။

정답 1. ③ 2. ②



## EPS-TOPIK 읽기 EPS-TOPIK အဖတ် စာမေးပွဲ



မေးခွန်း နံပါတ် ၁နဲ့ ၂မှာတော့ ပုံကို ကြည့်ပြီး မှန်တဲ့ ဝါကျကို ရွေးပေးရမှာပါ။ ပေးထားတဲ့ ပုံနဲ့ သင့်တော်တဲ့ ဝါကျကို ရွေးပါ။

[1~2] 다음 그림을 보고 맞는 문장을 고르십시오. အောက်ပါ ပုံကို ကြည့်ပြီး မှန်တဲ့ ဝါကျကို ရွေးပါ။

1.



① 약속이 있어요. ② 기분이 좋아요.
③ 경치가 좋아요. ④ 시간이 있어요.

2.



① 짐을 싸요. ② 짐이 같아요.
③ 짐이 없어요. ④ 짐을 안 봐요.



အောက်ပါ မေးခွန်းတွေအတွက် ဝါကျတွေ၊ စကားပြောတွေကို ဖတ်ပြီး ကွက်လပ်ဖြည့်ဖို့ မှန်ကန်တဲ့ အသုံးအနှုန်းတွေကို ရွေးပေးရမှာပါ။ အရင် လေ့လာခဲ့တာတွေကို ပြန်စဉ်းစားပြီး မေးခွန်းတွေကို ဖြေကြည့်ရအောင်။

[3~5] 빈칸에 들어갈 가장 알맞은 것을 고르십시오. ကွက်လပ်ဖြည့်ရန် အသင့်တော်ဆုံး အရာကို ရွေးပါ။

3.

저는 설악산에 안 가 봤어요. 설악산에 너무 가고 싶어요. 그래서 이번 휴가 때 ______________.
ကျွန်တော်ကတော့ ဆောရာ့တောင်ကို မရောက်ဖူးသေးဘူး။ ဆောရာ့တောင်ကို အရမ်း သွားချင်တယ်။
အဲ့ဒါကြောင့် ဒီတစ်ခေါက် ပိတ်ရက်မှာ ဆောရာ့တောင်ကို သွားမလို့ပါ။

① 집에서 쉴 거예요 ② 바다를 볼 거예요
③ 친구를 만날 거예요 ④ 설악산에 갈 거예요

4.

가: 이번 주말에 ____________ 할 거예요? ဒီတစ်ပတ် နားရက်မှာ ဘာလုပ်မှာလဲ။
나: 부산에 갈 거예요. ဘူဆန်ကို သွားမလို့ပါ။

① 왜 ② 뭐 ③ 누가 ④ 언제

5.

저는 이번 휴가 때 제주도에 갈 거예요. 그래서 어제 비행기 표를 ______________. 오늘 숙소도 예약했어요.
ကျွန်တော် ဒီတစ်ခေါက် ပိတ်ရက်မှာ ဂျယ်ဂျူကျွန်းကို သွားမလို့ပါ။ အဲ့ဒါကြောင့် မနေ့က လေယာဉ်လက်မှတ်ကို ဝယ်ခဲ့ပါတယ်။ ဒီနေ့ တည်းမယ့် နေရာလည်း ဘွတ်ကင်လုပ်လိုက်တယ်။

① 샀어요 ② 풀었어요 ③ 출발했어요 ④ 참여했어요

정답 1. ③ 2. ① 3. ④ 4. ② 5. ①



## 확장 연습 ထပ်ဆောင်း လေ့ကျင့်ရန်

[1~3] 빈칸에 들어갈 가장 알맞은 것을 고르십시오.
ကွက်လပ်ဖြည့်ရန် အသင့်တော်ဆုံး အရာကို ရွေးပါ။

1.
가: 지금 밖의 날씨가 어때요? က။ အခု အပြင်မှာ ရာသီဥတု ဘယ်လိုနေလဲ။
나: 바람이 ___________. ခ။ လေတိုက်နေပါတယ်။

① 가요　② 와요
③ 불어요　④ 나와요

2.
버스나 지하철에는 노약자석이 있습니다. 이곳은 연세가 많은 분이나 장애인, 임산부등을 위한 ___________입니다.

ဘတ်စ်ကား ဒါမှမဟုတ် မြေအောက်ရထားမှာ ဦးစားပေးထိုင်ခုံ ရှိပါတယ်။ ဦးစားပေးထိုင်ခုံကတော့ သက်ကြီးရွယ်အိုတွေ ဒါမှမဟုတ် မသန်စွမ်းတွေနဲ့ ကိုယ်ဝန်ဆောင်သည်တွေအတွက် နေရာဖြစ်ပါတယ်။

① 입구　② 자리
③ 지역　④ 위치

3.
저와 친구는 생활 습관이 ___________. 저는 아침 일찍 일어나고 일찍 잡니다. 친구는 밤늦게까지 공부하고 아침에 늦게 일어납니다.

ကျွန်တော်နဲ့ ကျွန်တော့် သူငယ်ချင်းက နေပုံထိုင်ပုံ ကွာပါတယ်။ ကျွန်တော်ကတော့ မနက် အစောကြီး ထပြီး စောစော အိပ်ပါတယ်။ သူငယ်ချင်းကတော့ ညဉ့်နက်တဲ့အထိ စာကျက်ပြီး မနက် နောက်ကျမှ ထပါတယ်။

① 다릅니다　② 비슷합니다
③ 게으릅니다　④ 부지런합니다

정답 1. ③ 2. ② 3. ①



## 발음 အသံထွက်




### သေချာ နားထောင်ပြီး လိုက်ဆိုပါ။

**ကိုရီးယားဘာသာစကားမှာ သံပြေ(ဆ)(ㅅ [s])နဲ့ သံပြင်း (စ)(ㅆ [s'])အသံတွေ ရှိပါတယ်။**

(1) 싸, 사 : 싸다, 사다 : 쌀, 살
(2) 딸기를 사요.
(3) 유리가 싸요.




# 버스나 지하철을 타고 가요

ဘတ်စ်ကား ဒါမှမဟုတ် မြေအောက်ရထား စီးပြီး သွားပါတယ်။

**학습 안내**
သင်ရိုး အညွှန်း

- □ **သင်ခန်းစာ ရည်ရွယ်ချက်** လမ်းပန်းဆက်သွယ်ရေးနှင့် ကြာချိန်အကြောင်း ပြောဆိုနိုင်ခြင်း
- □ **သဒ္ဒါ** (이)나, 에서 까지
- □ **ဝေါဟာရ** လမ်းပန်းဆက်သွယ်ရေး၊ သယ်ယူပို့ဆောင်ရေး
- □ **သတင်းအချက်အလက်နှင့် ယဉ်ကျေးမှု** အများသုံးယာဉ်များ အသုံးပြုနည်း



## 대화 1 စကားပြော ၁





အောက်မှာ ထူအန်းနဲ့ မင်ဆူတို့ စကားပြောနေတာလေးတွေကို ဖော်ပြထားပါတယ်။ သူတို့ နှစ်ယောက် မြို့တော်ခန်းမကို ဘယ်လို သွားရမယ် ဆိုတဲ့ အကြောင်း ပြောနေကြတာပါ။ အရင်ဆုံး သူတို့ ပြောတာကို နှစ်ခေါက် နားထောင်ပြီး လိုက်ပြောကြည့်ရအောင်။

투안 **시청에 어떻게 가요?**
မြို့တော်ခန်းမကို ဘယ်လိုသွားရလဲ။

민수 **버스나 지하철을 타고 가세요.**
ဘတ်စ်ကား ဒါမှမဟုတ် မြေအောက်ရထား စီးပြီး သွားပါ။

투안 **뭐가 더 빨라요?**
ဘာက ပိုမြန်လဲ။

민수 **지금은 버스가 좀 더 빠를 거예요.**
အခုအချိန်ဆိုရင်တော့ ဘတ်စ်ကားက နည်းနည်း ပိုမြန်ပါလိမ့်မယ်။

투안 **몇 번 버스를 타고 가요?**
ဘတ်စ်ကား နံပါတ် ဘယ်လောက်ကို စီးပြီး သွားရမလဲ။

민수 **1번이나 2번 버스를 타고 가세요.**
နံပါတ် ၁ ဒါမှမဟုတ် နံပါတ် ၂ ကားကို စီးပြီး သွားပါ။

> **더 ထပ်**
> ရှိရင်းအတိုင်းအတာ တစ်ခုထက် ပိုမို သာလွန်သည့် အရာ
> - 한국어를 더 잘하면 좋겠어요.
>   ကိုရီးယားစကားကို ဒီ့ထက် ပိုတော်ရင် ကောင်းမယ်။
> - 가: 오늘 날씨가 추워요? 어제 날씨가 추워요?
>   ဒီနေ့ ရာသီဥတုက အေးလား။ မနေ့က ရာသီဥတုက အေးလား။
>
>   나: 오늘 날씨가 더 추워요.
>   ဒီနေ့ ပို အေးတယ်။

သေချာ နားထောင်ပြီး လိုက်ဆိုခဲ့ရဲ့လား။ ဒါဆိုရင် အောက်က မေးခွန်းတွေ ဖြေကြည့်ရအောင်။

1. 투안 씨는 어디에 가려고 해요? ထူအန်းက ဘယ်ကို သွားမလို့ လုပ်နေတာလဲ။
2. 투안 씨는 무엇을 타고 갈 거예요? ထူအန်းက ဘာကို စီးပြီး သွားမှာလဲ။

정답 1. 시청 2. 버스



## 어휘 1 ဝေါဟာရ ၁ 교통 လမ်းပန်းဆက်သွယ်ရေး



ဒါကတော့ လမ်းပန်းဆက်သွယ်ရေးနဲ့ သက်ဆိုင်တဲ့ အသုံးအနှုန်းလေးတွေပါ။ ဘာတွေရှိလဲဆိုတာ လေ့လာကြည့်ရအောင်။



마을버스
မြို့တွင်း ခရီးတို ဘတ်စ်ကား



시내버스
မြို့တွင်းပတ် ဘတ်စ်ကား



시외/고속버스
အဝေးပြေးကား



택시
တက္ကစီ



기차
ရထား



KTX(고속열차)
ကျည်ဆန်ရထား



지하철
မြေအောက်ရထား



비행기
လေယာဉ်ပျံ



배
သင်္ဘော



버스 정류장
ဘတ်စ်ကား မှတ်တိုင်



버스터미널
အဝေးပြေး ကားဂိတ်



택시 승강장
တက္ကစီ ဂိတ်



기차역
ရထားဘူတာရုံ



지하철역
မြေအောက်ရထားဘူတာရုံ



공항
လေဆိပ်



여객터미널(선착장)
သင်္ဘောဆိပ်(ဇက်ဆိပ်)



အပေါ်က ဝေါဟာရတွေကို မကြည့်ဘဲ မေးခွန်းလေးတွေ ဖြေကြည့်ရအောင်။

1. 사진에 맞는 표현을 〈보기〉에서 골라 넣으세요.
အောက် ပုံနဲ့ လိုက်မယ့် အသုံးအနှုန်းကို ဥပမာ ဝေါဟာရထဲကနေ ရွေးပြီး ထည့်ပါ။



1)



2)



3)



4)



보기
배
버스
비행기
기차

정답 1) 버스 2) 기차 3) 배 4) 비행기

## 문법 1 သဒ္ဒါ ၁ (이)나




နာမ်နဲ့ တွဲဖက်ပြီး တစ်ခု မဟုတ် တစ်ခု ရွေးချယ်တဲ့ အဓိပ္ပာယ်ကို ဖော်ပြလိုတဲ့ အခါမှာ သုံးပါတယ်။

| 자음 (ဗျည်း) → **이나** | 모음 (သရ) → **나** |
| --- | --- |
| 수박 → 수박**이나** | 딸기 → 딸기**나** |

- 시원한 **음료수나** 물을 마시고 싶어요. ခပ်အေးအေး အအေး ဒါမှမဟုတ် ရေလေး သောက်ချင်ပါတယ်။
- 우리 **토요일이나** 일요일에 만나요. ကျွန်တော်တို့ စနေ ဒါမှမဟုတ် တနင်္ဂနွေနေ့ တွေ့ကြမယ်နော်။



'(이)나' ရဲ့ အသုံးကို နားလည်ပြီလား။ ဒါဆိုရင် ဥပမာထဲကလို စကားပြောကို အဆုံးသတ်ကြည့်ပါ။

2. 그림을 보고 <보기>처럼 대화를 완성하세요. ပုံကို ကြည့်ပြီး ဥပမာထဲက အတိုင်း ဝါကျကို ပြည့်စုံအောင် ဖြည့်ပါ။






가: 집에 어떻게 가요? အိမ်ကို ဘယ်လို ပြန်လဲ။
나: <u>버스나 택시를</u> 타고 가요. ဘတ်စ်ကား ဒါမှမဟုတ် တက္ကစီ စီးပြီး သွားပါတယ်။

1) 

가: 회사에 어떻게 가요?
나: ____________________ 타고 가요.

2) 

가: 제주도에 어떻게 가요?
나: ____________________ 타고 가요.

3) 

가: 아침에 보통 뭘 먹어요?
나: ____________________ 먹어요.

4) 

가: 주말에 보통 뭐 해요?
나: ____________________ 해요.

정답 1) 버스나 지하철을 2) 비행기나 배를 3) 빵이나 김밥을 4) 운동이나 쇼핑을

### 유용한 표현 အသုံးဝင်သော အသုံးအနှုန်းများ

**제가 낼게요.** ကျွန်တော် ရှင်းမှာ။

가: 많이 드세요. **제가 낼게요.** များများ စားကြနော်။ ဒီနေ့ **ကျွန်တော် ရှင်းမှာ**။
나: 감사합니다. ကျေးဇူးတင်ပါတယ်။



## 대화 2 စကားပြော ၂

Track 59



ထူအန်းနဲ့ ဆူရူတို့ နှစ်ယောက် ရုံးတက်ချိန်အကြောင်း ပြောနေကြတယ်။ သူတို့ ဘာအကြောင်း ပြောနေလဲဆိုတာ ခန့်မှန်းကြည့်ရအောင်။ အရင်ဆုံး သူတို့ ပြောတာကို နှစ်ခေါက် နားထောင်ကြည့်ပါ။ ပြီးရင်တော့ ထူအန်းနဲ့ ဆူရူ ပြောသလို လိုက်ပြောကြည့်ပါ။

투안　수루 씨는 여기까지 어떻게 왔어요?
ဆူရူ ဒီအထိ ဘာနဲ့ လာတာလဲ။

수루　저는 회사가 가까워서 걸어왔어요.
ကျွန်မကတော့ ရုံးနဲ့ နီးလို့ လမ်းလျှောက်လာခဲ့တာ။
투안 씨는 어떻게 왔어요?
ထူအန်းကရော ဘာနဲ့ လာတာလဲ။

투안　오늘은 버스를 타고 왔어요.
ဒီနေ့တော့ ဘတ်စ်ကား စီးပြီး လာခဲ့ပါတယ်။

수루　회사**에서** 여기**까지** 시간이 얼마나 걸려요?
ရုံးကနေ ဒီအထိ အချိန် ဘယ်လောက်လောက် ကြာလဲ။

투안　보통 30분 정도 **걸려요**.
하지만 출퇴근 시간에는 차가 **막혀서** 시간이 좀 더 걸려요.
များသောအားဖြင့် မိနစ် ၃၀လောက် ကြာပါတယ်။ ဒါပေမယ့် ရုံးတက် ရုံးဆင်းချိန်မှာတော့ ကားပိတ်လို့ အချိန် နည်းနည်း ပိုကြာပါတယ်။

> **걸리다** ကြာသည်
> တစ်ခုခု လုပ်တာ ပြီးမြောက်ရန် လိုအပ်သော အချိန်
> · 집에서 회사까지 30분이 걸려요.
> အိမ်ကနေ ရုံးအထိ မိနစ်၃၀ ကြာပါတယ်။
> · 이 일을 다 끝내려면 3일이 걸려요.
> ဒီ အလုပ်ကို အကုန် အပြီးသတ်ဖို့ ဆိုရင် ၃ရက် ကြာပါမယ်။

> **막히다** ပိတ်သည်
> ယာဉ်ကြောပိတ်ဆို့မှုကြောင့် မလှုပ်နိုင် ဖြစ်နေသည်
> · 출근 시간에는 길이 막히는 곳이 많아요.
> ရုံးတက်ချိန်မှာတော့လမ်းပိတ်တဲ့ နေရာ များတယ်။
> · 교통사고가 나서 길이 많이 막혀요.
> ယာဉ်မတော်တဆမှုဖြစ်လို့ လမ်း အရမ်း ပိတ်နေပါတယ်။



သချာ နားထောင်ပြီး လိုက်ဆိုခဲ့ရဲ့လား။ ဒါဆိုရင် အောက်က မေးခွန်းတွေ ဖြေကြည့်ရအောင်။

1. 수루 씨는 회사에 어떻게 왔어요? ဆူရူက ရုံးကို ဘယ်လို လာခဲ့တာလဲ။
2. 투안 씨는 무엇을 타고 왔어요? ထူအန်းက ဘာ စီးပြီး လာခဲ့တာလဲ။

정답　1. 걸어왔어요.　2. 버스를 타고 왔어요.

**Tip 교통 상황** ယာဉ်ကြော အခြေအနေ


출근 시간
ရုံးတက်ချိန်


퇴근 시간
ရုံးဆင်းချိန်


출퇴근 시간
ရုံးတက်ရုံးဆင်းချိန်


차가 막히다
ယာဉ်ကြောပိတ်ဆို့သည်



## 어휘 2 ဝေါဟာရ ၂ | 이동 သွားလာရေး

လမ်းပန်းဆက်သွယ်ရေးနဲ့ ပတ်သက်တဲ့ စကားလုံးတွေကို ဘာတွေရှိလဲဆိုတာ လေ့လာကြည့်ရအောင်။



타다
စီးသည်




타고 가다
စီးသွားသည်




(버스를) 타고 오다
(ဘတ်စ်ကား) စီးပြီး လာသည်



걷다
လမ်းလျှောက်သည်




걸어가다
လမ်းလျှောက်သွားသည်




걸어오다
လမ်းလျှောက်လာသည်



내리다
ဆင်းသည်




갈아타다/환승하다
ပြောင်းစီးသည်




지나다
ဖြတ်သွားသည်



အပေါ်မှာ လေ့လာခဲ့တဲ့ ဝေါဟာရတွေကို ပြန်စဉ်းစားရင်း မေးခွန်းတွေ ဖြေကြည့်ကြရအောင်။

1. 그림에 맞는 표현을 〈보기〉에서 골라 넣으세요.
အောက်က ပုံနဲ့ လိုက်မယ့် အသုံးအနှုန်းကို ဥပမာ ဝေါဟာရထဲကနေ ရွေးပြီး ထည့်ပါ။

| 1) | 2) | 3) | 4) |
|---|---|---|---|

**보기** 걷다 타다 내리다 지나다

정답 1) 타다 2) 내리다 3) 걷다 4) 지나다




'에서' က ပြုလုပ်မှုတွေ ဖြစ်ပွားနေတဲ့ နေရာကို ဖော်ပြတယ်။ ဒါပေမဲ့ ဝါကျထဲမှာ ကြိယာက '가다, 오다, 떠나다, 출발하다' တွေဆိုရင် ထွက်ခွာရာပြ စကားလုံးဖြစ်သွားတယ်။

- 가: **집**에서 **회사**까지 어떻게 가요? အိမ်ကနေ ရုံးအထိ ဘယ်လို သွားလဲ။
  나: 저는 버스를 타고 가요. ကျွန်တော်ကတော့ ဘတ်စ်ကား စီးပြီး သွားပါတယ်။
- 가: **여기**에서 **시청**까지 얼마나 걸려요? ဒီကနေ မြို့တော်ခန်းမအထိ ဘယ်လောက်လောက် ကြာလဲ။
  나: 30분쯤 걸려요. မိနစ် ၃၀လောက် ကြာပါတယ်။

### 비교해 보세요 နှိုင်းယှဉ်ကြည့်ပါ။

**✓ ထွက်ခွာရာပြ '에서' နဲ့ နေရာပြ '에서'**

'에서' က ပြုလုပ်မှုတွေ ဖြစ်ပွားနေတဲ့ နေရာကို ဖော်ပြတယ်။ ဒါပေမဲ့ ဝါကျထဲမှာ ကြိယာက '가다, 오다, 떠나다, 출발하다' တွေဆိုရင် ထွက်ခွာရာပြ စကားလုံးဖြစ်သွားတယ်။

- 집**에서** 쉴 거예요. (နေရာ)
- 집**에서** 출발할 거예요. (စမှတ်)



'에서 까지' ရဲ့ အသုံးကို နားလည်ပြီလား။ ဒါဆိုရင် ဥပမာထဲကလို ဝါကျကို အဆုံးသတ်ကြည့်ပါ။

2. 그림을 보고 〈보기〉처럼 문장을 만들어 보세요. ပုံကို ကြည့်ပြီး ဥပမာထဲက အတိုင်း ဝါကျဖွဲ့ကြည့်ပါ။


보기




집 회사

집에서 회사까지 걸어왔어요.
အိမ်ကနေ ရုံးအထိ လမ်းလျှောက်လာခဲ့ပါတယ်။

1)  
집 시장
____________________ 걸어갔어요.

2)  
회사 시청
____________________ 버스를 타고 갔어요.

3) 
공항 호텔
____________________ 택시를 타고 갈 거예요.

4)  
호텔 회사
____________________ 택시를 타고 오세요.

정답 1) 집에서 시장까지 2) 회사에서 시청까지 3) 공항에서 호텔까지 4) 호텔에서 회사까지



## 활동 အသုံးချသင်ခန်းစာများ

〈보기〉처럼 친구와 이야기해 보세요.
ဥပမာမှာ ပြထားသလို သူငယ်ချင်းနဲ့ စကားပြောကြည့်ပါ။



가: 여기에서 집까지 어떻게 가요? ဒီကနေ အိမ်အထိ ဘယ်လို သွားလဲ။
나: 버스를 타고 가요. ဘတ်စ်ကား စီးပြီး သွားပါတယ်။
가: 시간이 얼마나 걸려요? အချိန် ဘယ်လောက်လောက် ကြာလဲ။
나: 30분 정도 걸려요. မိနစ် ၃၀လောက် ကြာပါတယ်။

| | 이름<br>အမည် | 교통수단<br>ယာဉ်ကြောအသုံးပြုမှုပုံစံ | 시간<br>ကြာချိန် |
|---|---|---|---|
| 보기 | 리한<br>ရီဟာန် | 버스<br>ဘတ်စ်ကား | 30 분<br>မိနစ် ၃၀ |
| 1) | 투안<br>ထူအန်း | 자전거<br>စက်ဘီး | 20 분<br>မိနစ် ၂၀ |
| 2) | 수루<br>ဆူရူ | 지하철<br>မြေအောက်ရထား | 1 시간<br>၁ နာရီ |
| 3) | | | |
| 4) | | | |
| 5) | | | |

### 유용한 표현 အသုံးဝင်သော အသုံးအနှုန်းများ

속이 시원해요. စိတ်သက်သာရာရတော့တယ်။

가: 투이 씨, 이삿짐은 다 정리했어요? ထူအီရေ၊ အိမ်ပြောင်းလာတဲ့ အထုပ်တွေ အကုန် နေရာချပြီးသွားပြီလား။
나: 네, 다 끝냈어요. 이제 **속이 시원해요.** ဟုတ်ကဲ့၊ အကုန် ပြီးသွားပါပြီ။ အခုမှပဲ **စိတ်သက်သာရာရတော့တယ်။**

# 대중교통 이용 방법
## အများသုံးယာဉ် အသုံးပြုနည်း

### 교통비 결제 ကျသင့်ငွေ ပေးချေခြင်း

교통비는 교통카드(T-money), 표, 현금으로 결제할 수 있습니다. 교통수단에 따라서 결제를 하는 방법이 다릅니다.

ယာဉ်အသုံးပြုရန် ကျသင့်ငွေကို ယာဉ်စီးကတ်၊ လက်မှတ် ဒါမှမဟုတ် ငွေသားဖြင့် ပေးချေနိုင်ပါတယ်။ မိမိ အသုံးပြုမည့် ယာဉ်ပေါ် မူတည်ပြီး ငွေပေးချေတဲ့ နည်းလမ်း ကွာခြားပါတယ်။



| | | | |
|---|---|---|---|
| 교통카드<br>ယာဉ်စီးကတ် | 버스 ဘတ်စ်ကား | 지하철 မြေအောက်ရထား | 택시 တက္ကစီ |
| 표<br>လက်မှတ် | 시내/고속버스 မြို့တွင်း/အဝေးပြေး | 비행기 လေယာဉ် | 배 သင်္ဘော |
| 현금<br>ငွေသား | 버스 ဘတ်စ်ကား | 택시 တက္ကစီ | |

### 교통카드 구입과 충전 ယာဉ်စီးကတ် ဝယ်ယူခြင်းနှင့် ငွေဖြည့်ခြင်း



| | | | | |
|---|---|---|---|---|
| 교통카드 구입<br>ယာဉ်စီးကတ် ဝယ်ယူခြင်း | 지하철역이나 버스정류장 매점, 편의점에서 교통카드의 구입과 충전이 가능합니다.<br>မြေအောက်ရထားဘူတာရုံ ဒါမှမဟုတ် ဘတ်စ်ကား မှတ်တိုင်အနီး ဈေးဆိုင်၊ စတိုးဆိုင်တွေမှာ ယာဉ်စီးကတ်များ ဝယ်ယူ ငွေဖြည့်နိုင်ပါတယ်။ | | 매점<br>ဈေးဆိုင် | 편의점<br>၂၄နာရီ အရောင်းဆိုင် |
| 교통카드 충전 (지하철역)<br>ယာဉ်စီးကတ် ငွေဖြည့်ခြင်း (မြေအောက်ဘူတာရုံ) | 지하철역에서 교통카드 충전기를 찾으세요.<br>မြေအောက်ဘူတာရုံမှာ ယာဉ်စီးကတ် ငွေဖြည့်စက်ကို ရှာပါ။ | 교통카드를 올려 놓으세요.<br>ယာဉ်စီးကတ်ကို တင်ပါ။ | 충전 금액을 선택하세요.<br>ဖြည့်မည့် ငွေပမာဏကို ရွေးချယ်ပါ။ | 금액을 결제하세요.<br>ငွေသားဖြင့် ကျသင့်ရာ ပမာဏကို ပေးချေပါ။ |



# EPS-TOPIK 듣기 EPS-TOPIK အကြား စာမေးပွဲ



မေးခွန်း နံပါတ် ၁နဲ့ ၂မှာတော့ ပုံကို ကြည့်ပြီး မှန်တဲ့ စကားလုံးကို ရွေးပေးရမှာပါ။ သေချာ နားထောင်ပြီး အဖြေမှန်ကို ရွေးပါ။

[1~2] 다음 사진을 보고 알맞은 단어를 고르십시오.
ပုံကို ကြည့်ပြီး သင့်တော်တဲ့ ဝေါဟာရကို ရွေးပါ။




1.  ① ② ③ ④

2.  ① ② ③ ④



အောက်က ပုစ္ဆာတွေအတွက် မေးခွန်းကို နားထောင်ပြီး အဖြေမှန်ကို ရွေးပေးရမှာပါ။ စကားပြောကို နားမထောင်ခင် ရွေးဖို့ ပေးထားတာတွေကို အရင် ဖတ်ကြည့်ပါ။

[3~5] 질문을 듣고 알맞은 대답을 고르십시오.
မေးခွန်းကို နားထောင်ပြီး သင့်တော်မယ့် အဖြေကို ရွေးပါ။

3. ① 친구가 가요. ② 버스가 가요.
   ③ 버스를 타고 가요. ④ 친구를 만나러 가요.

4. ① 다음 주말에 해요. ② 보통 회사에서 해요.
   ③ 운동이나 쇼핑을 해요. ④ 토요일하고 일요일이에요.

5. ① 1시 30분이에요. ② 집에 6시에 가요.
   ③ 30분 정도 걸려요. ④ 1번이나 2번 버스를 타요.

### 듣기 대본 စာသား

1. ① 여: 교통 လမ်းပန်းဆက်သွယ်ရေး ② 여: 버스 ဘတ်စ်ကား
   ③ 여: 시청 မြို့တော်ခန်းမ ④ 여: 택시 တက္ကစီ
2. ① 남: 지하철 မြေအောက်ရထား ② 남: 비행기 လေယာဉ်ပျံ
   ③ 남: 기차역 ရထားဘူတာရုံ ④ 남: 정류장 ဘတ်စ်ကား မှတ်တိုင်
3. 여: 시청에 어떻게 가요? မြို့တော်ခန်းမကို ဘယ်လို သွားလဲ။
4. 남: 주말에 보통 뭐 해요? နားရက်မှာ များသောအားဖြင့် ဘာလုပ်ဖြစ်လဲ။
5. 여: 집에서 회사까지 버스는 시간이 얼마나 걸려요?
   အိမ်ကနေ ရုံးအထိ ဘတ်စ်ကားက အချိန် ဘယ်လောက်လောက် ကြာလဲ။

정답 1. ④ 2. ② 3. ③ 4. ③ 5. ③



## 확장 연습 ထပ်ဆောင်း လေ့ကျင့်ရန်  L-18

1. 잘 듣고 들은 내용과 관계있는 그림을 고르십시오.
   သေချာ နားထောင်ပြီး ကြားတဲ့ အကြောင်းအရာနဲ့ သက်ဆိုင်တဲ့ ပုံကို ရွေးပါ။

①


②



③


④



2. 다음을 듣고 이어지는 말로 알맞은 것을 고르십시오.
   စကားပြောကို နားထောင်ပြီး ဆက်ပြောရမယ့် စကားအဖြစ် သင့်တော်ရာကို ရွေးပါ။

   ① 공장까지 20분쯤 걸려요. ② 공장에 8시까지 가야 해요.
   ③ 버스나 지하철을 타야 해요. ④ 본사에서 공장까지 아주 멀어요.

### 확장 연습 듣기 대본 ထပ်ဆောင်း လေ့ကျင့်ရန် စာသား

1. 여: 어디까지 가실 거예요? ဘယ်အထိ သွားမလို့ပါလဲ။
   남: 서울까지 가려고요. 6시 20분 기차표가 있어요?
   ဆိုးလ်အထိ သွားမလို့ပါ။ ၆နာရီ မိနစ် ၂၀ ရထားလက်မှတ် ရှိပါသလား။
2. 남: 오늘 공장에 가야 하는데 본사에서 공장까지 어떻게 가요?
   ဒီနေ့ စက်ရုံကို သွားရမှာ... ရုံးချုပ်ကနေ စက်ရုံအထိ ဘယ်လို သွားရလဲ။

정답 1. ② 2. ③



## EPS-TOPIK 읽기 EPS-TOPIK အဖတ် စာမေးပွဲ



မေးခွန်း နံပါတ် ၁နဲ့ ၂မှာတော့ ပုံကို ကြည့်ပြီး မှန်တဲ့ ဝါကျကို ရွေးပေးရမှာပါ။ ပေးထားတဲ့ ပုံနဲ့ သင့်တော်တဲ့ ဝါကျကို ရွေးပါ။

[1~2] 다음 그림을 보고 맞는 문장을 고르십시오. အောက်က ပုံကို ကြည့်ပြီး မှန်တဲ့ ဝါကျကို ရွေးပါ။

1.



① 타요. ② 앉아요.
③ 걸어요. ④ 일어나요.

2.




① 버스를 내렸어요. ② 버스를 지났어요.
③ 버스를 갈아탔어요. ④ 버스를 타고 왔어요.



အောက်ပါ မေးခွန်းတွေအတွက် ဝါကျတွေ၊ စကားပြောတွေကို ဖတ်ပြီး ကွက်လပ်ဖြည့်ဖို့ မှန်ကန်တဲ့ အသုံးအနှုန်းတွေကို ရွေးပေးရမှာပါ။ အရင် လေ့လာခဲ့တာတွေကို ပြန်စဉ်းစားပြီး မေးခွန်းတွေကို ဖြေကြည့်ရအောင်။

[3~5] 빈칸에 들어갈 가장 알맞은 것을 고르십시오.
ကွက်လပ်ဖြည့်ရန် အသင့်တော်ဆုံး အရာကို ရွေးပါ။

3.
가: 집에서 회사까지 ________ 걸려요? အိမ်ကနေ ရုံးအထိ ဘယ်လောက်လောက် ကြာပါသလဲ။
나: 20분 정도 걸려요. မိနစ် ၂၀လောက် ကြာပါတယ်။

① 왜 ② 언제 ③ 몇 개 ④ 얼마나

4.
가: 수루 씨는 여기까지 어떻게 왔어요? ဆုရူ ဒီအထိ ဘယ်လို လာခဲ့တာလဲ။
나: 저는 회사가 가까워서 ________. ကျွန်မကတော့ ရုံးက နီးလို့ လမ်းလျှောက်လာခဲ့ပါတယ်။

① 안 왔어요 ② 걸어왔어요
③ 비행기를 탔어요 ④ 버스가 빠를 거예요

5.
저는 회사에 버스를 타고 가요. 버스는 보통 30분 정도 걸려요. 하지만 출퇴근 시간에는 차가 막혀서 ________.
ကျွန်တော်ကတော့ ဘတ်စ်ကား စီးပြီး သွားတယ်။ ဘတ်စ်ကားက များသောအားဖြင့် မိနစ် ၃၀လောက် ကြာတယ်။ ဒါပေမယ့် ရုံးတက်ရုံးဆင်းချိန်မှာတော့ ကားပိတ်လို့ အချိန် နည်းနည်း ပို ကြာပါတယ်။

① 회사에 안 가요 ② 30분 정도 있어요
③ 시간이 좀 더 걸려요 ④ 버스에 사람이 많아요

정답 1. ③ 2. ④ 3. ④ 4. ② 5. ③



## 확장 연습 ထပ်ဆောင်း လေ့ကျင့်ရန်

[1~2] 다음 그림을 보고 맞는 문장을 고르십시오.
ပုံကို ကြည့်ပြီး သင့်တော်ရာ အသုံးအနှုန်းကို ရွေးပါ။

1.



① 서점입니다.　② 병원입니다.
③ 식당입니다.　④ 농장입니다.

2.




① 택시를 타고 있습니다.　② 버스를 타고 있습니다.
③ 택시를 기다리고 있습니다.　④ 버스를 기다리고 있습니다.

[3~4] 빈칸에 들어갈 가장 알맞은 것을 고르십시오.
ကွက်လပ်ဖြည့်ရန် အသင့်တော်ဆုံး အရာကို ရွေးပါ။

3.

서울은 ____________ 이/가 발달되어 있습니다. 버스나 지하철을 타면 시장이나 백화점 등 가고 싶은 곳에 쉽게 갈 수 있습니다.

ဆိုးလ်ကတော့ လမ်းပန်းဆက်သွယ်ရေး ဖွံ့ဖြိုးတိုးတက်ပါတယ်။ ဘတ်စ်ကား ဒါမှမဟုတ် မြေအောက်ရထားကို စီးပြီး ဈေး ဒါမှမဟုတ် ကုန်တိုက် စတဲ့ သွားလိုရာ နေရာကို အလွယ်တကူ သွားနိုင်ပါတယ်။

① 교통　② 건물
③ 관광지　④ 휴식 공간

4.

버스나 지하철에는 노약자석이 있습니다. 이곳은 ____________ 이/가 많은 어르신이나 몸이 불편한 사람, 임산부 등을 위한 자리입니다.

ဘတ်စ်ကား ဒါမှမဟုတ် မြေအောက်ရထားမှာ ဦးစားပေးထိုင်ခုံ ရှိပါတယ်။ အဲ့ဒီ နေရာကတော့ အသက်ကြီးတဲ့ သက်ကြီးရွယ်အိုတွေ ဒါမှမဟုတ် မသန်စွမ်းတွေနဲ့ ကိုယ်ဝန်ဆောင်သည်တွေအတွက် နေရာဖြစ်ပါတယ်။

① 돈　② 집
③ 나이　④ 친구

정답 1. ② 2. ② 3. ① 4. ③




# 거기 한국가구지요?

ဟန်ဂု ပရိဘောဂကပါလားခင်ဗျာ။

**학습 안내**
သင်ရိုး အညွှန်း

- □ **သင်ခန်းစာ ရည်ရွယ်ချက်** ဖုန်းခေါ်ဆိုနိုင်ခြင်း၊ အင်တာနက် ဝန်ဆောင်မှုအကြောင်း ပြောဆိုနိုင်ခြင်း
- □ **သဒ္ဒါ** -지요, -고
- □ **ဝေါဟာရ** ဖုန်း၊ အင်တာနက်
- □ **သတင်းအချက်အလက်နှင့် ယဉ်ကျေးမှု** အသုံးဝင်သော ဖုန်းနံပါတ်များ



## 대화 1 စကားပြော ၁






အောက်မှာ ထူအန်းနဲ့ ဝန်ထမ်းတို့ ဖုန်းပြောနေတာလေးကို ဖော်ပြထားပါတယ်။ အရင်ဆုံး သူတို့ပြောတာကို နှစ်ခေါက် နားထောင်ပြီး လိုက်ပြောကြည့်ရအောင်။

투안　여보세요. 거기 한국가구지요?
ဟယ်လို၊ ဟန်ဂု ပရိဘောဂကပါလားခင်ဗျာ။

여자　네, 맞습니다.
ဟုတ်ကဲ့၊ ဟုတ်ပါတယ်ရှင့်။

투안　안녕하세요? 저는 투안입니다.
မင်္ဂလာပါခင်ဗျ၊ ကျွန်တော် ထူအန်းပါ။
김수미 과장님 좀 바꿔 주세요.
ကင်ဆူမီ ဌာနမှူးကို တစ်ဆိတ်လောက် ဖုန်းလွှဲပေးပါလားခင်ဗျာ။

여자　네, 잠깐만 기다리세요.
ဟုတ်ကဲ့၊ ခဏလောက် စောင့်ပါရှင့်။

**맞다 ဟုတ်သည်၊ မှန်သည်**

- 이 문제의 정답은 3번이 맞아요.
  ဒီမေးခွန်းရဲ့ အဖြေမှန်ကတော့ နံပါတ်၃ ဟုတ်ပါတယ်။
- 가: 마웅 씨는 미얀마 사람이에요?
  မောင်မောင်က မြန်မာလူမျိုးလား။
  나: 네, 맞아요.
  ဟုတ်ကဲ့၊ ဟုတ်ပါတယ်။

**잠깐만 기다리세요 ခဏလောက် စောင့်ပါ**

- 가: 리한 씨 좀 바꿔주세요.
  ရီဟန့်ကို တစ်ဆိတ်လောက် ဖုန်းလွှဲပေးပါ။
  나: 네, 잠깐만 기다리세요.
  ဟုတ်ကဲ့၊ ခဏလောက် စောင့်ပါ။
- 잠깐만 기다리세요. 제가 자리를 안내해 드릴게요.
  ခဏလောက် စောင့်ပါ။ ကျွန်မ နေရာကို လမ်းညွှန်ပေးပါ့မယ်။



သချာ နားထောင်ပြီး လိုက်ဆိုခဲ့ရဲ့လား။ ဒါဆိုရင် အောက်က မေးခွန်းတွေ ဖြေကြည့်ရအောင်။

1. 투안 씨는 어디에 전화했어요? ထူအန်းက ဘယ်ကို ဖုန်းဆက်ခဲ့တာလဲ။
2. 투안 씨는 누구하고 통화하고 싶어해요? ထူအန်းက ဘယ်သူနဲ့ ဖုန်းပြောချင်တာလဲ။

정답　1. 한국가구　2. 김수미 과장님





## 어휘 1 ဝေါဟာရ ၁ 　 전화 တယ်လီဖုန်း



ဒါကတော့ ဖုန်းမျိုးစုံနဲ့ သက်ဆိုင်တဲ့ အသုံးအနှုန်းလေးတွေပါ။ ဘာတွေရှိလဲဆိုတာ လေ့လာကြည့်ရအောင်။



전화
တယ်လီဖုန်း



휴대전화(휴대폰)
လက်ကိုင်ဖုန်း



스마트폰
စမတ်ဖုန်း



인터넷 전화
အင်တာနက်ဖုန်း



전화를 걸다
ဖုန်းခေါ်သည်




전화가 오다
ဖုန်းလာသည်



전화를 받다
ဖုန်းကိုင်သည်



(전화) 통화하다
ဖုန်းပြောသည်




전화를 바꾸다
ဖုန်းလွှဲပေးသည်




전화를 잘못 걸다
ဖုန်းမှားခေါ်သည်



전화를 끊다
ဖုန်းချလိုက်သည်




통화 중이다
ဖုန်းလိုင်းမအား ဖြစ်နေသည်




휴대전화를 켜다
လက်ကိုင်ဖုန်း ပါဝါဖွင့်သည်




휴대전화를 끄다
လက်ကိုင်ဖုန်း ပါဝါပိတ်သည်



문자를 보내다
မက်ဆေ့ချ် ပို့သည်





문자를 확인하다
မက်ဆေ့ချ် ကြည့်သည်



အပေါ်က ဝေါဟာရတွေကို မကြည့်ဘဲ မေးခွန်းလေးတွေ ဖြေကြည့်ရအောင်။

1. 그림에 맞는 표현을 〈보기〉에서 골라 넣으세요.
အောက်က ပုံနဲ့လိုက်မယ့် အသုံးအနှုန်းကို ဥပမာ ဝေါဟာရထဲကနေ ရွေးပြီး ထည့်ပါ။




1) 




2) 




3) 



4) 

보기
- 전화를 바꾸다
- 전화를 잘못 걸다
- 전화를 끊다
- 통화 중이다

정답 1) 전화를 잘못 걸다 2) 전화를 바꾸다 3) 통화 중이다 4) 전화를 끊다



## 문법 1 သဒ္ဒါ ၁ -지요




ကြိယာ၊ ကြိယာဝိသေသန (သို့) '명사+이다' နဲ့ တွဲဖက်ပြီး "ဟုတ်တယ် မဟုတ်လား"လို့ မေးတဲ့အခါ သုံးပါတယ်။ ပြောသူက မိမိ ပြောနေတဲ့ အကြောင်းအရာကို နားထောင်နေသူလည်း သိပြီးသားလို့ ယူဆပြီး ပြောတဲ့အခါ သုံးပါတယ်။

| 동사 (ကြိယာ) → **-지요** | 형용사 (နာမဝိသေသန) → **-지요** |
|---|---|
| 알다 → 알**지요** | 작다 → 작**지요** |
| 보다 → 보**지요** | 크다 → 크**지요** |

| 명사 (နာမ်) | |
|---|---|
| 자음 (ဗျည်း) → **이지요** | 모음 (သရ) → **지요** |
| 학생 → 학생**이지요** | 의사 → 의사**지요** |

- 가: 오늘 회사에 **가지요**? ဒီနေ့ ရုံးကို သွားမယ်မဟုတ်လား။
  나: 네, 회사에 가요. ဟုတ်ကဲ့၊ ရုံးကို သွားမှာပါ။
- 가: 철수 씨가 **은행원이지요**? ချောလ်ဆူက ဘဏ်ဝန်ထမ်း ဟုတ်တယ် မဟုတ်လား။
  나: 네, 은행원이에요. ဟုတ်ကဲ့၊ ဘဏ်ဝန်ထမ်းပါ။



### 비교해 보세요 နှိုင်းယှဉ်ကြည့်ပါ။

**✔ '-지요' နဲ့ '-아/어요'**

'-지요' နဲ့ '-아/어요' နှစ်ခုစလုံးကို မေးခွန်းမေးတဲ့ အခါမှာ သုံးပါတယ်။ '-아/어요' ကိုတော့ မသိသေးတဲ့ အရာကို မေးတဲ့အခါမှာ သုံးပြီး '-지요' ကိုတော့ သိပြီးသား အကြောင်းအရာကို ပြန်ပြီး သေချာအောင် မေးတဲ့အခါမှာ သုံးပါတယ်။



'-지요'ရဲ့ အသုံးကို နားလည်ပြီလား။ ဒါဆိုရင် ဥပမာထဲကလို စကားပြောကို အဆုံးသတ်ကြည့်ပါ။

2. 그림을 보고 〈보기〉처럼 대화를 완성하세요. ပုံကို ကြည့်ပြီး ဥပမာထဲက အတိုင်း ဝါကျကို အဆုံးသတ်ပါ။

보기




가: 거기 도서관이지요? စာကြည့်တိုက်ကပါလားခင်ဗျာ။
나: 네, 그런데요. 무슨 일이세요? ဟုတ်ပါတယ်၊ ဘာကိစ္စရှိလို့ပါလဲ။

1) 가: 거기 ______________________?
나: 네, 119입니다. 무슨 일이세요?

2) 가: 거기 ______________________?
나: 네, 그런데요. 무슨 일이세요?

3) 가: 제 딸이에요. ______________________?
나: 와! 진짜 귀엽네요.

정답 1) 119지요 2) 주민센터지요 3) 귀엽지요



## 대화 2 စကားပြော ၂

Track 62



ဆုရုနဲ့ ဂျီယောင်းတို့ နှစ်ယောက် အွန်လိုင်းရှော့ပင်းအကြောင်း ပြောနေကြတယ်။ သူတို့ ဘာတွေပြောနေလဲ ခန့်မှန်းကြည့်ရအောင်။ အရင်ဆုံး သူတို့ ပြောနေတာကို နှစ်ခေါက် နားထောင်ကြည့်ပါ။ ပြီးရင်တော့ ဂျီယောင်းနဲ့ ဆုရု ပြောသလို လိုက်ပြောကြည့်ပါ။

수루 **지영 씨는 주로 어디에서 옷을 사요?**
ဂျီယောင်းက ပုံမှန် ဘယ်မှာ အကျီ ဝယ်ဖြစ်လဲ။

지영 **저는 주로 인터넷에서 많이 사요.**
ကျွန်မ ပုံမှန် အွန်လိုင်းကနေ များများ ဝယ်ပါတယ်။

수루 **인터넷은 옷이 비싸지 않아요?**
အွန်လိုင်းကနေဆို အကျီတွေ ဈေးမကြီးဘူးလား။

지영 **아니요, 인터넷이 옷도 싸고 쇼핑도 편리해요.**
ဟင့်အင်း၊ အွန်လိုင်းမှာ အကျီလည်း ဈေးသက်သာပြီး ဝယ်ရတာလည်း အဆင်ပြေတယ်လေ။

수루 **그래요? 외국인도 한국 사이트에 회원 가입이 돼요?**
ဟုတ်လား။ နိုင်ငံခြားသားလည်း ကိုရီးယား ဝက်ဘ်ဆိုဒ်မှာ အကောင့်ဖွင့်လို့ ရလား။

지영 **네, 대부분 돼요. 그런데 외국인등록번호가 필요해요.**
ဟုတ်ကဲ့၊ အများသဖြင့် ရပါတယ်။ ဒါပေမယ့် နိုင်ငံခြားသားမှတ်ပုံတင်ကဒ်နံပါတ် လိုတယ်။

**주로** ပုံမှန်
မကြာခဏ ပြုလုပ်လေ့ ရှိသည်
- 퇴근 후에는 주로 운동을 해요.
  ရုံးဆင်းပြီးရင်တော့ ပုံမှန် အားကစားလုပ်ပါတယ်။
- 저는 주로 지하철을 타고 출근해요.
  ကျွန်တော်ကတော့ ပုံမှန်မြေအောက်ရထား စီးပြီး ရုံးတက်ပါတယ်။

**대부분** အများသဖြင့်
တစ်စုံတစ်ခုရဲ့ များသော အချိုးအဆ
- 우리 회사 직원은 대부분 남자예요.
  ကျွန်တော်တို့ ရုံးဝန်ထမ်းတွေက အများသဖြင့် ယောကျ်ားလေးတွေပါ။
- 여기에 있는 책은 대부분 제가 읽은 책이에요.
  ဒီမှာ ရှိတဲ့ စာအုပ်တွေကတော့ အများသဖြင့် ကျွန်တော် ဖတ်ပြီးသား စာအုပ်တွေပါ။



သေချာ နားထောင်ပြီး လိုက်ဆိုခဲ့ရဲ့လား။ ဒါဆိုရင် အောက်က မေးခွန်းတွေ ဖြေကြည့်ရအောင်။

1. 지영 씨는 주로 어디에서 옷을 사요?
   ဂျီယောင်းက ပုံမှန် ဘယ်ကနေ အကျီ ဝယ်လေ့ရှိလဲ။
2. 외국인이 인터넷 사이트에 가입하려면 뭐가 필요해요?
   နိုင်ငံခြားသားတစ်ယောက် အင်တာနက် ဆိုဒ်မှာ အဖွဲ့ဝင်လုပ်ဖို့ ဘာတွေ လိုအပ်လဲ။

정답 1. 인터넷 2. 외국인등록번호

## 어휘 2 ဝေါဟာရ ၂ 인터넷 အင်တာနက်



အင်တာနက်နဲ့ ပတ်သက်တဲ့ စကားလုံးတွေ ဘာတွေရှိလဲဆိုတာ လေ့လာကြည့်ရအောင်။



인터넷
အင်တာနက်



웹사이트
အင်တာနက် လိပ်စာ




검색 엔진
အချက်အလက် ရှာရန် စာမျက်နှာ



홈페이지
အင်တာနက် စာမျက်နှာ



블로그
ဘလော့ဂ်



인터넷 카페
ဝါသနာတူများ စုဝေးရာ
အင်တာနက် စာမျက်နှာ



회원 가입
အကောင့်ဖွင့်ခြင်း



회원 탈퇴
အကောင့်ပိတ်ခြင်း



아이디
အကောင့်နာမည်



비밀번호
လျှို့ဝှက်နံပါတ်



로그인
အကောင့်ထဲ ဝင်ခြင်း



로그아웃
အကောင့်ထဲမှ ထွက်ခြင်း



이메일
အီးမေးလ်



인터넷 검색
အင်တာနက်တွင် ရှာဖွေခြင်း



인터넷 채팅
အွန်လိုင်း ချက်တင်



화상 채팅
ဗီဒီယို ချက်တင်



အပေါ်မှာ လေ့လာခဲ့တဲ့ ဝေါဟာရတွေကို ပြန်စဉ်းစားရင်း မေးခွန်းတွေ ဖြေကြည့်ကြရအောင်။

1. 그림에 맞는 표현을 〈보기〉에서 골라 넣으세요.
အောက်က ပုံနဲ့ လိုက်ဖက်မယ့် အသုံးအနှုန်းကို ဥပမာထဲကနေ ရွေးပြီး ထည့်ပါ။



1)



2)



3)



4)




정답 1) 화상 채팅 2) 이메일 3) 비밀번호 4) 로그아웃



## 문법 2 သဒ္ဒါ ၂ -고



ကြိယာ၊ ကြိယာဝိသေသန ဒါမှမဟုတ် '명사+이다' နဲ့ တွဲဖက်ပြီး စကားစု နှစ်ခုကို ဆက်စပ်ပေးပါတယ်။

| 동사 (ကြိယာ) → -고 | 형용사 (နာမဝိသေသန) → -고 | 명사 (နာမ်) | |
|---|---|---|---|
| | | 자음 (ဗျည်း) → 이고 | 모음 (သရ) → 고 |
| 먹다 → 먹**고**<br>보다 → 보**고** | 작다 → 작**고**<br>크다 → 크**고** | 회사원 → 회사원**이고** | 간호사 → 간호사**고** |

- 가: 왜 인터넷 쇼핑을 좋아해요? ဘာဖြစ်လို့ အွန်လိုင်းဈေးဝယ်ခြင်းကို ကြိုက်တာလဲ။
  나: **싸고** 편리해서 좋아해요. ဈေးသက်သာပြီး လွယ်ကူလို့ ကြိုက်တာပါ။
- 가: 뭐 먹을 거예요? ဘာ စားမှာလဲ။
  나: 저는 비빔밥을 **먹고** 마웅 씨는 김치찌개를 먹을 거예요.
  ကျွန်တော်ကတော့ ထမင်းသုပ် စားပြီး မောင်မောင်ကတော့ ဂင်ချီဟင်းရည် စားမှာပါ။



'-고' ရဲ့ အသုံးကို နားလည်ပြီလား။ ဒါဆိုရင် ဥပမာထဲကလို စကားပြောကို အသုံးသတ်ကြည့်ပါ။

2. 메모를 보고 〈보기〉처럼 대화를 완성하세요.
မှတ်စုတိုကို ကြည့်ပြီး ဥပမာထဲက အတိုင်း စကားပြောကို အသုံးသတ်ပါ။

**보기**

**투안 씨**
·친절해요.
·재미있어요.

가: 투안 씨가 어때요? ထူအန်းက ဘယ်လိုနေလဲ။
나: <u>친절하고 재미있어요.</u> ဖော်ရွေပြီး ပျော်ပျော်နေတတ်တယ်။

1) **그 식당**
·싸요.
·맛있어요.

가: 그 식당이 어때요?
나: ______________________.

2) **오늘 날씨**
·맑아요.
·따뜻해요.

가: 오늘 날씨가 어때요?
나: ______________________.

3) **지금 뭐 해요?**
·투안: 자요.
·리한: 인터넷해요.

가: 투안하고 리한은 지금 뭐 해요?
나: ______________________.

4) **오늘 메뉴**
·점심: 비빔밥
·저녁: 불고기덮밥

가: 오늘 메뉴가 뭐예요?
나: ______________________.

정답 1) 싸고 맛있어요 2) 맑고 따뜻해요 3) 투안은 자고 리한은 인터넷해요
4) 점심은 비빔밥이고 저녁은 불고기덮밥이에요



## 활동 အသုံးချသင်ခန်းစာများ

〈보기〉처럼 전화 내용을 메모하고 전화해 보세요.
ဥပမာမှာ ပြထားသလို ဖုန်းပြောမယ့် အကြောင်းအရာကို မှတ်စုတိုလေး ရေးပြီး ဖုန်းဆက်ကြည့်ပါ။

전화 내용 ဖုန်းပြောမည့် အကြောင်းအရာ

| | 누구에게 전화하고 싶어요? | 왜 전화하고 싶어요? |
|---|---|---|
| 보기 | 수루 씨에게 전화하고 싶어요.<br>ဆုရှုဆီကို ဖုန်းဆက်ချင်ပါတယ်။ | 오늘이 수루 씨 생일이에요.<br>ဒီနေ့ ဆုရှုရဲ့ မွေးနေ့ပါ။<br>그래서 축하해 주고 싶어요.<br>အဲဒါကြောင့် မွေးနေ့ကို ဆုတောင်းပေးချင်ပါတယ်။ |
| 1) | 투안 씨에게 전화하고 싶어요.<br>ထူအန်းဆီကို ဖုန်းဆက်ချင်ပါတယ်။ | 오늘 출근을 안 했어요.<br>ဒီနေ့ ရုံးကို မလာဘူး။<br>그래서 왜 안 왔는지 물어 보고 싶어요.<br>အဲ့ဒါ ဘာကြောင့် မလာတာလဲလို့<br>မေးကြည့်ချင်ပါတယ်။ |
| 2) | | |



전화 대화 ဖုန်းပြောခြင်း


보기

가: 여보세요. 수루 씨 전화지요? ဟယ်လို၊ ဆုရှု့ ဖုန်းဟုတ်ပါသလား။
나: 네, 그런데요. 실례지만 누구세요? ဟုတ်ကဲ့၊ ဟုတ်ပါတယ်။ အားတော့နာပါတယ်၊ ဘယ်သူပါလဲရှင်။
가: 투안이에요. ထူအန်းပါ။
나: 아! 투안 씨, 안녕하세요? 무슨 일이에요? ဪ၊ ထူအန်းပဲ။ မင်္ဂလာပါ။ ဘာကိစ္စရှိလို့လဲ။
가: 오늘이 수루 씨 생일이지요? 축하해요.
ဒီနေ့ ဆုရှု့ မွေးနေ့ ဟုတ်တယ် မဟုတ်လား။ မွေးနေ့မှာ ပျော်ရွှင်ပါစေနော်။

# 생활에 유용한 전화번호

အသုံးဝင်သော ဖုန်းနံပါတ်များ






범죄 신고
ပြစ်မှုတိုင်ကြားရန် (ရဲဌာန)


112

출입국관리사무소,
체류 신고 등 လူဝင်မှု ကြီးကြပ်ရေး၊ နေထိုင်မှု သတင်းပို့ရန်


1345






전화번호 안내
ဖုန်းနံပါတ် လမ်းညွှန်


114

고용노동부 고객상담센터
အလုပ်သမားဝန်ကြီးဌာန ဆွေးနွေး တိုင်ပင်ရေးစင်တာ


1350






화재, 응급 환자 발생 신고
မီးလောင်မှု၊ အရေးပေါ်လူနာ ဖြစ်ပွားမှုများ သတင်းပို့ရန်


119

외국인력상담센터
နိုင်ငံခြားသားလုပ်သား ဆွေးနွေး တိုင်ပင်ရေးစင်တာ


1577-0071



기초 지방자치단체
각종 생활 민원 신고
ရပ်ကွက်ရုံး၊ ထောက်ခံစာ၊ တိုင်ကြားလွှာ မျိုးစုံ


120

이주여성 긴급지원 센터
ရွှေ့ပြောင်းအမျိုးသမီး အရေးပေါ် ထောက်ပံ့ရေး စင်တာ


1577-1336






일기예보 안내
မိုးလေဝသ ခန့်မှန်းမှု သတင်း


131

외국인주민통역상담지원센터
နိုင်ငံခြားသား ဘာသာပြန် ဆွေးနွေး တိုင်ပင်ရေး ထောက်ပံ့မှုစင်တာ


1577-1336



မေးခွန်း နံပါတ် ၁နဲ့ ၂မှာတော့ ပုံကို ကြည့်ပြီး မှန်တဲ့ စကားလုံးကို ရွေးပေးရမှာပါ။ သေချာ နားထောင်ပြီး အဖြေမှန်ကို ရွေးပါ။



[1~2] 다음 그림을 보고 알맞은 단어를 고르십시오.
ပုံကို ကြည့်ပြီး သင့်တော်ရာကို ရွေးပါ။





1.  ① ② ③ ④

2.  ① ② ③ ④



အောက်က ပုစ္ဆာတွေအတွက် မေးခွန်းကို နားထောင်ပြီး အဖြေမှန်ကို ရွေးပေးရမှာပါ။ စကားပြောကို နားမထောင်ခင် ရွေးဖို့ ပေးထားတာတွေကို အရင် ဖတ်ကြည့်ပါ။

[3~5] 질문을 듣고 알맞은 대답을 고르십시오.
မေးခွန်းကို နားထောင်ပြီး သင့်တော်မယ့် အဖြေကို ရွေးပါ။

3. ① 네, 그런데요. ② 네, 거기예요.
③ 아니요, 거기 없어요. ④ 아니요, 도서관이에요.

4. ① 여기는 회사예요. ② 저는 투안이에요.
③ 이것은 전화예요. ④ 오늘은 월요일이에요.

5. ① 맵고 짜요. ② 작고 비싸요.
③ 맑고 따뜻해요. ④ 착하고 친절해요.

### 듣기 대본 စာသား

1. ① 남: 문자 မက်ဆေ့ချ် ② 남: 전화 ဖုန်း
   ③ 남: 검색 ရှာဖွေခြင်း ④ 남: 채팅 ချက်တင်
2. ① 여: 블로그 ဘလော့ဂ် ② 여: 아이디 အကောင့်နာမည်
   ③ 여: 로그인 အကောင့်ထဲဝင်သည် ④ 여: 인터넷 အင်တာနက်
3. 남: 여보세요. 거기 도서관이지요? ဟယ်လို၊ စာကြည့်တိုက်ကပါလားခင်ဗျာ။
4. 여: 실례지만 누구세요? အားတော့နာပါတယ်... ဘယ်သူပါလဲရှင်။
5. 남: 오늘 날씨가 어때요? ဒီနေ့ ရာသီဥတု ဘယ်လိုနေလဲ။

정답 1. ② 2. ④ 3. ① 4. ② 5. ③



## 확장 연습 ထပ်ဆောင်း လေ့ကျင့်ရန် L-19

1. 다음을 듣고 이어지는 말로 알맞은 것을 고르십시오.
   ပြောတာကို နားထောင်ပြီး ဆက်ပြောရမယ့် စကားအဖြစ် သင့်တော်ရာကို ရွေးပါ။

   ① 그럼 메모 좀 전해 주세요. ② 언제쯤 사무실로 돌아오세요?
   ③ 통화 중이신데 잠시만 기다려 주세요. ④ 반장님과 미리 약속을 하고 오셨어요?

2. 대화를 듣고 질문에 알맞은 것을 고르십시오.
   စကားပြောကို နားထောင်ပြီး မေးခွန်းနဲ့ သင့်လျော်ရာ အဖြေကို ရွေးပါ။

   대화 후 남자는 가장 먼저 무엇을 하겠습니까?
   စကားပြောပြီးနောက် ယောကျ်ားလေးက အရင်ဦးဆုံး ဘာကို လုပ်မယ်လို့ ထင်ပါသလဲ။

   ① 전화번호를 문의합니다. ② 한국어 수업을 신청합니다.
   ③ 한국어를 공부하러 갑니다. ④ 외국인력지원센터에 전화합니다.

### 확장 연습 듣기 대본 ထပ်ဆောင်း လေ့ကျင့်ရန် စာသား

1. 남: 김 반장님 자리에 계시면 좀 바꿔 주시겠어요?
   ဆရာ ကင် ရုံးခန်းထဲမှာ ရှိရင် တစ်ဆိတ်လောက် ဖုန်းလွှဲပေးလို့ ရမလားခင်ဗျ။
2. 남: 모니카 씨, 한국어를 공부하고 싶은데 어디서 배울 수 있어요?
   မိုနီခါရေ၊ ကိုရီးယားစာ လေ့လာချင်တာ ဘယ်မှာ သင်လို့ရလဲ သိလား။
   여: 외국인력지원센터에 한번 전화해 보세요. 아마 무료로 수업을 들을 수 있을 거예요.
   နိုင်ငံခြားသားလုပ်သားထောက်ပံ့ရေးစင်တာကို တစ်ခါလောက် ဖုန်းဆက်ကြည့်ပါလား။ အဆင်ပြေရင် အခမဲ့ သင်တန်း တက်လို့ ရလောက်မှာပါ။
   남: 그래요? 전화번호 알아요? ဟုတ်လား။ ဖုန်းနံပါတ် သိလားဗျ။
   여: 저는 잘 몰라요. 114에 전화해서 물어보세요.
   ကျွန်မတော့ သေချာ မသိဘူးရှင့်။ ၁၁၄ကို ဖုန်းဆက်ပြီး မေးကြည့်ပါနော်။

정답 1. ③ 2. ①



# EPS-TOPIK 읽기 EPS-TOPIK အဖတ် စာမေးပွဲ



မေးခွန်း နံပါတ် ၁နဲ့ ၂မှာတော့ ပုံကို ကြည့်ပြီး မှန်တဲ့ ဝါကျကို ရွေးပေးရမှာပါ။ ပေးထားတဲ့ ပုံနဲ့ သင့်တော်တဲ့ ဝါကျကို ရွေးပါ။

[1~2] 다음 그림을 보고 맞는 문장을 고르십시오. အောက်ပါ ပုံကို ကြည့်ပြီး မှန်တဲ့ ဝါကျကို ရွေးပါ။

1. 

① 전화를 걸어요. ② 전화를 바꿔요.
③ 전화를 받아요. ④ 전화를 끊어요.

2. 


① 통화해요. ② 채팅해요.
③ 가입해요. ④ 검색해요.



အောက်ပါ မေးခွန်းတွေအတွက် ဝါကျတွေ၊ စကားပြောတွေကို ဖတ်ပြီး ကွက်လပ်ဖြည့်ဖို့ မှန်ကန်တဲ့ အသုံးအနှုန်းတွေကို ရွေးပေးရမှာပါ။ အရင် လေ့လာခဲ့တာတွေကို ပြန်စဉ်းစားပြီး မေးခွန်းတွေကို ဖြေကြည့်ရအောင်။

[3~5] 빈칸에 들어갈 가장 알맞은 것을 고르십시오. ကွက်လပ်ဖြည့်ရန် အသင့်တော်ဆုံး အရာကို ရွေးပါ။

3. 가: 식당이 ______________? စားသောက်ဆိုင်က ဘယ်လိုနေလဲ။
나: 싸고 맛있어요. ဈေးသက်သာပြီး အရသာရှိပါတယ်။

① 어때요 ② 뭐 해요 ③ 언제예요 ④ 얼마예요

4. 가: 거기 병원이지요? ဆေးရုံကပါလားခင်ဗျာ။
나: ______________. 여기는 약국이에요. ဖုန်းမှားနေပါတယ်။ ဒါ ဆေးဆိုင်ကပါ။

① 전화를 껐어요 ② 문자가 왔어요
③ 문자를 보냈어요 ④ 전화 잘못 거셨어요

5. 저는 인터넷 검색하고 인터넷 채팅을 자주 해요. 그리고 인터넷 쇼핑도 많이 해요. 인터넷 쇼핑은 ______________. 그래서 저는 주로 인터넷에서 옷을 많이 사요.

ကျွန်မကတော့ အင်တာနက်ကနေ ရှာတာတို့ အွန်လိုင်း ချက်တင်တို့ မကြာမကြာ လုပ်ပါတယ်။ ပြီးတော့ အွန်လိုင်း ရှော့ပင်း လည်း များများ လုပ်ဖြစ်ပါတယ်။ အွန်လိုင်း ရှော့ပင်းက ဈေးသက်သာပြီး အဆင်ပြေတယ်။ အဲ့ဒါကြောင့် ကျွန်မကတော့ ပုံမှန် အွန်လိုင်းကနေ အင်္ကျီတွေ အများကြီး ဝယ်ဖြစ်ပါတယ်။

① 싸고 편리해요 ② 어렵고 복잡해요
③ 시간하고 돈이 필요해요 ④ 아이디하고 비밀번호가 있어요

정답 1. ③ 2. ④ 3. ① 4. ④ 5. ①



## 확장 연습 ထပ်ဆောင်း လေ့ကျင့်ရန်

[1~3] 빈칸에 들어갈 가장 알맞은 것을 고르십시오.
ကွက်လပ်ဖြည့်ရန် အသင့်တော်ဆုံး အရာကို ရွေးပါ။

1. 반장님이 이사한 집에 초대해 주셔서 ____________ 선물로 세제를 사 갑니다.
ဆရာက အိမ်ပြောင်းတဲ့ ဆီကို ဖိတ်လို့ အိမ်တက်လက်ဆောင်အဖြစ် နာရီ ဝယ်သွားပါတယ် ။

① 출장　② 배웅　③ 회의　④ 집들이

2. 새 기계로 작업을 하니까 아주 좋습니다. 전에 쓰던 것보다 더 가볍고 ____________ 부드러워서 일이 잘됩니다.
စက် အသစ်နဲ့ အလုပ်လုပ်ရတာ အရမ်း ကောင်းပါတယ်။ အရင်က သုံးနေကျထက် ပိုပေါ့ပြီး အများကြီး နူးညံ့လို့ အလုပ်လုပ်ရတာ အဆင်ပြေပါတယ်။

① 빨리　② 계속　③ 가장　④ 훨씬

3. 제 여동생은 시청 ____________ 입니다. 시민들을 위해서 시청에서 열심히 일하고 있습니다.
ကျွန်တော့် ညီမလေးကတော့ မြို့တော်ခန်းမမှာ အစိုးရဝန်ထမ်းပါ။ ပြည်သူတွေအတွက် မြို့တော်ခန်းမမှာ ကြိုးကြိုး စားစား အလုပ်လုပ်နေပါတယ်။

① 간호사　② 공무원　③ 선생님　④ 경찰관

정답 1. ④ 2. ④ 3. ②



## 발음 အသံထွက်



P-07

### သေချာ နားထောင်ပြီး လိုက်ဆိုပါ။

ကိုရီးယားဘာသာစကားမှာ အသတ်သံက အကန့်အသတ်ရှိပါတယ်။ စုစုပေါင်း အသတ်သံ (၇)ခုပဲ ရှိပါတယ်။ နာသံတွေကတော့ သူ့ကိုယ်ပိုင် အသံအတိုင်းပဲ အသံထွက်ပါတယ်။ 'ㄴ, ㅁ, ㅇ' ကို 'ㄴ [n], ㅁ [m], ㅇ [ŋ]' လို့ပဲ ထွက်ရပါတယ်။

(1) 손, 산, 돈, 문, 신문
(2) 김, 봄, 남자, 마음
(3) 강, 방, 시장, 공항
(4) 산과 바다에 가요. / 곰과 사자가 커요. / 가방 주세요.




# 저는 설거지를 할게요

ကျွန်တော် ပန်းကန်ဆေးလိုက်မယ်။

**학습 안내**
သင်ရိုး အညွှန်း

- **သင်ခန်းစာ ရည်ရွယ်ချက်** အိမ်အလုပ် အကူအညီတောင်းရန်၊ အိမ်အလုပ်နဲ့ ပတ်သက်ပြီး ပြောဆိုတတ်စေရန်
- **သဒ္ဒါ** -(으)ㄹ게요, -는 것
- **ဝေါဟာရ** သန့်ရှင်းရေး၊ အိမ်အလုပ်
- **သတင်းအချက်အလက်နှင့် ယဉ်ကျေးမှု** အမှိုက် ခွဲခြား စွန့်ပစ်ခြင်း



## 대화 1 စကားပြော ၁






ထူအန်းနဲ့ ရီဟန်တို့ သူတို့ အခန်းကို သန့်ရှင်းရေး လုပ်ကြတော့မှာပါ။ အရင်ဆုံး သူတို့ ပြောတာကို နှစ်ခေါက် နားထောင်ပြီး လိုက်ပြောကြည့်ရအောင်။

투안 청소를 안 해서 방이 너무 더럽네요.
သန့်ရှင်းရေး မလုပ်တော့ အခန်းက အရမ်း ညစ်ပတ်တယ်နော်။

리한 네, 바빠서 시간이 없었어요.
ဟုတ်တယ်၊ မအားတာနဲ့ လုပ်ချိန် မရှိတာ။

투안 지금 같이 청소할래요?
အခု အတူတူ သန့်ရှင်းရေး လုပ်ကြမလား။

리한 그래요. 지금 해요.
ကောင်းသားပဲ။ အခု လုပ်ကြတာပေါ့။
투안 씨는 방을 쓸어 주세요.
ထူအန်းက တံမြက်စည်းလှည်းပေးပါ။
저는 먼지를 닦을게요.
ကျွန်တော် ဖုန်သုတ်လိုက်မယ်။

**그래요 ကောင်းသားပဲ**

- 가: 같이 운동하러 갈래요?
  အတူတူ အားကစားလုပ်ဖို့ သွားကြမလား။
  나: 그래요. 같이 가요.
  ကောင်းသားပဲ။ အတူတူ သွားတာပေါ့။
- 가: 점심 때 김치찌개 먹을래요?
  နေ့လယ်စာ ဂင်ချီဟင်းရည် စားကြမလား။
- 나: 그래요. 김치찌개 먹어요.
  ကောင်းသားပဲ။ ဂင်ချီဟင်းရည် စားကြတာပေါ့။

**너무 အရမ်း/တအား**
ကန့်သတ်ချက်ကို ကျော်လွန်၍

- 비가 너무 많이 와요.
  မိုးတွေ အရမ်း/တအား ရွာတယ်။
- 주말에 너무 늦게까지 잤어요.
  ပိတ်ရက်မှာ အရမ်း နောက်ကျတဲ့အထိ အိပ်လိုက်တယ်။



သချာ နားထောင်ပြီး လိုက်ဆိုခဲ့ရဲ့လား။ ဒါဆိုရင် အောက်က မေးခွန်းတွေ ဖြေကြည့်ရအောင်။

1. 투안 씨의 방이 어때요? ထူအန်းရဲ့ အခန်း ဘယ်လိုနေလဲ။
2. 두 사람은 무엇을 하려고 해요? သူတို့ နှစ်ယောက် ဘာလုပ်ကြမလို့လဲ။

정답 1. 더러워요. 2. 청소를 하려고 해요.



## 어휘 1 ဝေါဟာရ ၁ 청소 သန့်ရှင်းရေး



ဒါကတော့ သန့်ရှင်းရေးနဲ့ ပတ်သက်တဲ့ အသုံးအနှုန်းလေးတွေပါ။ ဘာတွေရှိလဲဆိုတာ လေ့လာကြည့်ရအောင်။


더럽다
ညစ်ပတ်သည်


깨끗하다
သန့်ရှင်းသည်


어지럽다
ရှုပ်ပွသည်


정돈되어 있다
သပ်ရပ်သည်


청소를 하다
သန့်ရှင်းရေးလုပ်သည်


청소기를 돌리다
ဖုန်စုပ်စက်ဖြင့် စုပ်သည်


정리하다
စီသည်


먼지를 떨다
ဖုန်ခါသည်


쓸다
လှည်းကျင်းသည်


닦다
သုတ်သည်


쓰레기를 버리다
အမှိုက်ပစ်သည်


청소 도구
သန့်ရှင်းရေး ပစ္စည်း


빗자루
တံမြက်စည်း


걸레
ကြမ်းတိုက်အဝတ်


휴지통
အမှိုက်ပုံး



အပေါ်က ဝေါဟာရတွေကို မကြည့်ဘဲ မေးခွန်းလေးတွေ ဖြေကြည့်ရအောင်။

1. 그림에 맞는 표현을 <보기>에서 골라 넣으세요.
အောက်က ပုံနဲ့ လိုက်မယ့် အသုံးအနှုန်းကို ဥပမာ ဝေါဟာရထဲကနေ ရွေးပြီး ထည့်ပါ။


1)


2)


3)


4)

보기
닦다
쓸다
버리다
정리하다

정답 1) 쓸다 2) 닦다 3) 정리하다 4) 버리다

## 문법 1 သဒ္ဒါ ၁ -(으)ㄹ게요  G20-1

ကြိယာနဲ့ တွဲဖက် အသုံးပြုလေ့ရှိပြီး ပြောသူရဲ့ တစ်စုံတစ်ခုကို လုပ်ဆောင်လိုတဲ့ ဆန္ဒကို ဖော်ပြချင်တဲ့ အခါ သုံးပါတယ်။ ကြိယာက သရ ဒါမှမဟုတ် ဗျည်း 'ㄹ' နဲ့ အဆုံးသတ်တဲ့ အခါ '-ㄹ게요' ကို သုံးပြီးတော့ ကြိယာက 'ㄹ', မဟုတ်တဲ့ အခြား ဗျည်းတွေနဲ့ အဆုံးသတ်တဲ့အခါ '-을게요' ကို သုံးပါတယ်။

| 자음 (ဗျည်း) → **-을게요** | 모음 (သရ), 자음 (ဗျည်း) 'ㄹ' → **-ㄹ게요** |
|---|---|
| 찾다 → 찾**을게요** | 주다 → 줄게요, 만들다 → 만**들게요** |

- 이따가 **전화할게요**. တစ်အောင့်နေမှ ဖုန်းဆက်လိုက်မယ်နော်။
- 가: 내일은 지각하지 마세요. မနက်ဖြန်တော့ နောက်မကျပါစေနဲ့။  
  나: 네, 늦지 않고 일찍 **올게요**. ဟုတ်ကဲ့၊ နောက်မကျအောင် စောစော လာခဲ့လိုက်ပါ့မယ်။



### 비교해 보세요 နှိုင်းယှဉ်ကြည့်ပါ။

**✓ '-(으)ㄹ게요' နှင့် '-(으)ㄹ 거예요'**

'-(으)ㄹ게요' နဲ့ '-(으)ㄹ 거예요' နှစ်ခုစလုံးက လုပ်ဆောင်မယ့် အရာကို ညွှန်းပါတယ်။ '-(으)ㄹ 거예요' ကိုတော့ နားထောင်သူနဲ့ မသက်ဆိုင်ဘဲ ကိုယ် ဆုံးဖြတ်ပြီးသား အရာကို ပြောတဲ့ အခါမှာ သုံးပြီးတော့ '-(으)ㄹ게요' ကိုတော့ နားထောင်နေသူကို ကတိပေးတဲ့ အခါမျိုးမှာ သုံးပါတယ်။ ဒါကြောင့် '-(으)ㄹ게요' ကို နာမ်စား "ကျွန်တော်၊ ကျွန်မ" ကလွဲပြီး တစ်ခြား "သူ၊ သူမ" သို့မဟုတ် အမည်နာမတွေနဲ့ တွဲပြောလေ့ မရှိတာ တွေ့ရမှာပါ။

- 리한 씨가 앞으로 열심히 **할 거예요**.(O)  
  리한 씨가 앞으로 열심히 할게요.(X)



'-(으)ㄹ게요' ရဲ့ အသုံးကို နားလည်ပြီလား။ ဒါဆိုရင် ဥပမာထဲကလို စကားပြောကို အဆုံးသတ်ကြည့်ပါ။

2. 〈보기〉처럼 대화를 완성하세요. ဥပမာထဲက အတိုင်း ဝါကျကို အဆုံးသတ်ပါ။

> **보기**  
> 가: 방을 닦으세요. အခန်းကို သုတ်သင်ရှင်းလင်းပါ။  
> 나: 네, 닦을게요. ဟုတ်ကဲ့၊ သုတ်လိုက်ပါ့မယ်။

1) 가: 작업을 정리하세요.  
   나: ______________________.

2) 가: 누가 저하고 같이 갈래요?  
   나: 제가 같이 ______________________.

3) 가: 투안 씨는 내일 뭘 준비할래요?  
   나: 저는 과일을 ______________________.

4) 가: 사진을 찍어 줄래요?  
   나: 좋아요, 제가 사진을 ______________________.

정답 1) 정리할게요 2) 갈게요 3) 준비할게요 4) 찍어 줄게요



## 대화 2 စကားပြော ၂

Track 65



ထူအန်းနဲ့ ရီဟန်က ဟင်းချက်ရတာ ကြိုက်နှစ်သက်ပါသလား။ သူတို့ ပြောနေတာကို နှစ်ခေါက် နားထောင်ကြည့်ပါ။ ပြီးရင်တော့ ထူအန်းနဲ့ ရီဟန် ပြောသလို လိုက်ပြောကြည့်ပါ။

**투안** 어제 친구하고 불고기를 만들었어요.
မနေ့က သူငယ်ချင်းနဲ့ ဘူးလ်ဂိုဂီ ချက်စားဖြစ်တယ်။
정말 재미있었어요. အရမ်း ပျော်စရာကောင်းတယ်ဗျာ။

**리한** 투안 씨는 요리를 하는 것이 재미있어요?
ထူအန်းက ဟင်းချက်ရတာ ပျော်လား။

**투안** 네, 전 정말 재미있어요. 리한 씨는요?
ဟုတ်ကဲ့၊ ကျွန်တော်တော့ အရမ်း ပျော်တယ်ဗျ။ ရီဟန်ကရော။

**리한** 저는 재미없어요. 하지만 설거지는 괜찮아요.
ကျွန်တော်တော့ သိပ်စိတ်မဝင်စားဘူး။ ဒါပေမယ့် ပန်းကန်ဆေးတာတော့ သိပ်မဆိုးဘူးဗျ။

**투안** 그래요? 그러면 앞으로 요리는 제가 할게요.
ဟုတ်လား။ ဒါဆို နောက်ကို ဟင်းချက်တာတော့ ကျွန်တော် လုပ်မယ်လေ။
설거지는 리한 씨가 하세요.
ပန်းကန်တော့ ရီဟန်က ဆေးပေါ့။

> **앞으로 ရှေ့လျှောက်၊ နောက်နောင်ကို**
> · 앞으로 기숙사 청소는 제가 할게요.
> နောက်ကို အဆောင် သန့်ရှင်းရေး ကျွန်တော် လုပ်ပါ့မယ်။
> · 가: 오늘도 지각을 했어요?
> ဒီနေ့လည်း နောက်ကျတာပဲ လား။
> 나: 죄송합니다. 앞으로 늦지 않겠습니다.
> တောင်းပန်ပါတယ်ခင်ဗျ။ ရှေ့လျှောက် နောက်မကျစေရပါဘူး။

> **하지만 ဒါပေမယ့်**
> ▲ရှေ့က အကြောင်းအရာနှင့် မတူတာကို ပြောသောအခါ ဝါကျနှစ်ခုကြား ဆက်ပေးသော စကား
> · 저는 키가 커요. 하지만 제 동생은 키가 작아요.
> ကျွန်တော်က အရပ်မြင့်တယ်။ ဒါပေမယ့် ညီလေးက အရပ်ပုတယ်။
> · 한국 음식은 맛있어요. 하지만 좀 매워요.
> ကိုရီးယားစာတွေ စားလို့ကောင်းတယ်။ ဒါပေမယ့် နည်းနည်း စပ်တယ်။



သေချာ နားထောင်ပြီး လိုက်ဆိုခဲ့ရဲ့လား။ ဒါဆိုရင် အောက်က မေးခွန်းတွေ ဖြေကြည့်ရအောင်။

1. 투안은 어제 뭘 했어요? ထူအန်း မနေ့က ဘာလုပ်ခဲ့လဲ။
2. 리한은 요리하는 것을 좋아해요? ရီဟန်က ဟင်းချက်ရတာ ကြိုက်လား။

정답 1. 불고기를 만들었어요. 2. 아니요, 안 좋아해요.

**Tip 있다/없다 형용사** 있다/없다 ရှိခြင်းပြ ကြိယာ

'재미가 있어요'가 줄어서 '재미있어요'가 되었습니다. 한국어에는 이런 방식으로 만들어진 형용사가 있습니다.
'재미가 있어요' ကို '재미있어요' လို့ အတိုချုံးလို့ ရပါတယ်။ ကိုရီးယားစာမှာ ဒီလို ပေါင်းစပ်ထားတဲ့ ရှိခြင်း၊ ဖြစ်ခြင်းပြ ကြိယာတွေ ရှိပါတယ်။

| | |
|---|---|
| 재미가 있다 → 재미있다 | 재미가 없다 → 재미없다 |
| 맛이 있다 → 맛있다 | 맛이 없다 → 맛없다 |
| 멋이 있다 → 멋있다 | 멋이 없다 → 멋없다 |



## 어휘 2 ဝေါဟာရ ၂ 집안일 အိမ်အလုပ်



အိမ်အလုပ်နဲ့ ပတ်သက်တဲ့ အသုံးအနှုန်းလေးတွေ ဘာတွေရှိလဲဆိုတာ လေ့လာကြည့်ရအောင်။



장을 보다
ဈေးဝယ်သည်



밥을 하다(짓다)
ထမင်းချက်သည်



음식을 만들다
စားစရာ ပြုလုပ်သည်



설거지를 하다
ပန်းကန်ဆေးသည်



밥솥
ထမင်းပေါင်းအိုး



냄비
ဟင်းချက်အိုး၊ ဒယ်အိုး



프라이팬
အကြော်ဒယ်အိုး



주방 세제
ပန်းကန်ဆေး ဆပ်ပြာဆီ



빨래를 하다
အဝတ်လျှော်သည်



세탁기를 돌리다
အဝတ်လျှော်စက် လှည့်သည်



빨래를 널다
အဝတ်လှန်းသည်



빨래를 걷다
အဝတ်ရုတ်သည်



옷을 다리다
မီးပူတိုက်သည်



옷을 개다
အဝတ်ခေါက်သည်



세탁세제
အဝတ်လျှော် ဆပ်ပြာမှုန့်



다리미
မီးပူ



အပေါ်မှာ လေ့လာခဲ့တဲ့ ဝေါဟာရတွေကို ပြန်စဉ်းစားရင်း မေးခွန်းတွေ ဖြေကြည့်ကြရအောင်။ အကုန် ဖြေပြီးပြီလား။ ဘယ် ဝေါဟာရတွေ ခက်တယ် ထင်လဲ။ ဘယ်နှစ်ခု မှန်အောင် ဖြေနိုင်ခဲ့လဲ။

1. 그림에 맞는 표현을 〈보기〉에서 골라 넣으세요.
အောက်က ပုံနဲ့ လိုက်မယ့် အသုံးအနှုန်းကို ဥပမာ ဝေါဟာရထဲကနေ ရွေးပြီး ထည့်ပါ။



1)



2)



3)

4)

**보기**
장을 보다
옷을 다리다
빨래를 하다
설거지를 하다

정답 1) 설거지를 하다 2) 장을 보다 3) 옷을 다리다 4) 빨래를 하다




'-는 것(-ရတာ)' ကို ကြိယာနဲ့ တွဲဖက်ပြီး ကြိယာကို နာမ်အဖြစ် ပြောင်းလဲ အသုံးပြုတဲ့ အခါမှာ သုံးပါတယ်။

- 가: 옷을 **다리는 것**이 너무 어려워요. အင်္ကျီ မီးပူတိုက်ရတာ အရမ်း ခက်ပါတယ်။
  나: 그래요? 그럼 제가 다려 줄게요. ဟုတ်လား။ ဒါဆို ကျွန်တော် တိုက်ပေးပါ့မယ်။
- 가: 왜 항상 밖에서 밥을 사 먹어요? ဘာကြောင့် အမြဲတမ်း အပြင်မှာ ထမင်း ဝယ်စားတာလဲ။
  나: 저는 **요리하는 것**을 싫어해요. 그래서 사 먹어요.
  ကျွန်တော် ဟင်းချက်ရတာ မကြိုက်ဘူးဗျ။ အဲ့ဒါကြောင့် ဝယ်စားတာ။

### 대조적 정보 နှိုင်းယှဉ်ချက်

'ကိုရီးယားစာ လေ့လာရတာ ခက်ပါတယ်။' ဆိုတဲ့ ဝါကျမှာလို ကြိယာ + -ရတာ ဆိုတာမျိုး ဖော်ပြချင်တဲ့အခါ 'ကြိယာ + -는 것' ကို အသုံးပြုပါတယ်။

- 외국어를 **배우는 것**이 재미있다. နိုင်ငံခြားဘာသာကို လေ့လာရတာ ပျော်စရာကောင်းပါတယ်။
- 아침에 일찍 **일어나는 것**이 어렵다. မနက်ပိုင်း စောစော ထရတာ ခက်ပါတယ်။



'-는 것' ရဲ့ အသုံးကို နားလည်ပြီလား။ ဒါဆိုရင် ဥပမာထဲကလို စကားပြောကို အဆုံးသတ်ကြည့်ပါ။

2. 그림을 보고 〈보기〉처럼 대화를 완성하세요. ပုံကို ကြည့်ပြီး ဥပမာထဲက အတိုင်း ဝါကျကို အဆုံးသတ်ပါ။

보기



가: 요리가 힘들지 않아요? ဟင်းချက်ရတာ မပင်ပန်းဘူးလား။
나: 괜찮아요. 저는 음식을 만드는 것이 재미있어요.
ရပါတယ်။ ကျွန်မက အစားအစာ ချက်ပြုတ်ရတာ ပျော်ပါတယ်။

1) 

가: 먼지가 너무 많아요.
나: 청소할 때는 창문을 ______________이 좋아요.

2) 

가: 왜 빨래를 안 했어요?
나: 비가 올 때는 빨래를 ______________이 안 좋아요.

3)

가: 왜 옷을 모두 다려요?
나: 저는 옷을 ______________이 재미있어요.

4) 

가: 왜 사진을 안 찍어요?
나: 저는 사진 ______________을 안 좋아해요.

정답 1) 여는 것 2) 하는 것 3) 다리는 것 4) 찍는 것



## 활동 အသုံးချသင်ခန်းစာများ

〈보기〉처럼 친구하고 이야기해 보세요. ဥပမာမှာ ပြထားသလို သူငယ်ချင်းနဲ့ စကားပြောကြည့်ပါ။

보기 1

가: 투안 씨는 집안일 하는 것을 좋아해요? ထူအန်းက အိမ်အလုပ် လုပ်ရတာကို ကြိုက်လား။
나: 네, 좋아해요. ဟုတ်ကဲ့၊ ကြိုက်ပါတယ်။
가: 무슨 일 하는 것을 가장 좋아해요? ဘယ်အလုပ် လုပ်ရတာကို အကြိုက်ဆုံးလဲ။
나: 정리하는 것을 가장 좋아해요. အိမ်ရှင်းရတာကို အကြိုက်ဆုံးပဲ။

보기 2

가: 리한 씨는 집안일 하는 것을 좋아해요? ရီဟန်က အိမ်အလုပ် လုပ်ရတာကို ကြိုက်လား။
나: 아니요, 안 좋아해요. ဟင့်အင်း၊ မကြိုက်ပါဘူး။
가: 무슨 일 하는 것을 가장 안 좋아해요? ဘယ် အလုပ် လုပ်ရတာကို မကြိုက်ဆုံးလဲ။
나: 요리하는 것을 가장 안 좋아해요. ဟင်းချက်ရတာကို မကြိုက်ဆုံးပါ။

| | 이름 နာမည် | 집안일 အိမ်အလုပ် |
|---|---|---|
| 보기 | 투안 ထူအန်း | 정리하는 것을 가장 좋아해요.<br>အိမ်ရှင်းရတာကို အကြိုက်ဆုံးပါ။ |
| | 리한 ရီဟန် | 요리하는 것을 가장 안 좋아해요.<br>ဟင်းချက်ရတာကို မကြိုက်ဆုံးပါ။ |
| 1) | | |
| 2) | | |
| 3) | | |
| 4) | | |
| 5) | | |



## 정보 သတင်းအချက်အလက်

# 쓰레기 종량제와 분리수거

## အမှိုက် သတ်မှတ်ပမာဏ စနစ်နဲ့ အမှိုက်ခွဲခြား စွန့်ပစ်ခြင်း

### 쓰레기 종량제 အမှိုက် သတ်မှတ်ပမာဏ စနစ်

쓰레기의 실제 배출량에 따라 수수료를 다르게 부과하는 제도입니다. 한국에서는 지정된 규격의 쓰레기봉투를 판매하고 그 봉투에만 쓰레기를 담아서 버리도록 하고 있습니다. 그리고 재활용이 가능한 쓰레기는 제외하여 재활용률을 높이는 효과가 있습니다. 1995년부터 전국적으로 실시되었습니다.

အမှိုက်ထွက်လာတဲ့ ပမာဏပေါ် မူတည်ပြီး အခကြေးငွေ ကွဲပြားစွာ ကောက်ခံတဲ့ စနစ်ပါ။ ကိုရီးယားမှာတော့ သတ်မှတ်ထားတဲ့ အမှိုက်ပမာဏ အရွယ်လိုက် အမှိုက်အိတ်တွေကို ရောင်းချလျက် ရှိပြီး အဲဒီ အိတ်နဲ့ပဲ အမှိုက် ထည့်ပစ်ရပါတယ်။ ပြီးတော့ ပြန်သုံးနိုင်တဲ့ အမှိုက်တွေကိုတော့ ထည့်ပစ်စရာ မလိုလို့ ပြန်လည်အသုံးပြုမှုနှုန်းကို မြှင့်တင်တဲ့အတွက် အကျိုးရှိပါတယ်။ ၁၉၉၅ခုနှစ်က စပြီး တစ်နိုင်ငံလုံး ကျင့်သုံးလျက်ရှိပါတယ်။

### 쓰레기 분리수거 အမှိုက်ခွဲခြား စွန့်ပစ်ခြင်း

| 구분 | | 내용 |
|---|---|---|
| 일반 쓰레기<br>ရိုးရိုး အမှိုက် | | · 정해진 쓰레기봉투에 넣어야 합니다.<br>သတ်မှတ်ထားတဲ့ အမှိုက်အိတ်အတွင်း ထည့်ရပါမယ်။<br>· 정해진 장소에 버려야 합니다.<br>သတ်မှတ်ထားတဲ့ နေရာမှာ ပစ်ရပါမယ်။<br>· 음식물 쓰레기는 물기를 빼고 버려야 합니다.<br>စားကြွင်းစားကျန် အမှိုက်များကိုတော့ အရည်များ ဖယ်ပြီး ပစ်ရပါမယ်။<br>· 쓰레기봉투는 가까운 슈퍼마켓에서 살 수 있습니다.<br>အမှိုက်အိတ်များကို အနီးအနားရှိ ကုန်စုံဆိုင်များတွင် ဝယ်ယူနိုင်ပါတယ်။<br>· 쓰레기봉투의 종류와 가격<br>အမှိုက်အိတ် အမျိုးအစားများနှင့် ဈေးနှုန်းများ<br>- 일반 쓰레기봉투와 음식물 쓰레기봉투가 다릅니다.<br>ရိုးရိုး အမှိုက်အိတ်နှင့် စားကြွင်းစားကျန် အမှိုက်အိတ် ကွာခြားပါတယ်။<br>- 규격별로 있습니다. (5ℓ, 10ℓ, 20ℓ, 30ℓ, 50ℓ, 75ℓ)<br>အရွယ်အစား အလိုက် ရှိပါတယ်။ (၅၊ ၁၀၊ ၂၀၊ ၃၀၊ ၅၀၊ ၇၅ လီတာ)<br>- 지역별로 쓰레기봉투의 가격이 다릅니다.<br>ဒေသအလိုက် အမှိုက်အိတ် ဈေးနှုန်း ကွာခြားပါတယ်။ |
| 음식물 쓰레기<br>စားကြွင်းစားကျန် အမှိုက် | | |
| 대형 쓰레기<br>အမှိုက် အကြီးစား | | · 대형 쓰레기에 스티커를 붙여야 합니다.<br>အကြီးစား အမှိုက်တွေမှာ စတစ်ကာ ကပ်ရပါမယ်။<br>· 스티커는 주민자치센터에서 살 수 있습니다.<br>· 스티커는 인터넷으로도 살 수 있습니다.<br>စတစ်ကာကို မြို့နယ်ရပ်ကွက်ရုံးတွေမှာ ဝယ်လို့ ရပါတယ်။<br>စတစ်ကာကို အွန်လိုင်းကနေလည်း ဝယ်လို့ ရပါတယ်။ |
| 재활용 쓰레기<br>ပြန်လည်အစားထိုး အသုံးပြုနိုင်သော အမှိုက် | | · 재활용 쓰레기는 분리해서 버려야 합니다.<br>ပြန်သုံးနိုင်တဲ့ အမှိုက်များကို သပ်သပ် ခွဲပစ်ရပါမယ်။<br>· 종이류, 빈병류, 플라스틱류가 있습니다.<br>စက္ကူများ၊ ပုလင်းခွံများ၊ ပလတ်စတစ်များ ဆိုပြီး ခွဲထားပါတယ်။ |
| 헌 옷, 형광등, 건전지<br>အကျီဟောင်း၊ မီးသီး၊ ဓာတ်ခဲ | | · 헌 옷은 헌 옷 수거함에 넣어야 합니다.<br>အကျီအဟောင်းတွေကိုတော့ အကျီပုံးထဲ ထည့်ရပါမယ်။<br>· 형광등, 건전지는 전용 수거함에 넣어야 합니다.<br>မီးသီး၊ ဓာတ်ခဲများကိုလည်း သပ်သပ် ခွဲထားတဲ့ ပုံးထဲ ထည့်ရပါမယ်။ |



မေးခွန်း နံပါတ် ၁နဲ့ ၂မှာတော့ ပုံကို ကြည့်ပြီး မှန်တဲ့ စကားလုံးကို ရွေးပေးရမှာပါ။ သေချာ နားထောင်ပြီး အဖြေမှန်ကို ရွေးပါ။

[1~2] 다음 그림을 보고 알맞은 것을 고르십시오.
ပုံကို ကြည့်ပြီး သင့်တော်ရာကို ရွေးပါ။

Track 66

1. ① ② ③ ④

2. ① ② ③ ④



အောက်က ပုစ္ဆာတွေအတွက် မေးခွန်းကို နားထောင်ပြီး အဖြေမှန်ကို ရွေးပေးရမှာပါ။ စကားပြောကို နားမထောင်ခင် ရွေးဖို့ ပေးထားတာတွေကို အရင် ဖတ်ကြည့်ပါ။

[3~5] 질문을 듣고 알맞은 대답을 고르십시오. မေးခွန်းကို နားထောင်ပြီး သင့်တော်မယ့် အဖြေကို ရွေးပါ။

3. ① 날씨가 흐려서 기분이 안 좋아요.
② 너무 달아서 저는 안 먹고 싶어요.
③ 약속 시간에 늦어서 너무 미안해요.
④ 청소를 너무 안 해서 방이 더러워요.

4. ① 괜찮아요. 지난번에 한 번 봤어요.
② 싫어요. 저는 운동을 별로 안 좋아해요.
③ 죄송해요. 제가 좀 바빠서 내일은 어려워요.
④ 미안해요. 무릎이 안 좋아서 닦는 것이 힘들어요.

5. ① 좋아요. 저하고 같이 걷어요.
② 글쎄요. 저는 아까 걷었어요.
③ 그래요. 제가 바로 걷어 줄게요.
④ 맞아요. 내일 저녁에 걷을 거예요.

### 듣기 대본 စာသား

1. ① 여: 쓸어요 လှည်းပါတယ်　　② 여: 닦아요 သုတ်ပါတယ်
   ③ 여: 돌려요 လှည့်ပါတယ်　　④ 여: 버려요 ပစ်ပါတယ်
2. ① 남: 장을 봐요 ဈေးဝယ်ပါတယ်　　② 남: 밥을 해요 ထမင်းချက်ပါတယ်
   ③ 남: 음식을 만들어요 အစားအစာ ပြုလုပ်ပါတယ်　　④ 남: 설거지를 해요 ပန်းကန်ဆေးပါတယ်
3. 여: 방이 너무 더럽네요. အခန်းက အရမ်း ညစ်ပတ်တယ်နော်။
4. 남: 투안 씨는 방을 닦을래요? ထူအန်းက အခန်း ကြမ်းသုတ်ထားပေးမလား။
5. 여: 제 빨래 좀 지금 걷어 주세요. ကျွန်မ အဝတ်တွေ တစ်ဆိတ်လောက် အခု ရုတ်ပေးပါလား။

정답 1. ④ 2. ④ 3. ④ 4. ④ 5. ③



### 확장 연습 ထပ်ဆောင်း လေ့ကျင့်ရန်



1. 이것은 무엇입니까? ဒါ ဘာလဲ။



① ② ③ ④

2. 이 사람은 무엇을 하고 있습니까? သူ ဘာလုပ်နေတာလဲ။



① ② ③ ④

### 확장 연습 듣기 대본 ထပ်ဆောင်း လေ့ကျင့်ရန် စာသား

1. ① 남: 빗자루입니다. တံမြက်စည်းပါ။　　② 남: 청소기입니다. ဖုန်စုပ်စက်ပါ။
   ③ 남: 쓰레받기입니다. ဂေါ်ပြားပါ။　　④ 남: 먼지털이입니다. ဖုန်သုတ်ဝတ်ပါ။
2. ① 책을 읽고 있습니다. စာအုပ်ဖတ်နေပါတယ်။
   ② 낚시를 하고 있습니다. ငါးမျှားနေပါတယ်။
   ③ 등산을 하고 있습니다. တောင်တက်နေပါတယ်။
   ④ 친구를 만나고 있습니다. သူငယ်ချင်းကို တွေ့နေပါတယ်။

정답 1. ③ 2. ②



# EPS-TOPIK 읽기 EPS-TOPIK အဖြစ် စာမေးပွဲ



မေးခွန်း နံပါတ် ၁နဲ့ ၂မှာတော့ ပုံကို ကြည့်ပြီး မှန်တဲ့ ဝါကျကို ရွေးပေးရမှာပါ။ ပေးထားတဲ့ ပုံနဲ့ သင့်တော်တဲ့ ဝါကျကို ရွေးပါ။

[1~2] 다음 그림을 보고 맞는 문장을 고르십시오. အောက်ပါ ပုံကို ကြည့်ပြီး မှန်တဲ့ ဝါကျကို ရွေးပါ။

1. 

① 닦아요. ② 쓸어요.
③ 씻어요. ④ 빨아요.

2. 

① 장을 봐요. ② 빨래를 해요.
③ 창문을 열어요. ④ 반찬을 만들어요.



အောက်ပါ မေးခွန်းတွေအတွက် ဝါကျတွေ၊ စကားပြောတွေကို ဖတ်ပြီး ကွက်လပ်ဖြည့်ဖို့ မှန်ကန်တဲ့ အသုံးအနှုန်းတွေကို ရွေးပေးရမှာပါ။ အရင် လေ့လာခဲ့တာတွေကို ပြန်စဉ်းစားပြီး မေးခွန်းတွေကို ဖြေကြည့်ရအောင်။

[3~5] 빈칸에 들어갈 가장 알맞은 것을 고르십시오.
ကွက်လပ်ဖြည့်ရန် အသင့်တော်ဆုံး အရာကို ရွေးပါ။

3.
가: 방이 정말 ______________. အခန်းက အရမ်း ညစ်ပတ်နေတယ်။
나: 요즘 청소를 너무 안 해서 그래요. အခုတစ်လော သန့်ရှင်းရေး တော်တော့်ကို မလုပ်ဖြစ်လို့ပါ။

① 바빠요 ② 깨끗해요 ③ 가까워요 ④ 지저분해요

4.
가: 우리 같이 작업장을 청소할까요? ကျွန်တော်တို့ အတူတူ အလုပ်ခွင်ကို သန့်ရှင်းရေးလုပ်ကြမလား။
나: 좋아요. 제가 ______________. ကောင်းသားပဲ။ ကျွန်တော် အလုပ်ခွင်ကို လှည်းကျင်းလိုက်ပါ့မယ်။

① 작업장을 쓸게요 ② 작업장이 넓어요
③ 작업장에 없어요 ④ 작업장을 안 볼게요

5.
투안 씨, 저 리한이에요. 부탁이 있어요. 제가 오늘 아침에 옥상에 제 바지를 널었어요. 그런데 저는 오늘 기숙사에 못 들어가요 . 투안 씨가 오늘 저녁에 제 바지를 좀 ______________ 주세요. 고마워요.

ထူအန်းရေ၊ ကျွန်တော် ရီဟန်ပါ။ အကူအညီတောင်းစရာလေးရှိလို့။ ကျွန်တော် ဒီနေ့ မနက်က ခေါင်မိုးထပ်မှာ ကျွန်တော့် ဘောင်းဘီ လှန်းထားခဲ့တာ။ ဒါပေမယ့် ကျွန်တော် ဒီနေ့ အဆောင်ကို မပြန်ဖြစ်ဘူး။ ထူအန်းက ဒီနေ့ ညနေကျရင် ကျွန်တော့် ဘောင်းဘီလေး တစ်ဆိတ်လောက် ရုတ်ပေးပါနော်။ ကျေးဇူးပါ။

① 해 ② 걷어 ③ 닦아 ④ 만들어

정답 1. ① 2. ③ 3. ④ 4. ① 5. ②



## 확장 연습 ထပ်ဆောင်း လေ့ကျင့်ရန်

1. 다음 그림을 보고 맞는 문장을 고르십시오. ပုံကို ကြည့်ပြီး သင့်တော်ရာ စကားလုံးကို ရွေးပါ။



① 밀대입니다.　　② 봉투입니다.
③ 빗자루입니다.　　④ 휴지통입니다.

[2~3] 빈칸에 들어갈 가장 알맞은 것을 고르십시오.
ကွက်လပ်ဖြည့်ရန် အသင့်တော်ဆုံး အရာကို ရွေးပါ။

2. 한국에서는 집들이에 초대를 __________ 선물을 준비합니다.
ကိုရီးယားမှာကတော့ အိမ်တက်ပွဲကို ဖိတ်ကြားခံရရင် လက်ဆောင် ပြင်ဆင်ကြပါတယ်။

① 정하면　　② 받으면
③ 기다리면　　④ 생각하면

3. 하루 종일 일한 후에는 몸에서 땀 냄새가 많이 납니다. 그러니까 퇴근하고 집에 돌아오면 꼭 샤워를 하고 옷을 깨끗하게 __________.
တစ်နေကုန် အလုပ်လုပ်ပြီးတဲ့နောက်မှာတော့ ကိုယ်ကနေ ချွေးနံ့တွေ အရမ်း ထွက်ပါတယ်။ အဲဒီတော့ ရုံးဆင်းလို့ အိမ်ပြန်ရောက်ရင် မဖြစ်မနေ ရေချိုးပြီး အဝတ်ကို သန့်ရှင်းအောင် လျှော်ရပါမယ်။

① 빨 줄 압니다　　② 널 줄 압니다
③ 빨아야 됩니다　　④ 널어야 됩니다

정답 1. ① 2. ② 3. ③



## 발음 အသံထွက်



### သေချာ နားထောင်ပြီး လိုက်ဆိုပါ။

ကိုရီးယားဘာသာစကားမှာ အသတ်သံက အကန့်အသတ်ရှိပါတယ်။ စုစုပေါင်း အသတ်သံ (၇)ခုပဲ ရှိပါတယ်။ လျှာလိပ်သံဖြစ်တဲ့ 'ㄹ' ကတော့ ဥပမာ '을' လိုမျိုး [l] သံနဲ့ ထွက်ပေးရပါတယ်။

(1) 물, 길, 달, 얼굴
(2) 서울, 내일, 하늘, 거울
(3) 물 좀 주세요.
(4) 내일 봐요.



# 상 차리는 것을 도와줄까요?

ထမင်းဝိုင်းပြင်တာ ကူပေးရမလား။

**학습 안내**
သင်ရိုး အညွှန်း

- □ **သင်ခန်းစာ ရည်ရွယ်ချက်** ရှင်းပြတတ်ရန်နှင့် ခွင့်တောင်းတတ်စေရန်
- □ **သဒ္ဒါ** -는데/-(으)ㄴ데, -(으)ㄹ까요
- □ **ဝေါဟာရ** ချိန်းဆိုခြင်း၊ ဖိတ်ကြားခြင်း
- □ **သတင်းအချက်အလက်နှင့် ယဉ်ကျေးမှု** အိမ်တက် လက်ဆောင်



## 대화 1 စကားပြော ၁

Track 67



အာဒစ်က သူဌေးနဲ့ တွေ့ဖို့ ချိန်းထားပါတယ်။ ဒါပေမယ့် သူဌေးက အပြင် ခဏ ထွက်သွားပါတယ်။ အောက်မှာ အာဒစ်နဲ့ အတွင်းရေးမှူးတို့ကြား စကားပြောနေတာလေး ရှိပါတယ်။ သူတို့ ပြောတာကို နှစ်ခေါက် နားထောင်ပြီး လိုက်ပြောကြည့်ရအောင်။

비서 어떻게 오셨어요?
ဘာကိစ္စနဲ့ လာခဲ့တာပါလဲရှင်။

아딧 저는 한국건설 아딧이라고 합니다.
ကျွန်တော်ကတော့ ဟန်ဂု ဆောက်လုပ်ရေးက အာဒစ်လို့ ခေါ်ပါတယ်။
사장님하고 2시에 약속이 있어서 왔습니다.
သူဌေးနဲ့ ၂နာရီမှာ ချိန်းထားတာ ရှိလို့ လာခဲ့တာပါ။

비서 사장님이 잠깐 나가셨는데 제가 전화해 볼게요.
သူဌေး အပြင် ခဏ ထွက်သွားလို့ ကျွန်မ ဖုန်းခေါ်ကြည့်လိုက်ပါ့မယ်ရှင်။

(통화 후) (ဖုန်းခေါ်ပြီးနောက်)

비서 곧 오실 거예요.
သိပ်မကြာခင် ပြန်လာပါလိမ့်မယ်ရှင့်။
안에 들어가서 기다리세요.
အထဲ ဝင်ပြီး စောင့်နေပါနော်။

아딧 아니에요. 여기에서 기다릴게요.
ရပါတယ်ခင်ဗျ။ ဒီမှာပဲ စောင့်နေလိုက်ပါ့မယ်။

**-아서/어서 -လို့၊ -ပြီး**
အဖြစ်အပျက်တစ်ခုရဲ့ အစဉ်လိုက်ဖြစ်ပွားမှု အချိန်ကို ဖော်ပြသည်။
အကြောင်းပြချက်ကို ဖော်ပြသည်။
- 친구를 만나서 영화를 봤어요.
  သူငယ်ချင်းနဲ့ တွေ့ပြီး/ တွေ့လို့ ရုပ်ရှင်ကြည့်ခဲ့တယ်။
- 집에 가서 저녁을 먹고 쉬었어요.
  အိမ်ပြန်ပြီး ညနေစာစား နားခဲ့တယ်။

**(이)라고 하다 -လို့ ခေါ်ပါတယ်**
မိမိကိုယ်ကို မိတ်ဆက်တဲ့အခါနှင့် အခြားသူကို မိတ်ဆက်ပေးတဲ့အခါ သုံးသည်။
- 저는 투안이라고 해요.
  ကျွန်တော် ထူအန်းလို့ ခေါ်ပါတယ်။
- 이 사람은 수루라고 합니다.
  သူတတော့ ဆူရူလို့ ခေါ်ပါတယ်။



သေချာ နားထောင်ပြီး လိုက်ဆိုခဲ့ရဲ့လား။ ဒါဆိုရင် အောက်က မေးခွန်းတွေကို ဖြေကြည့်ရအောင်။

1. 아딧 씨는 왜 여기에 왔어요? အာဒစ်က ဘာကြောင့် ဒီကို လာခဲ့တာလဲ။
2. 사장님은 어디에 계세요? သူဌေးက ဘယ်မှာ ရှိနေလဲ။

정답 1. 사장님하고 2시에 약속이 있어서 왔어요. 2. 사장님은 잠깐 밖에 나가셨어요.



## 어휘 1 ဝေါဟာရ ၁ 약속 ချိန်းဆိုမှု



တွေ့ဖို့ချိန်းထားတဲ့ ကတိရှိရင် တည်တတ်ရဲ့လား။ ချိန်းဆိုမှုနဲ့ ပတ်သက်တဲ့ စကားလုံးလေးတွေ လေ့လာကြည့်ရအောင်။




약속을 하다
တွေ့ရန် ချိန်းဆိုသည်



약속을 지키다
ချိန်းတဲ့ ကတိတည်သည်




약속을 어기다
ချိန်းတဲ့ ကတိ ဖောက်ဖျက်သည်



약속에 늦다
ချိန်းထားတာ နောက်ကျမှ ရောက်သွားသည်



방문을 하다
သွားရောက်လည်ပတ်သည်



안내하다
လမ်းညွှန်သည်



안내를 받다
လမ်းညွှန်မှုကို ရယူသည်



기다리다
စောင့်သည်

- 두 시에 아딧 씨를 만났어요. 아딧 씨는 **약속을** 잘 **지켜요**.
  ၂ နာရီမှာ အာဒစ်နဲ့ တွေ့ခဲ့တယ်။ အာဒစ်က ချိန်းတဲ့ ကတိ ကောင်းကောင်း တည်ပါတယ်။
- 흐엉 씨는 약속 장소에 안 나왔어요. **약속을 어겼어요**.
  ဟူအောင်းက ချိန်းထားတဲ့ နေရာကို မလာခဲ့ဘူး။ ချိန်းတဲ့ကတိ မတည်ခဲ့ဘူး။
- 버스를 놓쳐서 **약속에 늦었어요**. ဘတ်စ်ကားလွတ်သွားလို့ ချိန်းထားတဲ့ဆီ နောက်ကျသွားတယ်။
- 한 시간 동안 여자 친구를 **기다렸지만** 안 왔어요. တစ်နာရီလုံးလုံး ကောင်မလေးကို စောင့်နေခဲ့ပေမယ့် မလာခဲ့ဘူး။



အပေါ်က ဝေါဟာရတွေကို မကြည့်ဘဲ မေးခွန်းလေးတွေ ဖြေကြည့်ရအောင်။

1. 그림에 맞는 표현을 〈보기〉에서 골라 넣으세요.
အောက်က ပုံနဲ့ လိုက်မယ့် အသုံးအနှုန်းကို ဥပမာ ဝေါဟာရထဲကနေ ရွေးပြီး ထည့်ပါ။




1)



2)

3)



4)

보기 약속을 하다 기다리다 안내를 하다 방문하다

정답 1) 약속을 하다 2) 방문하다 3) 안내를 하다 4) 기다리다

# 문법 1 သဒ္ဒါ ၁ -는데/-(으)ㄴ데




စကားစပြောဖို့အတွက် အရင်က အခြေအနေတစ်ခုကို ညွှန်းပြီး ပြောတဲ့အခါ သုံးပါတယ်။ ကြိယာ မျိုးစုံနဲ့ တွဲဖက်သုံးလေ့ရှိပြီး '있다/없다' နဲ့ တွဲသုံးတဲ့ အခါမှာတော့ '-는데' ကို သုံးပါတယ်။

| 동사 (ကြိယာ) | 형용사 (ဖြစ်ခြင်းပြ ကြိယာ) | | 명사 (နာမ်) |
|---|---|---|---|
| -는데 | 자음 (ဗျည်း) → -은데 | 모음(သရ) → -ㄴ데 | 인데 |
| 먹다 → 먹**는데**<br>오다 → 오**는데** | 많다 → 많**은데** | 크다 → **큰데** | 사람 → 사람**인데**<br>친구 → 친구**인데** |

- 가: 밖에 비가 많이 **오는데** 창문 좀 닫아 주실래요?
  အပြင်မှာ မိုးတွေ မတရား ရွာနေတယ်ဆိုတော့ ပြတင်းပေါက်လေး တစ်ချက်လောက် ပိတ်ပေးပါလားဟင်။
  나: 네, 그럴게요. ဟုတ်ကဲ့၊ ပိတ်လိုက်ပါ့မယ်။
- 가: 마웅 씨, 날씨도 **좋은데** 우리 오늘 놀러 갈까요?
  မောင်မောင်ရေ၊ ရာသီဥတုလည်း ကောင်းတယ်ဆိုတော့ ကျွန်တော်တို့ ဒီနေ့ သွားလည်ကြမလား။
  나: 좋아요. 어디에 가고 싶어요? ကောင်းသားပဲ။ ဘယ်သွားချင်လဲ။
- 가: 피자가 **맛있는데** 더 드실래요? ပီဇာတွေ စားလို့ ကောင်းရကောင်းနဲ့၊ ထပ်စားပါဦးလား။
  나: 네, 더 주세요. ဟုတ်ကဲ့၊ ထပ်ပေးပါ။





### 대조적 정보 နှိုင်းယှဉ်ချက်

'-는데/-(으)ㄴ데' ကတော့ (အကြောင်းပြချက်)လည်း ဖြစ်သလို (ဝါကျဆက်)လည်း ဖြစ်ပါတယ်။ မြန်မာလို ဘာသာပြန်တဲ့အခါ မြန်မာဝါကျဆက်ကို သုံးတာထက် ဝါကျနှစ်ကြောင်းအဖြစ် ဘာသာပြန်လိုက်တာက ပို အဆင်ပြေပါတယ်။

- **더운데** 창문을 열까요? ပူလိုက်တာ၊ ပြတင်းပေါက် ဖွင့်လိုက်ရမလား။
- 제 오빠는 **학생인데** 축구를 아주 잘해요. ကျွန်မ အစ်ကိုက ကျောင်းသားပါ၊ ဘောလုံးကန်တာ အရမ်း ကောင်းပါတယ်။



'-는데/-(으)ㄴ데' ရဲ့ အသုံးကို နားလည်ပြီလား။ ဒါဆိုရင် ဥပမာထဲကနေ မှန်ကန်တဲ့ အသုံးကို ရွေးပြီး စကားပြောကို အဆုံးသတ်ကြည့်ပါ။

2. 빈칸에 맞는 표현을 〈보기〉에서 골라 '-는데/-(으)ㄴ데'를 사용해서 대화를 완성하세요.
   ကွက်လပ်ဖြည့်ဖို့ သင့်တော်မယ့် စကားလုံးကို ဥပမာထဲက ရွေးပြီး '-는데/-(으)ㄴ데' နဲ့ တွဲဖက်လို့ ဝါကျကို အဆုံးသတ်ပါ။

1) 가: 투안 씨, 시간이 있으면 이것 좀 가르쳐 주세요.
   ထူအန်းရေ၊ အချိန်ရရင် ဒါလေး နည်းနည်းလောက် သင်ပေးပါလားဟင်။
   나: 지금은 시간이 ________________ 조금 이따 오세요.

2) 가: 모니카 씨, 마트에 ________________ 뭐 필요한 거 있어요?
   나: 그럼 우유 좀 사다 주세요. ဒါဆို နွားနို့လေး နည်းနည်းလောက် ဝယ်လာပေးပါလား။

3) 가: 우리 오늘 같이 청소해요. 방이 너무 더러워요.
   ကျွန်တော်တို့ ဒီနေ့ အတူတူ သန့်ရှင်းရေး လုပ်ရအောင်။ အခန်းက အရမ်း ညစ်ပတ်နေတယ်။
   나: 오늘은 좀 ________________ 내일 하면 안 돼요?

보기
바쁘다
없다
가다

정답 1) 없는데 2) 가는데 3) 바쁜데



## 대화 2 စကားပြော ၂

Track 68



မိုနီခါတစ်ယောက် ဆိုဟီတို့ အိမ်ကို အဖိတ်ခံရလို့ အိမ်တက်လက်ဆောင်တစ်ခု ဆိုဟီ့ကို ပေးလိုက်ပါတယ်။ သူတို့ ဘာတွေပြောနေလဲ ခန့်မှန်းကြည့်ရအောင်။ အရင်ဆုံး သူတို့ ပြောနေတာကို နှစ်ခေါက် နားထောင်ကြည့်ပါ။ ပြီးရင်တော့ ဆိုဟီနဲ့ မိုနီခါ ပြောသလို လိုက်ပြောကြည့်ပါ။

소 희 모니카 씨, 어서 와요.
မိုနီခါရေ၊ လာပါ၊ ကြွပါ။

모니카 네, 초대해 주셔서 감사해요.
အခုလို ဖိတ်ကြားပေးတဲ့အတွက် ကျေးဇူးပါနော်။
집이 참 좋네요.
အိမ်က အရမ်း ကောင်းလိုက်တာ။

소 희 고마워요. 그런데 집 찾기가 어렵지 않았어요?
ကျေးဇူးပဲနော်။ ဒါနဲ့ အိမ် ရှာရတာ မခက်ဘူးလား။

모니카 아니에요. 금방 찾았어요.
မဟုတ်တာပဲရှင်။ ချက်ချင်း ရှာတွေ့ပါတယ်။
이건 집들이 선물이에요.
ဒါကတော့ အိမ်တက်လက်ဆောင်ပါ။

소 희 뭘 이런 걸 준비했어요?
ဘာလို့ ဒါမျိုးတွေ ပြင်လာရတာလဲ၊ အားနာစရာ။
어서 앉으세요.
ထိုင်ပါ၊ ထိုင်ပါ။

모니카 상 차리는 것을 좀 도와줄까요?
ထမင်းဝိုင်းပြင်တာ နည်းနည်း ကူပေးရမလားရှင့်။

소 희 아니에요. 다 됐어요.
မဟုတ်တာပဲရှင်။ အားလုံး အသင့်ဖြစ်နေပါပြီ။

**-기가 -ရတာ**
ပြောသူရဲ့ ထင်မြင်ယူဆချက်ကို ဖော်ပြဖို့ သုံးပါတယ်။ '-기가'အစား '-는 것이' ကိုလည်း အစားထိုး အသုံးပြုနိုင်ပါတယ်။

- 이곳은 가게들이 많아서 쇼핑하기 좋아요.
  ဒီနေရာက ဆိုင်တွေ များတော့ ရှော့ပင်ထွက်လို့ ကောင်းတယ်။
- 한국어를 배우기 쉽지 않아요.
  ကိုရီးယားစာ လေ့လာရတာ မလွယ်ဘူးလား။

**금방 ချက်ချင်း၊ တအောင့်နေ၊ ခုနက**
၁။ အချိန် သိပ် မကြာဘဲ
- 이 일은 어렵지 않아서 금방 끝났어요.
  ဒီ အလုပ်က မခက်လို့ ချက်ချင်း ပြီးသွားတယ်။

၂။ သိပ်မကြာသေးမီကတင်
- 가: 이것 좀 드세요.
  ဒါလေး နည်းနည်း စားပါဦး။
- 나: 아니에요. 금방 저녁을 먹고 왔어요.
  ဟင့်အင်း၊ ခုနကတင် ညစာ စားပြီး လာခဲ့လို့ပါ။



သချော နားထောင်ပြီး လိုက်ဆိုခဲ့ရဲ့လား။ ဒါဆိုရင် အောက်က မေးခွန်းတွေ ဖြေကြည့်ရအောင်။

1. 모니카 씨는 어디를 방문했어요? မိုနီခါက ဘယ်ကို သွား/ရောက်ခဲ့ပါသလဲ။
2. 모니카 씨는 무엇을 준비했어요? မိုနီခါက ဘာကို ပြင်ဆင်ခဲ့ပါသလဲ။

정답 1. 소희 집을 방문했어요. 2. 집들이 선물을 준비했어요.



## 어휘 2 ဝေါဟာရ ၂ 초대 ဖိတ်ကြားခြင်း

ဖိတ်ကြားမှုနဲ့ ပတ်သက်တဲ့ အသုံးအနှုန်းလေးတွေ ဘာတွေရှိလဲဆိုတာ လေ့လာကြည့်ရအောင်။




초대하다
ဖိတ်ကြားသည်




초대를 받다
ဖိတ်ကြားခြင်းခံရသည်



선물을 준비하다
လက်ဆောင် ပြင်ဆင်သည်



집을 찾다
အိမ်ရှာသည်




마중 나가다
သွားကြိုသည်



음식을 장만하다
ချက်ပြုတ်ပြင်ဆင်သည်



상을 차리다
ထမင်းဝိုင်း ပြင်သည်



상을 치우다
ထမင်းဝိုင်း သိမ်းသည်



이야기를 나누다
စကားစမြည်ပြောသည်



배웅하다
လိုက်ပို့သည်

- 우리 집에 친구를 **초대했어요**. 그리고 한국 **음식을 장만했어요**. ကျွန်တော်တို့ အိမ်ကို သူငယ်ချင်း အလည် ဖိတ်ထားပါတယ်။ ပြီးတော့ ကိုရီးယားအစားအစာတွေ ပြင်ဆင် ထားပါတယ်။
- 우리는 함께 **상을 차렸어요**. 음식을 다 먹고 **상을 치웠어요**. ကျွန်တော်တို့ အတူတူ ထမင်းဝိုင်း ပြင်ကြပါတယ်။ အစားအသောက်တွေကို အကုန် စားပြီး ထမင်းဝိုင်း သိမ်းကြပါတယ်။
- 나는 집들이에 **초대를 받았어요**. 그래서 **선물을 준비했어요**. ကျွန်တော် အိမ်တက် အဖိတ်ခံရပါတယ်။ အဲဒါကြောင့် လက်ဆောင် ပြင်ခဲ့ပါတယ်။



အပေါ်မှာ လေ့လာခဲ့တဲ့ ဝေါဟာရတွေကို ပြန်စဉ်းစားရင်း မေးခွန်းတွေ ဖြေကြည့်ကြရအောင်။

1. 그림에 맞는 표현을 〈보기〉에서 골라 넣으세요.
   အောက်က ပုံနဲ့ လိုက်မယ့် အသုံးအနှုန်းကို ဥပမာ ဝေါဟာရထဲကနေ ရွေးပြီး ထည့်ပါ။




초대를 했어요.



1) ______



2) ______



3) ______




초대를 받았어요.



4) ______



5) ______



6) ______

**보기**

집을 찾다
이야기를 나누다
선물을 준비하다
마중 나가다
상을 차리다
음식을 장만하다

정답 1) 음식을 장만하다 2) 상을 차리다 3) 마중 나가다 4) 선물을 준비하다 5) 집을 찾다 6) 이야기를 나누다

## 문법 2 သဒ္ဒါ ၂ -(으)ㄹ까요



ရှေ့မှာ သင်ယူခဲ့တဲ့အတိုင်းပဲ '-(으)ㄹ까요?' ကို အဆိုပြုတဲ့အခါမှာ သုံးပါတယ်။ ပြောသူက မိမိဖြစ်တဲ့အခါ တစ်ဖက်သားရဲ့ အတွေးကို မေးပြီး ခွင့်ပြုချက်တောင်းတဲ့အဓိပ္ပါယ်ဖြစ်ပါတယ်။

| 자음 (ဗျည်း) → **-을까요?** | 모음 (သရ), 자음 (ဗျည်း) 'ㄹ' → **-ㄹ까요?** |
|---|---|
| 닫다 → 닫**을까요?** | 준비하다 → 준비**할까요?**<br>만들다 → 만**들까요?** |



· 가: 제가 선물을 **준비할까요?** ကျွန်မ လက်ဆောင် ပြင်လိုက်ရမလား။
  나: 네, 수미 씨가 선물을 사세요. 제가 케이크를 살게요.
  ဟုတ်ကဲ့၊ ဆူမီက လက်ဆောင် ဝယ်ပါ။ ကျွန်တော် ကိတ်မုန့် ဝယ်လိုက်မယ်။
· 가: 제가 창문을 **닫을까요?** ကျွန်တော် ပြတင်းပေါက် ပိတ်လိုက်ရမလား။
  나: 네, 닫으세요. ဟုတ်ကဲ့၊ ပိတ်လိုက်ပါ။

### 비교해 보세요 နှိုင်းယှဉ်ကြည့်ပါ။

**✔ '-(으)ㄹ까요' နှင့် '-(으)ㄹ래요'**

'-(으)ㄹ까요' နဲ့ '-(으)ㄹ래요' နှစ်ခုစလုံးကို သူတစ်ပါးရဲ့ ထင်မြင်ချက်ကို မေးမြန်းဖို့နဲ့ အကြံဉာဏ်ပေးဖို့ သုံးပါတယ်။ '-(으)ㄹ까요' ကိုတော့ ကတ္တားပုဒ် နေရာမှာ ကျွန်တော်၊ကျွန်မ ဆိုရင် သုံးပြီးတော့ '-(으)ㄹ래요' ကိုတော့ ကျွန်တော်၊ ကျွန်မ ကတ္တားနဲ့ တွဲသုံးလို့ မရပါဘူး။ '-(으)ㄹ까요' ကိုတော့ မေးခွန်းအနေနဲ့ပဲ သုံးပေမယ့် '-(으)ㄹ래요' ကို အမေးရော၊ အဖြေအနေနဲ့ရော အသုံးပြုနိုင်ပါတယ်။

· 제가 가져**올까요**?(O) 제가 가져올래요?(X)
· 제가 할까요.(X) 제가 **할래요**.(O)



'-(으)ㄹ까요' ရဲ့ အသုံးကို နားလည်ပြီလား။ ဒါဆိုရင် စကားပြောကို ဖတ်ပြီး သင့်တော်တဲ့ ဝါကျကို ရွေးကြည့်ပါ။

2. 대화를 읽고 맞는 답을 고르세요. မေးခွန်းကို ဖတ်ပြီး သင့်တော်တဲ့ အဖြေကို ရွေးပါ။

1) 가: 제가 도와줄까요? ကျွန်တော် ကူရမလား။
   나: ______________________.

① 네, 좀 도와주세요 ② 네, 혼자 할 수 있어요

2) 가: 제가 선물을 준비할까요? ကျွန်တော် လက်ဆောင် ပြင်ရမလား။
   나: ______________________.

① 아니요, 우리 같이 사요 ② 아니요, 선물 감사합니다

정답 1) ① 2) ①



## 활동 အသုံးချသင်ခန်းစာများ



ဥပမာထဲကလို သူငယ်ချင်းနဲ့ အပြန်အလှန် စကားပြောကြည့်ပါ။

〈보기〉처럼 이야기해 보세요. ဥပမာမှာ ပြထားသလို သူငယ်ချင်းနဲ့ စကားပြောကြည့်ပါ။



보기



사무실로 가다
ရုံးခန်းကို သွားသည်

가: 제가 사무실로 갈까요? ကျွန်တော် ရုံးခန်းကို သွားရမလား။
나: 네, 사무실로 오세요. ဟုတ်ကဲ့၊ ရုံးခန်းကို လာခဲ့ပါရှင်။

1)



음식을 만들다
အစားအစာ ပြုလုပ်သည်

2)



상을 차리다
ထမင်းဝိုင်း ပြင်သည်

3)



선물을 준비하다
လက်ဆောင် ပြင်ဆင်သည်

4)



상을 치우다
ထမင်းဝိုင်း သိမ်းသည်

정답
1) 가: 제가 음식을 만들까요?
나: 네, 음식을 만드세요.
2) 가: 제가 상을 차릴까요?
나: 네, 상을 차리세요.
3) 가: 제가 선물을 준비할까요?
나: 네, 선물을 준비하세요.
4) 가: 제가 상을 치울까요?
나: 네, 상을 치우세요.



## 정보 သတင်းအချက်အလက်

# 집들이 선물 အိမ်တက် လက်ဆောင်

한국 사람들은 결혼을 하거나 이사를 한 후에 가족이나 친구, 회사 동료를 집에 초대하는데 이것을 '집들이'라고 합니다. 집들이를 할 때는 친구들을 초대하고 그 사람들이 먹을 음식을 장만합니다. 그리고 초대 받은 사람은 집들이에 갈 때 선물을 준비합니다. 집들이 선물로는 세제나 휴지가 인기가 있습니다. 세제는 거품이 생기는 것처럼 좋은 일이 많이 생기고 부자가 되라는 의미가 있고, 휴지는 일이 술술 풀리라는 의미가 있습니다. 요즘은 초대한 사람에게 필요한 것을 물어보고 필요한 것을 사 주기도 합니다. 그리고 새 집에 어울리는 시계나 화분 같은 장식 용품도 선물로 인기가 많습니다. 특히 신혼부부들에게는 커피 잔이나 수저 세트 등 부부가 같이 쓸 수 있는 물건을 많이 선물합니다. 여러분도 집들이에 초대 받으면 이런 선물을 준비해 보세요.

ကိုရီးယား လူမျိုးတွေက မင်္ဂလာဆောင် ဒါမှမဟုတ် အိမ်ပြောင်းပြီးနောက်မှာ မိသားစု ဒါမှမဟုတ် သူငယ်ချင်း၊ လုပ်ဖော် ကိုင်ဖက်တွေကို အိမ်ကို ဖိတ်တတ်ပြီး ဒါကို အိမ်တက်လို့ ခေါ်ပါတယ်။ အိမ်တက်လုပ်တဲ့အခါ သူငယ်ချင်းတွေကို ဖိတ်ပြီး သူတို့ စားဖို့ အစားအသောက်တွေ ပြင်ဆင်ပါတယ်။ ပြီးတော့ အဖိတ်ခံရတဲ့ လူက အိမ်တက်ကို သွားတဲ့အခါ လက်ဆောင် ပြင် ရပါ တယ်။ အိမ်တက် လက်ဆောင်အဖြစ် ဆပ်ပြာမှုန့် ဒါမှမဟုတ် စက္ကူလိပ်က ရေပန်းစားပါတယ်။ ဆပ်ပြာမှုန့်ကတော့ အမြှုပ် တွေ ထွက်သလို မင်္ဂလာရှိတဲ့ ကိစ္စတွေ အများကြီး ပေါ်ပေါက်ပြီး သူဌေးဖြစ်ပါစေဆိုတဲ့ အဓိပ္ပာယ် ရှိပြီးတော့ စက္ကူလိပ်ကတော့ ကိစ္စ အဝဝ ချောချောမွေ့မွေ့ ပြီးမြောက်ပါစေဆိုတဲ့ အဓိပ္ပာယ် ရှိပါတယ်။ အခုတလောမှာတော့ ဖိတ်တဲ့ သူကို ဘာလိုလဲ မေး ကြည့်ပြီး လိုတာကို ဝယ်သွားပေးတဲ့အခါလည်း ရှိပါတယ်။ ပြီးတော့ အိမ်သစ်နဲ့ လိုက်မယ့် နာရီတို့ ပန်းအိုးတို့လိုမျိုး အလှဆင် ပစ္စည်းတွေလည်း လက်ဆောင်အဖြစ် ရေပန်းစားပါတယ်။ အထူးသဖြင့် မင်္ဂလာဦးဇနီးမောင်နှံတွေအတွက်တော့ ကော်ဖီခွက်တို့၊ ဇွန်းနဲ့တူတို့ စတဲ့ လင်မယား ဆင်တူ သုံးလို့ ရတဲ့ ပစ္စည်းတွေ များများ လက်ဆောင်ပေးကြပါတယ်။ လူကြီးမင်းတို့လည်း အိမ် တက်ကို ဖိတ်ကြားခံရတဲ့အခါ ဒီလို လက်ဆောင်တွေကို ပြင်ဆင်ကြည့်ကြပါနော်။




세제 ဆပ်ပြာမှုန့်

휴지 စက္ကူလိပ်၊ တစ်ရှူးလိပ်

화분 ပန်းအိုး

커피 잔 လက်ဖက်ရည် ပန်းကန်လုံး

수저 ဇွန်းနဲ့ တူ

시계 တိုင်ကပ်နာရီ

## 내용 확인 ဉာဏ်စမ်းမေးခွန်း

✚ 빈칸에 알맞은 말을 쓰세요. ကွက်လပ်ဖြည့်ရန် ဆီလျော်သော စကားလုံးကို ရေးဖြည့်ပါ။

1. 이사를 한 후에 가족, 친구, 회사 동료를 집에 초대하는 것을 ___ ___ ___ (이)라고 합니다.
   အိမ်ပြောင်းပြီးနောက် မိသားစု၊ မိတ်ဆွေ၊ လုပ်ဖော်ကိုင်ဖက်တွေကို အိမ်ကို ဖိတ်တာကို အိမ်တက်ဟု ခေါ်သည်။

2. 집들이 선물로 ___ ___ 은/는 거품이 생기는 것처럼 좋은 일이 많이 생기고 부자가 되라는 의미가 있습니다.
   အိမ်တက်လက်ဆောင်အဖြစ် ဆပ်ပြာမှုန့်ကတော့ အမြှုပ်တွေ ထွက်သလို အလုပ်တွေ ပေါ်ပြီး သူဌေးဖြစ်ပါစေဆိုတဲ့ အဓိပ္ပာယ် ရှိပါတယ်။

정답 1. 집들이 2. 세제



မေးခွန်း နံပါတ် ၁ကနေ ၃အထိကတော့ မေးခွန်းကို နားထောင်ပြီး အဖြေမှန်ကို ရွေးပေးရမှာပါ။ မေးခွန်းကို နားမထောင်ခင် ရွေးဖို့ ပေးထားတာတွေကို အရင် ဖတ်ကြည့်ပါ။

[1~3] 질문을 듣고 알맞은 대답을 고르십시오.
မေးခွန်းကို နားထောင်ပြီး သင့်တော်သော အဖြေကို ရွေးပါ။




1. ① 약속에 늦었어요.
   ② 안내해 드리세요.
   ③ 방문을 하려고 해요.
   ④ 사장님하고 약속을 했어요.

2. ① 네, 제가 선물을 샀어요.
   ② 네, 꽃이 예뻐서 샀어요.
   ③ 아니요, 우리 같이 사러 가요.
   ④ 아니요, 백화점은 너무 비싸요.

3. ① 네, 저도 초대를 받았어요.
   ② 네, 약속이 있어서 못 가요.
   ③ 아니요, 집 찾기가 어려웠어요.
   ④ 아니요, 제가 음식을 장만할게요.



အောက်က ပုစ္ဆာတွေအတွက် လူနှစ်ယောက် စကားပြောနေတာကို နားထောင်ပြီး အဖြေမှန်ကို ရွေးပေးရမှာပါ။ စကားပြောကို နားမထောင်ခင် ရွေးဖို့ ပေးထားတာတွေကို အရင် ဖတ်ကြည့်ပါ။

[4~5] 하나의 이야기를 듣고 두 개의 질문에 대답하십시오.
စကားပြောတစ်ခုကို နားထောင်ပြီး မေးခွန်းနှစ်ခုအတွက် အဖြေမှန်ကို ရွေးပါ။

4. 남자는 여기에 왜 왔습니까? ယောကျ်ားလေးက ဒီကို ဘာကြောင့် လာခဲ့တာပါလဲ။
   ① 선물을 사고 싶어서
   ② 친구를 만나고 싶어서
   ③ 집들이에 초대를 받아서
   ④ 사장님하고 약속이 있어서

5. 남자는 몇 시에 약속을 했습니까? ယောကျ်ားလေးက ဘယ်နှစ်နာရီမှာ တွေ့ဖို့ ချိန်းခဲ့ပါသလဲ။
   ① 11시　　② 12시
   ③ 1시　　④ 2시

### 듣기 대본 စာသား

1. 여: 어떻게 오셨어요? ဘာကိစ္စနဲ့ လာခဲ့တာပါလဲ။
2. 남: 제가 선물을 준비할까요? ကျွန်တော် လက်ဆောင် ပြင်ရမလား။
3. 여: 민수 씨, 투안 씨 집들이에 갈 거예요?
   မင်ဆူရေ၊ ထူအန်းတို့ အိမ်တက်ကို သွားမှာလား။

4-5. 여: 어떻게 오셨어요? ဘာကိစ္စနဲ့ လာခဲ့တာပါလဲ။
   남: 사장님을 만나러 왔습니다. သူဌေးနဲ့ တွေ့ဖို့ လာခဲ့တာပါ။
   여: 약속을 하셨어요? တွေ့ဖို့ ကြိုချိန်းထားပါသလား။
   남: 네, 2시에 약속을 했어요. ဟုတ်ကဲ့။ ၂ နာရီမှာ တွေ့ဖို့ ချိန်းထားပါတယ်။
   여: 지금 회의 중인데 잠깐만 기다리세요. အခု အစည်းအဝေးလုပ်နေတုန်းမို့ ခဏလောက် စောင့်ပါနော်။

정답 1. ④ 2. ③ 3. ① 4. ④ 5. ④



## 확장 연습 ထပ်ဆောင်း လေ့ကျင့်ရန်



L-21

1. 질문을 듣고 알맞은 대답을 고르십시오.
   မေးခွန်းကို နားထောင်ပြီး သင့်တော်မယ့် အဖြေကို ရွေးပါ။

① 정말이에요? 토요일에 갔어요?

② 좋아요. 그런데 몇 시에 가려고 해요?

③ 그럼요. 수루 씨도 같이 가면 좋겠어요.

④ 죄송해요. 일요일에는 반장님을 만나야 해요.

### 확장 연습 듣기 대본 ထပ်ဆောင်း လေ့ကျင့်ရန် စာသား

1. 남: 토요일에 반장님 댁에 갈 거예요. 수루 씨도 같이 갈래요?
   စနေနေ့မှာ ဆရာတို့ အိမ် သွားမလို့၊ ဆူရူရော အတူတူ သွားမလား။

정답 1. ②



## 유용한 표현 အသုံးဝင်သော အသုံးအနှုန်းများ

**그게 정말이에요? အဲဒါ တကယ်လား။**

가: 민수 씨가 어제 입원을 했대요. မင်ဆူ မနေ့က ဆေးရုံတင်လိုက်ရတယ်တဲ့။
나: **그게 정말이에요? အဲဒါ တကယ်လား။**



## EPS-TOPIK 읽기 EPS-TOPIK အဖတ် စာမေးပွဲ



မေးခွန်း နံပါတ် ၁ကနေ ၃အထိကတော့ ကွက်လပ်ဖြည့်ဖို့ မှန်ကန်တဲ့ အသုံးအနှုန်းတွေကို ရွေးပေးရမှာပါ။ အရင် လေ့လာခဲ့တာတွေကို ပြန်စဉ်းစားပြီး အဖြေမှန်ကို ရွေးကြည့်ရအောင်။

[1~3] 빈칸에 들어갈 가장 알맞은 것을 고르십시오. ကွက်လပ်ဖြည့်ရန် အသင့်တော်ဆုံး အရာကို ရွေးပါ။

1. 반장님, 집들이에 ________ 주셔서 감사합니다.
   ဆရာ၊ အိမ်တက်ကို ဖိတ်ကြားပေးတဲ့အတွက် ကျေးဇူးတင်ပါတယ်။

   ① 인사해 ② 초대해 ③ 장만해 ④ 준비해

2. 한국 사람들은 보통 다른 사람의 집을 ________ 때 선물을 가지고 갑니다.
   작은 것이라도 서로 나누는 것을 '정'이라고 생각합니다.
   ကိုရီးယား လူမျိုးတွေက များသောအားဖြင့် သူများ အိမ်ကို သွားရောက်တဲ့အခါ လက်ဆောင် ယူသွားတတ်ပါတယ်။

   ① 방문할 ② 전화할 ③ 배웅할 ④ 마중할

3. ________ 에 늦거나 지키지 못할 때는 미리 전화를 해야 합니다.
   ချိန်းထားတာ နောက်ကျတာပဲဖြစ်ဖြစ် ကတိမတည်နိုင်တဲ့အခါ ကြိုပြီး ဖုန်းဆက်ရပါမယ်။

   ① 선물 ② 약속 ③ 안내 ④ 음식



အောက်မှာ အိမ်တက်နဲ့ ပတ်သက်တဲ့ သတင်းဆောင်းပါးလေး ရှိပါတယ်။ အိမ်တက်မှာ ဘာတွေ လုပ်တယ်၊ ဘာလေး လက်ဆောင်ပေးရတယ်ဆိုတာ စဉ်းစားရင်း မေးခွန်းတွေကို ဖြေကြည့်ပါ။

[4~5] 다음 질문에 답하십시오. မေးခွန်းများကို ဖြေပါ။

저는 지난 주말에 집들이를 했습니다. 그래서 토요일 아침에 집안을 깨끗이 청소했습니다. 그리고 오후에 시장에 가서 고기와 여러 가지 채소를 샀습니다. 집에 와서 음식을 장만했습니다. 저녁 6시가 되어서 친구들이 집에 왔습니다. 집들이 선물로 세제와 휴지를 받아서 기분이 아주 좋았습니다. 우리는 저녁을 맛있게 먹고 이야기를 나눴습니다. 정말 재미있었습니다.

ကျွန်တော် ပြီးခဲ့တဲ့ ပိတ်ရက်မှာ အိမ်တက်လုပ်ခဲ့ပါတယ်။ အဲဒါကြောင့် စနေနေ့ မနက်မှာ အိမ်ကို သန့်သန့်ရှင်းရှင်း သန့်ရှင်းရေးလုပ်ခဲ့ပါတယ်။ ပြီးတော့ နေ့လယ်ခင်းမှာ ဈေးကို သွားပြီး အသားနဲ့ ဟင်းသီးဟင်းရွက် မျိုးစုံ ဝယ်ခဲ့ပါတယ်။ အိမ်ကို ပြန်ပြီး အစားအသောက်တွေ ပြင်ဆင်ခဲ့ပါတယ်။ ညနေ ၆နာရီ ထိုးတော့ သူငယ်ချင်းတွေ အိမ်ကို ရောက်လာပါတယ်။ အိမ်တက် လက်ဆောင်အဖြစ် ဆပ်ပြာမှုန့်နဲ့ တစ်ရှူးလိပ်တွေ ရလို့ အရမ်း ပျော်ပါတယ်။ ကျွန်တော်တို့ ညစာကို အရသာရှိရှိ စားပြီးနောက် စကားစမြည်ပြောခဲ့ကြပါတယ်။ အရမ်း ပျော်စရာကောင်းခဲ့ပါတယ်။

4. 이 사람이 토요일 아침에 한 일을 고르십시오. ဒီလူ စနေနေ့ မနက်မှာ လုပ်ခဲ့တာကို ရွေးပါ။

   ① 상을 차렸습니다. ② 집을 청소했습니다.
   ③ 친구들을 만났습니다. ④ 친구들을 초대했습니다.

5. 이 사람은 집들이 선물로 무엇을 받았습니까? ဒီလူ အိမ်တက် လက်ဆောင်အဖြစ် ဘာကို လက်ခံရရှိခဲ့ပါသလဲ။

   ① 고기 ② 세제 ③ 과일 ④ 시계

정답 1. ② 2. ① 3. ② 4. ② 5. ②



## 확장 연습 ထပ်ဆောင်း လေ့ကျင့်ရန်

[1~2] 빈칸에 들어갈 가장 알맞은 것을 고르십시오.
ကွက်လပ်ဖြည့်ရန် အသင့်တော်ဆုံး အရာကို ရွေးပါ။

1. 일반 쓰레기와 음식물 쓰레기는 ___________ 버려야 합니다. 같은 봉투에 담아서 버리면 안 됩니다.
ရိုးရိုး အမှိုက်နဲ့ စားကြွင်းစားကျန် အမှိုက်ကို သပ်သပ်စီ ပစ်ရပါမယ်။ တစ်အိတ်ထဲ ထည့်ပစ်လို့ မရပါဘူး။

① 몰래　　② 이미　　③ 함께　　④ 따로

2. 꼭 알고 싶은 전화번호가 있으면 114로 전화하십시오. 상담원에게 그곳의 위치와 가게 이름을 이야기하면 전화번호를 친절하게 ___________.
မဖြစ်မနေ သိချင်တဲ့ ဖုန်းနံပါတ် ရှိရင် ၁၁၄ကို ဖုန်းဆက်ပါ။ ဝန်ထမ်းကို နေရာနဲ့ ဆိုင်နာမည် ပြောရင် ဖုန်းနံပါတ်ကို ဖော်ဖော်ရွေရွေ ပြောပြပါလိမ့်မယ်။

① 구해 줍니다　　② 구해야 합니다　　③ 알려 줍니다　　④ 알려야 합니다

[3~4] 다음을 읽고 질문에 답하십시오. အောက်ပါတို့ကို ဖတ်ပြီး မေးခွန်းများကို ဖြေပါ။

한국 사람들은 결혼을 하거나 이사한 후 새집으로 친구나 친척 등을 초대해 잔치를 하는데 이것을 '집들이'라고 합니다. 집들이 선물로는 세제나 두루마리 휴지가 좋습니다. 그 이유는 세제 거품처럼 좋은 일이 많이 생기고 두루마리 휴지처럼 일이 잘 풀리라는 의미가 있기 때문입니다. (　㉠　) 한국 사람들은 집들이에 초대를 받으면 세제나 휴지를 사 가지고 갑니다.
ကိုရီးယားလူမျိုးတွေက မင်္ဂလာဆောင်ပြီး ဒါမှမဟုတ် အိမ်ပြောင်းပြီးနောက်မှာ အိမ်သစ်ကို သူငယ်ချင်းတွေ၊ ဆွေမျိုးတွေကို ဖိတ်ပြီး ပွဲလုပ်လေ့ရှိပြီးတော့ ဒါကို အိမ်တက်လို့ ခေါ်ပါတယ်။ အိမ်တက် လက်ဆောင်အနေနဲ့ ဆပ်ပြာမှုန့် ဒါမှမဟုတ် တစ်ရှူးလိပ်က သင့်တော်ပါတယ်။ အကြောင်းရင်းကတော့ ဆပ်ပြာမြှုပ်တွေလို မင်္ဂလာရှိတဲ့ ကိစ္စတွေလည်း အများကြီး ပေါ်ပေါက်ပြီး တစ်ရှူးလိပ်လို ကိစ္စတွေ အဆင်ပြေချောမွေ့ပါစေဆိုတဲ့ အဓိပ္ပာယ်ရှိလို့ပဲ ဖြစ်ပါတယ်။ ( ㉠ ) ကိုရီးယားလူမျိုးတွေက အိမ်တက်ကို အဖိတ်ခံရရင် ဆပ်ပြာမှုန့် ဒါမှမဟုတ် တစ်ရှူးလိပ်ကို ဝယ်သွားလေ့ရှိကြပါတယ်။

3. ㉠에 들어갈 알맞은 것을 고르십시오. ㉠ မှာ ထည့်ရန် သင့်လျော်ရာကို ရွေးပါ။

① 그리고　　② 그러나　　③ 그래서　　④ 그러면

4. 이 글의 내용과 같은 것은 무엇입니까? ဒီ စာရဲ့ အကြောင်းအရာနဲ့ တူတဲ့ အရာက ဘယ်ဟာ ဖြစ်မလဲ။

① 결혼을 축하하는 의미로 세제를 선물합니다.
② 이사를 하면 친구를 초대해 집들이를 합니다.
③ 친구를 만날 때는 휴지나 세제를 사 가야 합니다.
④ 한국 사람들은 친구나 친척과 함께 잔치를 자주 합니다.

정답 1. ④　2. ③　3. ③　4. ②




# 무단 횡단을 하면 안 돼요

စည်းမဲ့ကမ်းမဲ့ လမ်းဖြတ်မကူးပါနဲ့။

**학습 안내**
သင်ရိုး အညွှန်း

- □ **သင်ခန်းစာ ရည်ရွယ်ချက်** တားမြစ်စည်းကမ်းများ လိုက်နာတတ်စေရန်၊ အကြောင်းရင်း ပြောတတ်စေရန်။
- □ **သဒ္ဒါ** -(으)면 안 되다, -(으)니까
- □ **ဝေါဟာရ** တားမြစ်စည်းကမ်းများ၊ ရှောင်ရန် ဆောင်ရန်များ
- □ **သတင်းအချက်အလက်နှင့် ယဉ်ကျေးမှု** အများသုံးနေရာ အသိပေး ဆိုင်းဘုတ်များ



## 대화 1 စကားပြော ၁

Track 70



ထူအန်းနဲ့ မိုနီခါတို့ လမ်းဖြတ်ကူးဖို့ လုပ်နေကြပါတယ်။ မကူးခင်မှာ ဘာတွေ ပြောနေကြပါသလဲ။ အရင်ဆုံး သူတို့ ပြောတာကို နှစ်ခေါက် နားထောင်ပြီး လိုက်ပြောကြည့်ရအောင်။

투 안 　차가 안 와요. 빨리 건너가요.
ကားမလာဘူး။ မြန်မြန် ကူးရအောင်။

모니카 　여기에서 길을 건너면 안 돼요.
ဒီကနေ လမ်းဖြတ်ကူးလို့ မရဘူးရှင့်။

투 안 　차도 없는데 뭐 어때요?
ကားမှ မရှိတာ ဘာဖြစ်လဲဗျာ။

모니카 　얼마 전에 제 친구도 무단 횡단을 하다가 다쳤어요.
သိပ်မကြာခင်က ကျွန်မ သူငယ်ချင်းလည်း စည်းမဲ့ကမ်းမဲ့ လမ်းဖြတ်ကူးရာကနေ ဒဏ်ရာရသွားသေးတယ်။

투 안 　정말요? 저는 무단 횡단 금지 표지판이 있어도 그냥 길을 건넜는데…….
ဟုတ်လား။ ကျွန်တော်ကတော့ လမ်းမကူးရ ဆိုင်းဘုတ် ရှိတာတောင် ဒီအတိုင်း ဖြတ်ဖြတ်ကူးနေခဲ့တာ...

모니카 　투안 씨도 앞으로 조심하세요. 저기 횡단보도가 있어요. 빨리 가요.
ထူအန်းလည်း နောက် သတိထားပေါ့။ ဟိုမှာ လူကူးမျဉ်းကြား ရှိတာပဲ။ မြန်မြန် သွားရအောင်။

**-다가**
ရှေ့က လုပ်တဲ့ အပြုအမူက နောက်မှာ ဆက်ဖြစ်တဲ့ အဆိုးရလဒ်ရဲ့ အကြောင်း အရင်း ဖြစ်ကြောင်း ဖော်ပြသည်။

- 늦잠을 자다가 회사에 늦었어요.
  နောက်ကျမှ ထရာကနေ ရုံးနောက်ကျ သွားတယ်။
- 과속을 하다가 사고가 났어요.
  အမြန်မောင်းရာကနေ ကားတိုက်မှု ဖြစ်သွားတယ်။

**-아도/어도**
ရှေ့မှ အခြေအနေ၊ အဖြစ်အပျက်ပေါ် မမူတည်ဘဲ နောက်က ဖြစ်ရပ်က သေချာပေါက် ပေါ်ပေါက်ခြင်းကို ဖော်ညွှန်းသည်။

- 열심히 공부해도 성적이 안 올라요.
  စာကြိုးစားတာတောင် အမှတ်က တက်မလာဘူး။
- 밥을 먹어도 배가 고프네요.
  ထမင်းစားပြီးတာတောင် ဗိုက်ကဆာတုန်းပဲ။

သေချာ နားထောင်ပြီး လိုက်ဆိုခဲ့ရဲ့လား။ ဒါဆိုရင် အောက်က မေးခွန်းတွေ ဖြေကြည့်ရအောင်။

1. 모니카 씨의 친구는 왜 다쳤어요? မိုနီခါရဲ့ သူငယ်ချင်းက ဘာကြောင့် ဒဏ်ရာရသွားခဲ့တာလဲ။
2. 두 사람은 어디에서 길을 건널 거예요? သူတို့ နှစ်ယောက်က ဘယ်ကနေ လမ်းဖြတ်ကူးကြမှာလဲ။

정답 1. 무단횡단을 하다가 다쳤어요. 2. 횡단보도에서 길을 건널 거예요.




## 어휘 1 ဝေါဟာရ ၁ 금지 တားမြစ်ချက်များ



အောက်ပါ ဆိုင်းဘုတ်တွေက ဘာကို ညွှန်ပြနေပါသလဲ။ ဘာတွေကိုတော့ လုပ်သင့်ပြီး ဘာတွေ မလုပ်သင့်ဘူးလဲဆိုတာ လေ့လာကြည့်ရအောင်။


금연
ဆေးလိပ် မသောက်ရ


음식물 반입 금지
အစားအသောက်များ သယ်ဆောင်လာခြင်း မပြုရ


휴대전화 사용 금지
ဖုန်း မသုံးရ


사진 촬영 금지
ဓာတ်ပုံ မရိုက်ရ


실내 정숙
ဆူညံခြင်း မပြုရ


출입 금지
ဝင်ထွက်ခြင်း မပြုရ


접근 금지
ချဉ်းကပ်ခြင်း မပြုရ



무단 횡단 금지
စည်းကမ်းမဲ့ လမ်းဖြတ်ကူးခြင်း မပြုရ


주차 금지
ကားမရပ်ရ

과속금지


과속 금지
အရှိန်လွန် မမောင်းရ

- 이곳에 **들어가면 안 돼요.**
  ဒီနေရာကို ဝင်ထွက်ခြင်း မပြုရပါ။
- **손대면 안 돼요.** ထိတွေ့ကိုင်တွယ်ခြင်း မပြုရပါ။
- 횡단보도가 아닌 곳에서 **길을 건너면 안 돼요.**
  လူကူးမျဉ်းကြား မရှိသော နေရာကနေ လမ်းဖြတ်ကူးခြင်း မပြုရပါ။
- 이곳에 **차를 세우면 안 돼요.**
  ဒီနေရာမှာ ကားရပ်ခြင်း မပြုရပါ။



အပေါ်က ဝေါဟာရတွေကို မကြည့်ဘဲ မေးခွန်းလေးတွေ ဖြေကြည့်ရအောင်။

1. 그림을 보고 알맞은 표현을 연결하세요.
   ပုံကို ကြည့်ပြီး သင့်လျော်ရာ အသုံးအနှုန်းနဲ့ မျဉ်းကြောင်းဆွဲ ဆက်သွယ်ပါ။


①  ②  ③  ④  ④ 

㉠ 음식물 반입 금지 ㉡ 주차 금지 ㉢ 금연 ㉣ 접근 금지 ㉤ 실내 정숙

정답 ①㉢ ②㉣ ③㉡ ④㉤ ⑤㉠

## 문법 1 သဒ္ဒါ ၁ -(으)면 안 되다

G22-1

ကြိယာနဲ့ တွဲဖက်ပြီး အပြုအမူ တစ်ခုကို ငြင်းပယ်တားမြစ်တဲ့အခါမှာ သုံးပါတယ်။

| 자음 (ဗျည်း) → -**으면 안 되다** | 모음 (သရ), 자음 (ဗျည်း) 'ㄹ' → **면 안 되다** |
|---|---|
| 찍다 → 찍**으면 안 되다** | 하다 → 하**면 안 되다**<br>열다 → 열**면 안 되다** |

· 가: 이곳은 주차 금지예요. 여기에 **주차하면 안 돼요**.
  ဒီနေရာက ကားမရပ်နယ်မြေပါ။ ဒီမှာ ကားရပ်လို့ မရပါဘူး။
  나: 몰랐어요. 죄송합니다. မသိလိုက်လို့ပါခင်ဗျ။ တောင်းပန်ပါတယ်။
· 가: 여기에서 사진을 찍어도 돼요? ဒီမှာ ဓာတ်ပုံရိုက်လို့ ရပါသလားခင်ဗျ။
  나: 아니요, 박물관 안에서는 사진을 **찍으면 안 돼요**. မရပါဘူး၊ ပြတိုက်ထဲမှာ ဓာတ်ပုံရိုက်လို့ မရပါဘူး။



'-(으)면 안 되다' ရဲ့ အသုံးကို နားလည်ပြီလား။ ဒါဆိုရင် ဥပမာထဲကနေ သင့်တော်မယ့် စကားလုံးကို ရွေးပြီး ဝါကျကို အဆုံးသတ်ကြည့်ပါ။

2. 빈칸에 맞는 표현을 〈보기〉에서 골라 '-(으)면 안 되다'를 사용해서 문장을 완성하세요.
ကွက်လပ်ဖြည့်ဖို့ သင့်တော်တဲ့ အသုံးအနှုန်းကို ဥပမာထဲကနေ ရွေးပြီး '-(으)면 안 되다' ကို အသုံးပြုကာ ဝါကျကို အဆုံးသတ်ပါ။

1) 안에(안으로) ______________________.

2) 공연장 안에서 ______________________.

3) 극장 안에서 ______________________.

보기
들어가다 사진을 찍다 통화를 하다

정답 1) 들어가면 안 돼요 2) 사진을 찍으면 안 돼요 3) 통화를 하면 안 돼요



ထပ်ပြီး လေ့လာရအောင်။ ပုံကို ကြည့်ရင်း '-(으)면 안 되다' ကို သုံးပြီး ဝါကျကို အဆုံးသတ်ကြည့်ပါ။

1.  여기에서 ______________.

2.  이곳에 ______________.

정답 1. 담배를 피우면 안 돼요 2. 차를 세우면 안 돼요



## 대화 2 စကားပြော ၂

Track 71



အောက်မှာ ဂျိဟွန်းနဲ့ ရီဟာန်တို့ ဘတ်စ်ကားမှတ်တိုင်မှာ စကားပြောနေတာလေး ရှိပါတယ်။ ဂျိဟွန်းက ဆေးလိပ်သောက်ဖို့ ပြင်နေတဲ့ ရီဟာန်ကို ဘာတွေ ပြောနေပါလဲ။ အရင်ဆုံး သူတို့ ပြောနေတာကို နှစ်ခေါက် နားထောင်ကြည့်ပါ။ ပြီးရင်တော့ ရီဟာန်နဲ့ ဂျိဟွန်း ပြောသလို လိုက်ပြောကြည့်ပါ။

지훈 리한 씨, 버스 정류장에서 담배를 피우면 안 돼요.
ရီဟာန်ရေ၊ ဘတ်စ်ကားမှတ်တိုင်မှာ ဆေးလိပ် သောက်လို့ မရဘူး။

리한 밖에서도 담배를 피울 수 없어요?
အပြင်မှာတောင် ဆေးလိပ်သောက်လို့ မရဘူးလား

지훈 네, 버스 정류장은 금연 구역이니까 담배를 피우면 벌금을 내야 돼요.
ဟုတ်တယ်၊ ဘတ်စ်ကားမှတ်တိုင်က ဆေးလိပ်မသောက်ရနယ်မြေမို့ ဆေးလိပ်သောက်ရင် ဒဏ်ငွေ ဆောင်ရလိမ့်မယ်။

리한 아, 그래요? 몰랐어요.
ဪ ဟုတ်လား။ မသိလို့ပါ။

지훈 리한 씨, 저 때문에 5만원을 벌었으니까 밥 사세요.
ရီဟာန်ရေ၊ ကျွန်တော့်ကြောင့် ဝမ်၅သောင်း မကုန်တော့ဘူးဆိုတော့ ထမင်း ဝယ်ကျွေးတော့ဗျာ။

리한 에이, 왜 그래요? 하하하.
ဟာဗျာ၊ ဘယ်လို ဖြစ်ရတာတုန်း။ ဟားဟားဟား။

**-아야/어야 되다**
မဖြစ်မနေလုပ်ရမည့် အရာ
- 내일은 일찍 회사에 가야 돼요.
  မနက်ဖြန် ရုံးကို အစောကြီး သွားရမယ်။
- 극장 안에서는 휴대전화를 꺼야 돼요.
  ပြဇာတ်ရုံ အတွင်းမှာ ဖုန်းပိတ်ထားရပါမယ်။

**때문에 ကြောင့်/လို့**
ရှေ့က အဖြစ်အပျက်က နောက်မှာ ဆက်ဖြစ်တာရဲ့ အကြောင်းရင်း ဖြစ်ပါတယ်။
- 눈 때문에 길이 너무 미끄러워요.
  နှင်းတွေကြောင့် လမ်း အရမ်း ချော်နေတယ်။
- 감기 때문에 회사에 결근했어요.
  အအေးမိလို့ ရုံးပျက်သွားတယ်။



သေချာ နားထောင်ပြီး လိုက်ဆိုခဲ့ရဲ့လား။ ဒါဆိုရင် အောက်က မေးခွန်းတွေ ဖြေကြည့်ရအောင်။

1. 버스 정류장에서 담배를 피워도 돼요?
   ဘတ်စ်ကား မှတ်တိုင်မှာ ဆေးလိပ်သောက်လို့ ရပါသလား။
2. 금연 구역에서 담배를 피우면 어떻게 해야 할까요?
   ဆေးလိပ်မသောက်ရနယ်မြေမှာ ဆေးလိပ်သောက်ရင် ဘယ်လို လုပ်ရပါသလဲ။

정답 1. 아니요, 담배를 피우면 안 돼요. 2. 벌금을 내야 돼요.



## 어휘 2 ဝေါဟာရ ၂ — 하면 안 되는 행동 မလုပ်သင့်သော အပြုအမူများ

အများပြည်သူနဲ့ သက်ဆိုင်တဲ့ နေရာတွေမှာ မလုပ်သင့်တဲ့ အပြုအမူတွေအဖြစ် ဘာတွေ ရှိမယ်လို့ ထင်ပါသလဲ။



담배를 피우다
ဆေးလိပ် သောက်သည်



담배꽁초를 버리다
ဆေးလိပ်တို ပစ်သည်



쓰레기를 버리다
အမှိုက်ပစ်သည်



침을 뱉다
တံတွေးထွေးသည်



뛰어다니다
ပြေးသွားပြေးလာလုပ်သည်



떠들다
ဆူညံစွာ စကားပြောသည်



새치기를 하다
လိုင်းဖြတ်စီသည်
ကြားဖြတ်တိုးသည်



자리를 차지하다
နေရာ (အကုန်) ယူ/ဦးသည်



다리를 벌려서 앉다
ခြေထောက်ကားပြီး ထိုင်သည်



손대다
ကိုင်ကြည့်သည်



အပေါ်မှာ လေ့လာခဲ့တဲ့ ဝေါဟာရတွေကို ပြန်စဉ်းစားရင်း မေးခွန်းတွေ ဖြေကြည့်ကြရအောင်။

1. 그림에 맞는 표현을 〈보기〉에서 골라 넣으세요. ပုံနဲ့ ကိုက်ညီမယ့် အသုံးအနှုန်းကို ဥပမာထဲကနေ ရွေးပြီး ထည့်ပါ။




보기 — 담배를 피우다 / 새치기를 하다 / 쓰레기를 버리다 / 침을 뱉다

정답 1) 새치기를 하다 2) 담배를 피우다 3) 쓰레기를 버리다 4) 침을 뱉다

## 문법 2 သဒ္ဒါ ၂ -(으)니까




ကြိယာ၊ နာမဝိသေသနတို့နဲ့ တွဲဖက်ပြီး ကိစ္စတစ်ခုခုကို စေခိုင်းရခြင်း အကြောင်းအရင်းကို ဖော်ပြချင် တဲ့အခါ သုံးပါတယ်။ '-(으)세요', '-(으)ㄹ까요?', '-(으)ㄹ래요?', '-(으)ㅂ시다' တို့နဲ့ တွဲပြီး သုံးလေ့ ရှိပါတယ်။

- 지금은 차가 **막히니까** 지하철을 타고 가세요. အခု ကားပိတ်နေတယ်ဆိုတော့ မြေအောက်ရထား စီးသွားပါ။
- 날씨가 **좋으니까** 밖으로 나갈까요? ရာသီဥတုကောင်းတယ်ဆိုတော့ အပြင်သွားကြမလား။
- 내일은 **주말이니까** 같이 영화를 봅시다. မနက်ဖြန် နားရက်ဆိုတော့ အတူတူ ရုပ်ရှင် ကြည့်ရအောင်။



### 비교해 보세요 နှိုင်းယှဉ်ကြည့်ပါ။

**✓ '-(으)니까' နှင့် '-아서/어서'**

'-(으)니까' နဲ့ '-아서/어서' နှစ်ခုစလုံးကို အကြောင်းအရင်းကို ဖော်ပြတဲ့အခါမှာ သုံးနိုင်ပါတယ်။ '-(으)니까' ရဲ့ နောက်မှာတော့ တောင်းဆိုချက်၊ စေခိုင်းချက် ဝါကျတွေကို သုံးလို့ မရပေမယ့် '-아서/어서' ရဲ့ နောက်မှာတော့ ဘယ်လို ဝါကျမျိုးမဆို သုံးနိုင်ပါတယ်။ ပြီးတော့ '-(으)니까' နဲ့ '-았/었-' ကို တွဲသုံးလို့ရပေမယ့် '-아서/어서' ကိုတော့ '-았/었-' ကိုတော့ တွဲသုံးလို့ မရပါဘူး။

- **더우니까** 창문을 여세요.(O) 더워서 창문을 여세요.(X)
- 배가 아팠어서 병원에 갔어요.(X)



'-(으)니까' ရဲ့ အသုံးကို နားလည်ပြီလား။ ဒါဆိုရင် အောက်မှာ ပေးထားတာတွေကို သင့်တော်ရာချင်း ဆက်သွယ်ပြီး ဝါကျကို အဆုံးသတ်ကြည့်ပါ။

2. 다음을 알맞게 연결해서 문장을 완성하세요.
   သင့်တော်ရာချင်း ဆက်သွယ်ပြီး ဝါကျကို အဆုံးသတ်ပါ။

| | |
|---|---|
| ① 이곳은 사진 촬영 금지니까 • | • ㉠ 건물 밖에서 담배를 피우세요. |
| ② 건물 안에서는 금연이니까 • | • ㉡ 전화를 하면 안 돼요. |
| ③ 극장 안에서는 휴대전화 사용 금지니까 • | • ㉢ 사진을 찍으면 안 돼요. |




### 유용한 표현 အသုံးဝင်သော အသုံးအနှုန်းများ

**그동안 잘 지내셨어요? ဒီအတောအတွင်း နေထိုင်ကောင်းရဲ့လား။**

가: 투안 씨 오랜만이네요. 고향에 잘 다녀왔어요?
ထူအန်း မတွေ့ရတာ ကြာပြီနော်။ ဇာတိကိုရော ကောင်းကောင်း သွားလည်ပြီး ပြန်ခဲ့ရဲ့လား။

나: 네, 과장님. **그동안 잘 지내셨어요?** ဟုတ်ကဲ့၊ ဌာနမှူး။ **ဒီအတောအတွင်း နေထိုင်ကောင်းရဲ့လား။**

# 활동 အသုံးချသင်ခန်းစာများ

1. 〈보기〉처럼 이야기해 보세요. ဥပမာမှာ ပြထားသလို သူငယ်ချင်းနဲ့ စကားပြောကြည့်ပါ။

보기



도서관 စာကြည့်တိုက်

떠들다
ဆူညံစွာ စကားပြောသည်

가: 도서관에서 떠들면 안 돼요.
စာကြည့်တိုက်မှာ ဆူညံစွာ စကား မပြောရပါဘူး။

나: 죄송합니다.
တောင်းပန်ပါတယ်။

1)



병원 ဆေးရုံ

큰 소리로 전화하다
အသံကျယ်လောင်စွာ ဖုန်းပြောသည်



2)



미술관 ပန်းချီပြခန်း

그림에 손대다
ပန်းချီကားကို လျှောက်ကိုင်သည်



3)



공연장 ရှိုးပွဲ

사진을 찍다
ဓာတ်ပုံရိုက်သည်



4)



식당 စားသောက်ဆိုင်

담배를 피우다
ဆေးလိပ်သောက်သည်



정답 1) 가: 병원에서 큰 소리로 전화하면 안 돼요.
나: 죄송합니다.
2) 가: 미술관에서 그림에 손대면 안 돼요.
나: 죄송합니다.
3) 가: 공연장에서 사진을 찍으면 안 돼요.
나: 죄송합니다.
4) 가: 식당에서 담배를 피우면 안 돼요.
나: 죄송합니다.

✚ 빈칸에 알맞은 말을 쓰세요. ကွက်လပ်တွင် သင့်တော်သော စကားလုံးကို ဖြည့်ပါ။

1. 도서관에서 ☐☐☐ 안 돼요. စာကြည့်တိုက်မှာ ဆူညံစွာ စကားပြောလို့ မရပါဘူး။

2. ☐☐☐에서 그림에 손대면 안 돼요. ပန်းချီပြခန်းမှာ ပန်းချီကားကို လျှောက်ကိုင်လို့ မရပါဘူး။

3. 식당에서 ☐☐를 피우면 안 돼요. စားသောက်ဆိုင်မှာ ဆေးလိပ်သောက်လို့ မရပါဘူး။

정답 1. 떠들면 2. 미술관 3. 담배



## 정보 သတင်းအချက်အလက်

### 공공장소 표지판 အများသုံးနေရာ ဆိုင်းဘုတ်များ



화장실
အိမ်သာ



공중전화
အများသုံးဖုန်း



주차장
ကားပါကင်



비상구
အရေးပေါ်ထွက်ပေါက်



지하철역
မြေအောက်ရထား ဘူတာရုံ



기차역
ရထား ဘူတာရုံ



택시 정류장
တက္ကစီဂိတ်



버스 정류장
ဘတ်စ်ကား မှတ်တိုင်



엘리베이터
ဓာတ်လှေကား



에스컬레이터
စက်လှေကား




자동차 전용
ကား သီးသန့်



자전거 전용
စက်ဘီး သီးသန့်

**노약자석** ဦးစားပေးထိုင်ခုံ



한국의 지하철과 버스에서는 위와 같은 표지판을 볼 수 있습니다. 이런 표지판이 있는 좌석은 노약자, 장애인, 임산부, 어린 아이를 데리고 있는 사람들을 위한 자리이기 때문에 비워두는 것이 좋습니다. 만약 사람이 없어서 잠깐 앉더라도 이런 사람들을 보면 자리를 양보해야 됩니다.

ကိုရီးယားရဲ့ မြေအောက်ရထားနဲ့ ဘတ်စ်ကားမှာတော့ အပေါ်မှာ ပြထားသလို ဆိုင်းဘုတ်လေးတွေ တွေ့ရပါလိမ့်မယ်။ ဒီလို ဆိုင်းဘုတ်တွေ ရှိတဲ့ ထိုင်ခုံကတော့ သက်ကြီးရွယ်အိုတွေ၊ မသန်စွမ်းတွေ၊ ကိုယ်ဝန်ဆောင်သည်တွေ၊ ကလေး ငယ်ငယ်လေးတွေနဲ့ ခရီးသွားတဲ့ လူတွေအတွက် နေရာ ဖြစ်တဲ့အတွက် ဖယ်ချန်ထားပေးတာ ကောင်းပါတယ်။ အကယ်၍ လူမရှိတုန်း ခဏ ထိုင်မယ်ဆိုရင်တောင်မှ ဒီလို လူတွေကို တွေ့ရင် နေရာကို ဦးစားပေးရပါတယ်။

### 내용 확인 အကြောင်းအရာ ဆန်းစစ်ချက်

✚ 빈칸에 알맞은 말을 쓰세요. ကွက်လပ်တွင် သင့်တော်သော စကားလုံးကို ဖြည့်ပါ။

1. '자전거 ☐☐' 은 자전거만 다닐 수 있는 길입니다.
   'စက်ဘီး သီးသန့်'ကတော့ စက်ဘီးပဲ သွားလို့ရတဲ့ လမ်းဖြစ်ပါတယ်။
2. ☐☐☐ 는 긴급한 일이 있을 때 사용하는 출입구입니다.
   အရေးပေါ်ထွက်ပေါက်ကတော့ အရေးကြီးတဲ့ ကိစ္စရှိတဲ့ အခါမှာပဲ အသုံးပြုတဲ့ ဝင်ထွက်ပေါက် ဖြစ်ပါတယ်။
3. ☐☐☐☐ 은 지하철과 버스 안에서 노약자나 장애인 등을 위한 자리입니다.
   ဦးစားပေးထိုင်ခုံကတော့ မြေအောက်ရထားနဲ့ ဘတ်စ်ကားထဲမှာ သက်ကြီးရွယ်အိုတွေနဲ့ မသန်စွမ်းတွေအတွက် နေရာဖြစ်ပါတယ်။

정답 1. 전용 2. 비상구 3. 노약자석



မေးခွန်း နံပါတ် ၁ကနေ ၃အထိကတော့ ပုံကို ကြည့်ပြီး ပုံထဲက လူ ဘာတွေ လုပ်နေလဲဆိုတာ ရွေးပေးရမှာပါ။ အရင် လေ့လာခဲ့တာတွေကို ပြန်စဉ်းစားပြီး မေးခွန်းတွေကို ဖြေကြည့်ရအောင်။

[1~3] 다음 그림을 보고 알맞은 대답을 고르십시오.
ပုံကို ကြည့်ပြီး သင့်တော်မယ့် အဖြေကို ရွေးပါ။

Track 72

1. 

이 사람은 무엇을 하고 있습니까? သူ ဘာလုပ်နေတာပါလဲ။

① ② ③ ④

2. 

이 사람은 무엇을 하고 있습니까? သူ ဘာလုပ်နေတာပါလဲ။

① ② ③ ④

3. 

이 사람은 무엇을 하고 있습니까? သူ ဘာလုပ်နေတာပါလဲ။

① ② ③ ④



အောက်က ပုစ္ဆာတွေအတွက် ပြောတာကို နားထောင်ပြီး အဖြေမှန်ကို ရွေးပေးရမှာပါ။ ဒါ ဘယ်နေရာလဲ၊ ဘာတွေ မလုပ်ရဖူးလဲဆိုတာကို သေချာ နားထောင်ကြည့်ပါ။

[4~5] 하나의 이야기를 듣고 두 개의 질문에 대답하십시오.
စကားပြော တစ်ခုကို နားထောင်ပြီး မေးခွန်း နှစ်ခုကို ဖြေဆိုပါ။

4. 여기는 어디입니까? ဒါ ဘယ်နေရာပါလဲ။

① 공연장 ② 도서관
③ 미술관 ④ 지하철

5. 들은 내용과 다른 것을 고르십시오. ကြားတဲ့ အကြောင်းအရာနဲ့ မတူတဲ့ အရာကို ရွေးပါ။

① 물을 마시면 안 됩니다. ② 사진을 찍을 수 없습니다.
③ 전화를 하면 안 됩니다. ④ 음식을 먹을 수 없습니다.

## 듣기 대본 စာသား

1. ① 남: 술을 마시고 있습니다. အရက်သောက်နေပါတယ်။
   ② 남: 담배를 피우고 있습니다. ဆေးလိပ်သောက်နေပါတယ်။
   ③ 남: 주차를 하고 있습니다. ကားပါကင်ထိုးနေပါတယ်။
   ④ 남: 횡단보도를 건너고 있습니다. လူကူးမျဉ်းကျားကို ဖြတ်ကူးနေပါတယ်။
2. ① 여: 전화를 하고 있습니다. ဖုန်းပြောနေပါတယ်။
   ② 여: 사진을 찍고 있습니다. ဓာတ်ပုံရိုက်နေပါတယ်။
   ③ 여: 큰 소리로 떠들고 있습니다. အသံကျယ်ကြီးနဲ့ စကားပြောနေပါတယ်။
   ④ 여: 쓰레기를 버리고 있습니다. အမှိုက်ပစ်နေပါတယ်။
3. ① 남: 침을 뱉고 있습니다. တံတွေးထွေးနေပါတယ်။
   ② 남: 지하철을 타고 있습니다. မြေအောက်ရထားစီးနေပါတယ်။
   ③ 남: 새치기를 하고 있습니다. လိုင်းဖြတ်ပြီး တန်းစီနေပါတယ်။
   ④ 남: 큰 소리로 떠들고 있습니다. အသံကျယ်ကြီးနဲ့ စကားပြောနေပါတယ်။

4-5. 여: 저희 고려극장을 찾아 주신 여러분께 감사드립니다. 편안한 관람을 위해 몇 가지 안내 말씀을 드리겠습니다. 먼저, 극장 안에서는 물은 마실 수 있지만 음식물은 가지고 들어오면 안 됩니다. 그리고 공연 중에는 사진 촬영 금지니까 사진을 찍으면 안 됩니다. 마지막으로 휴대전화는 다른 사람들에게 방해가 될 수 있으니까 전화를 하지 마십시오. 그럼 즐거운 관람 되시길 바랍니다. 감사합니다.

ကျွန်မတို့ ဂိုလျောပြဇာတ်ရုံကို ကြွရောက်လာကြတဲ့ လူကြီးမင်းများကို ကျေးဇူးအထူးတင်ရှိပါတယ်။ သက်တောင့်သက်သာကြည့်ရှုနိုင်စေဖို့အတွက် လမ်းညွှန်ချက် အနည်းငယ် ပြောကြားပေးပါရစေရှင်။ ဦးစွာ ပြဇာတ်ရုံအတွင်းမှာ ရေသောက်ခွင့်ရှိပေမယ့် ပြင်ပမှ အစားအစာများ အထဲကို ယူဆောင်လာလို့ မရပါဘူးရှင်။ နောက်ပြီး ပြဇာတ်ကနေတဲ့ အချိန်အတွင်း ဓာတ်ပုံရိုက်ခွင့် မရှိတဲ့အတွက် ဓာတ်ပုံရိုက်လို့ မရပါဘူးရှင်။ နောက်ဆုံးအနေနဲ့ လက်ကိုင်ဖုန်း အသုံးပြုခြင်းဟာလည်း အခြားသူတွေကို အနှောင့်အယှက်ဖြစ်စေနိုင်တဲ့အတွက် ဖုန်းပြောလို့ မရပါဘူးရှင်။ ဒါဆိုရင် ပျော်ရွှင်ဖွယ် အတွေ့အကြုံလေးဖြစ်ပါစေလို့ ဆန္ဒပြုလိုက်ပါတယ်ရှင့်။

정답 1.② 2.④ 3.③ 4.① 5.①



## 확장 연습 ထပ်ဆောင်း လေ့ကျင့်ရန် L-22

1. 다음을 듣고 이어지는 말로 알맞은 것을 고르십시오.
နားထောင်ပြီး ဆက်ပြောမယ့် စကားအဖြစ် သင့်တော်ရာကို ရွေးပါ။

① 죄송합니다. 그런 줄 몰랐습니다.
② 네, 작업장 안에서 통화하지 않겠습니다.
③ 지금부터 조용히 하겠습니다. 죄송합니다.
④ 그래요? 여기에서 담배를 피워도 돼요.

## 확장 연습 듣기 대본 ထပ်ဆောင်း လေ့ကျင့်ရန် စာသား

1. 남: 작업장 안에서는 담배를 피우면 안 돼요. အလုပ်ခွင် အတွင်းမှာ ဆေးလိပ်သောက်လို့ မရပါဘူး။

정답 1. ①



မေးခွန်း နံပါတ် ၁ကနေ ၃အထိကတော့ တားမြစ်ဆိုင်းဘုတ်တွေကို ကြည့်ပြီး ဘာကို ဆိုလိုတာလဲဆိုတာကို မှန်းကြည့်ရမှာပါ။ အရင် လေ့လာခဲ့တာတွေကို ပြန်စဉ်းစားပြီး မေးခွန်းတွေကို ဖြေကြည့်ရအောင်။

[1~3] 다음 그림을 보고 알맞은 문장을 고르십시오.
အောက်ပါ ပုံကို ကြည့်ပြီး မှန်ကန်တဲ့ ဝါကျကို ရွေးပါ။

1. 

① 담배를 팔면 안 됩니다.
② 담배를 사면 안 됩니다.
③ 담배를 피우면 안 됩니다.
④ 담배를 버리면 안 됩니다.

2. 

① 만지면 안 됩니다.
② 떠들면 안 됩니다.
③ 주차하면 안 됩니다.
④ 뛰어다니면 안 됩니다.

3. 

① 휴대전화를 빌릴 수 있습니다.
② 휴대전화를 고칠 수 있습니다.
③ 휴대전화를 사용할 수 없습니다.
④ 휴대전화를 충전할 수 없습니다.



အောက်က ပုစ္ဆာတွေအတွက် ကွက်လပ်ဖြည့်ဖို့ မှန်ကန်တဲ့ အသုံးအနှုန်းတွေကို ရွေးပေးရမှာပါ။ အရင် လေ့လာခဲ့တာတွေကို ပြန်စဉ်းစားပြီး အဖြေမှန်ကို ရွေးကြည့်ရအောင်။

[4~5] 빈칸에 들어갈 가장 알맞은 것을 고르십시오.
ကွက်လပ်ဖြည့်ရန် အသင့်တော်ဆုံး အရာကို ရွေးပါ။

4. 도로나 공원에 ____________ 을/를 버리면 안 됩니다. 공공장소를 깨끗이 사용해야 합니다.
လမ်းပေါ်မှာနဲ့ ပန်းခြံထဲမှာ အမှိုက်ပစ်လို့ မရပါဘူး။ အများသုံးနေရာကို သန့်သန့်ရှင်းရှင်း အသုံးပြုရပါမယ်။

① 지갑 ② 사진 ③ 자동차 ④ 쓰레기

5. 길에서는 위험하니까 ____________ 을/를 하면 안 됩니다. 길을 건널 때 갑자기 차가 와서 사고가 날 수 있습니다.
လမ်းပေါ်မှာ အန္တရာယ်များတဲ့အတွက် စည်းမဲ့ကမ်းမဲ့ လမ်းဖြတ်ကူးလို့ မရပါဘူး။ လမ်းဖြတ်ကူးတဲ့အခါ ရုတ်တရက် ကားရောက်လာပြီး မတော်တဆ ဖြစ်နိုင်ပါတယ်။

① 주차 ② 과속 ③ 새치기 ④ 무단 횡단

정답 1. ③ 2. ③ 3. ③ 4. ④ 5. ④



## 확장 연습 ထပ်ဆောင်း လေ့ကျင့်ရန်

[1~2] 다음 그림을 보고 알맞은 문장을 고르십시오.
အောက်ပါ ပုံကို ကြည့်ပြီး သင့်တော်သော ဝါကျကို ရွေးပါ။

1. 


① 만지면 안 됩니다. ② 들어가면 안 됩니다.
③ 가까이 가면 안 됩니다. ④ 길을 건너면 안 됩니다.

2. 

① 뛰면 안 됩니다. ② 만지면 안 됩니다.
③ 말하면 안 됩니다. ④ 들어오면 안 됩니다.

3. 빈칸에 들어갈 가장 알맞은 것을 고르십시오. ကွက်လပ်ဖြည့်ရန် အသင့်တော်ဆုံး အရာကို ရွေးပါ။

> 지하철이나 극장, 은행, 우체국 등에서는 조용히 해야 합니다. 공공장소에서는 ________ 안 됩니다.
> မြေအောက်ရထားနဲ့ ပြဇာတ်ရုံ၊ ဘဏ်၊ စာတိုက် စတဲ့ နေရာတွေမှာ တိတ်တိတ်နေရပါမယ်။ အများသုံးနေရာတွေမှာ ဆူဆူညံညံ စကားပြောလို့ မရပါဘူး။

① 떠들면 ② 떠들면서
③ 물어보면 ④ 물어보면서

정답 1. ④ 2. ① 3. ①



## 발음 အသံထွက်  P-09

### သေချာ နားထောင်ပြီး လိုက်ဆိုပါ။

ကိုရီးယားဘာသာစကားမှာ အသတ်သံက အကန့်အသတ်ရှိပါတယ်။ စုစုပေါင်း အသတ်သံ (၇) ခုပဲ ရှိပါတယ်။ သံပြတ်အသံဖြစ်တဲ့ 'ㄱ[k], ㄲ[k'], ㅋ[kʰ]' ကတော့ ဥပမာ '윽' လိုမျိုး လေကို မဖောက်ထုတ်ဘဲ [ㄱ] သံနဲ့ ထွက်ပေးရပါတယ်။

(1) 책, 국, 막, 가족, 학교
(2) 밖, 창밖, 낚시, 부엌
(3) 책 주세요. / 국 더 주세요.



# 어른께는 두 손으로 물건을 드려야 해요

လူကြီးကိုဆိုရင် လက်နှစ်ဖက်နဲ့ ပစ္စည်း ပေးရပါတယ်။

**학습 안내**
သင်ရိုး အညွှန်း

- ☐ **သင်ခန်းစာ ရည်ရွယ်ချက်** ယဉ်ကျေးစွာပြောတတ်၊ အကြံဉာဏ်ပေးတတ်ရန်
- ☐ **သဒ္ဒါ** -(으)시-, -아야/어야 되다/하다
- ☐ **ဝေါဟာရ** ယဉ်ကျေးသော စကားလုံးများ၊ အမူအကျင့်များ
- ☐ **သတင်းအချက်အလက်နှင့် ယဉ်ကျေးမှု** ကိုရီးယားလူမျိုးတွေအတွက် အသက်အရွယ်အပိုင်းအခြားက ဘယ်လောက်ထိ အရေးပါသလဲ။



## 대화 1 စကားပြော ၁

Track 73



ရီဟာန်က ကိုရီးယားသူငယ်ချင်းဆီ အိမ်လည်ဖိတ်ခံရပါတယ်။ အဲ့ဒါကြောင့် ဂျီဟွန်းကို သိချင်တာလေးတွေ မေးနေပါတယ်။ အရင်ဆုံး သူတို့ ပြောတာကို နှစ်ခေါက် နားထောင်ပြီး လိုက်ပြောကြည့်ရအောင်။

**리한** 지훈 씨, 제가 한국 친구 집에 초대를 받았는데 어른이 계시는 집에 처음 가는 거라서 좀 걱정돼요. 그래서 몇 가지 물어보고 싶은 게 있어요.
ဂျီဟွန်းရေ၊ ကျွန်တော် ကိုရီးယား သူငယ်ချင်းအိမ်ကို အဖိတ်ခံရတာ လူကြီးတွေ ရှိတဲ့ အိမ်ကို ပထမဆုံးအကြိမ် သွားတာမို့လို့ နည်းနည်း စိတ်ပူမိတယ်။ ဒါကြောင့် မေးချင်တာလေးတွေ နည်းနည်း ရှိလို့ပါ။

**지훈** 어떤 게 알고 싶어요?
ဘာ သိချင်တာရှိလဲ။

**리한** 어른들께 어떤 선물을 드리면 좋을까요?
လူကြီးတွေကို ဘယ်လို လက်ဆောင်မျိုး ပေးရင် ကောင်းမလဲ။

**지훈** 보통 과일이나 음료수를 많이 선물해요. 그런데 어른들이 좋아하시는 것을 물어보고 사 가세요. 그리고 선물을 드릴 때는 두 손으로 드리세요.
များသောအားဖြင့်တော့ သစ်သီးတို့ အချိုရည်တို့ လက်ဆောင်ပေးတာ များတယ်။ ဒါပေမယ့် လူကြီးတွေ ဘာကြိုက်လဲ မေးကြည့်ပြီး ဝယ်သွားပါ။ ပြီးတော့ လက်ဆောင်ပေးတဲ့အခါမှာ လက်နှစ်ဖက်နဲ့ ပေးပါ။

**리한** 네, 알겠어요. 고마워요.
ဟုတ်ကဲ့၊ သိပါပြီ။ ကျေးဇူးပဲနော်။

> **-는**
> ပြုခြင်းပြကြိယာအား နာမ်ကို အထူးပြုသော နာမဝိသေသနအဖြစ် ပြောင်းလဲပေးသည့် အရာ
> - 제가 좋아하는 음식은 김치찌개예요.
> ကျွန်တော် ကြိုက်တဲ့ အစားအစာကတော့ ငံချိုဟင်းရည်ပါ။
> - 나는 잘 웃는 사람이 좋아요.
> ငါကတော့ မျက်နှာချိုတဲ့သူကို သဘောကျတယ်။

> **-(으)ㄴ**
> ဖြစ်ခြင်းပြကြိယာအား နာမ်ကို အထူးပြုသော နာမဝိသေသနအဖြစ် ပြောင်းလဲပေးသည့် အရာ
> - 고향에서 가장 유명한 것이 뭐예요?
> ဇာတိမှာ နာမည်အကြီးဆုံးက ဘာလဲ။
> - 좋은 카메라를 샀네요.
> ကောင်းတဲ့ ကင်မရာ ဝယ်လိုက်တာပဲ။



သချော နားထောင်ပြီး လိုက်ဆိုခဲ့ရဲ့လား။ ဒါဆိုရင် အောက်က မေးခွန်းတွေ ဖြေကြည့်ရအောင်။

1. 어른들께 보통 어떤 선물을 많이 해요? လူကြီးတွေကို များသောအားဖြင့် ဘယ်လို လက်ဆောင်မျိုး ပေးလဲ။
2. 어른들께 선물을 드릴 때는 어떻게 드려요? လူကြီးတွေကို လက်ဆောင်ပေးတဲ့အခါ ဘယ်လို ပေးရလဲ။

정답 1. 과일이나 음료수를 많이 선물해요. 2. 두 손으로 드려요.




## 어휘 1 ဝေါဟာရ ၁ — 어휘 높임 ယဉ်ကျေးသော စကားလုံးများ



ကိုရီးယားမှာ လူကြီးသူမတွေနဲ့ စကားပြောတဲ့အခါ ရိုသေသမှုပြုပြီး ပြောရတဲ့ ယဉ်ကျေးတဲ့ အသုံးအနှုန်းတွေ ရှိပါတယ်။ ဘာတွေရှိလဲဆိုတာ လေ့လာကြည့်ရအောင်။



계시다 (있다)
ရှိသည်



잡수시다/드시다 (먹다)
သုံးဆောင်သည်(စားသည်)



주무시다 (자다)
အိပ်သည်



말씀하시다 (말하다)
ပြောသည်



편찮으시다 (아프다)
နေမကောင်းဖြစ်သည်



돌아가시다 (죽다)
ဆုံးပါးသည် (သေသည်)





드리다 (주다)
ပေးသည်



댁 (집)
အိမ်




성함 (이름)
အမည်၊ နာမည်





연세 (나이)
အသက်

- 할머니는 어제부터 **편찮으세요**.
  အဘွား ဘယ်တုန်းကစပြီး နေမကောင်းဖြစ်တာလဲ။
- 할아버지는 작년에 **돌아가셨어요**.
  အဘိုးက မနှစ်က ဆုံးသွားပါတယ်။
- 저는 할아버지께 선물을 **드려요**.
  ကျွန်တော် အဖိုးကို လက်ဆောင် ပေးပါတယ်။
- 할아버지는 **댁**에 **계세요**.
  အဘိုး အိမ်မှာ ရှိပါတယ်။
- 할아버지 **성함**이 어떻게 되세요?
  အဘိုး နာမည် ဘယ်လို ခေါ်ပါသလဲ။
- 가: 할아버지 **연세**가 어떻게 되세요?
  အဘိုး အသက် ဘယ်လောက် ရှိပြီလဲ။
  나: 여든 살이세요.
  အသက် ၈၀ ရှိပါပြီ။



အပေါ်က ဝေါဟာရတွေကို မကြည့်ဘဲ မေးခွန်းလေးတွေ ဖြေကြည့်ရအောင်။

1. 빈칸에 맞는 표현을 〈보기〉에서 골라 대화를 완성하세요.
ကွက်လပ်ဖြည့်ဖို့ သင့်တော်တဲ့ အသုံးအနှုန်းကို ဥပမာထဲက ရွေးပြီး စကားပြောကို အဆုံးသတ်ပါ။

1) 가: 지난 주말에 뭐 했어요? ပြီးခဲ့တဲ့ နားရက်မှာ ဘာ လုပ်ခဲ့ပါသလဲ။
   나: 할머니 ____________에 다녀왔어요.

2) 가: 사장님 좀 바꿔 주세요. သူဌေးကို တဆိတ်လောက် ဖုန်းလွှဲပေးပါခင်ဗျ။
   나: 지금 사무실에 안 ____________. 잠깐 나가셨어요.

3) 가: 가족이 어떻게 돼요? မိသားစု ဘယ်နှစ်ယောက် ရှိလဲ။
   나: 어머니하고 동생, 저, 3명이에요. 아버지는 3년 전에 ____________.

4) 가: 할머니, ____________이/가 어떻게 되세요?
   나: 75살이에요. ၇၅နှစ်ပါ။

5) 가: 여기 얼마예요? ဒီဝိုင်း ဘယ်လောက်ကျလဲ။
   나: 맛있게 ____________? 비빔밥하고 김치찌개니까 만 원이에요.

**보기**
연세
돌아가시다
드시다
댁
계시다

정답 1) 댁 2) 계세요 3) 돌아가셨어요 4) 연세 5) 드셨어요

## 문법 1 သဒ္ဒါ ၁ -(으)시-




ကြိယာ သို့မဟုတ် နာမဝိသေသနနဲ့ တွဲဖက်ပြီး ကတ္တားပုဒ်ကို ရိုသေသမှု ပြုလိုသည့် အခါ သုံးသည်။

| 자음 (ဗျည်း) → **-으시-** | 모음 (သရ), 자음 (ဗျည်း) 'ㄹ' → **-시-** |
|---|---|
| 읽다 → 읽**으시**다<br>좋다 → 좋**으시**다 | 가다 → 가**시**다<br>바쁘다 → 바쁘**시**다<br>살다 → 사**시**다 |

- 선생님은 지금 무슨 책을 **읽으세요**? ဆရာမ အခု ဘာ စာအုပ် ဖတ်နေတာပါလဲ။
- 사장님은 매일 아침 운동을 **하세요**. သူဌေး မနက်တိုင်း အားကစား လုပ်ပါသလား။
- 부모님은 베트남에 **사세요**. မိဘတွေက ဗီယက်နမ်မှာ နေပါတယ်။
- 우리 아버지는 키가 **크세요**. ကျွန်တော်တို့ အဖေက အရပ် မြင့်ပါတယ်။

ကတ္တားပုဒ်ကို ရိုသေသမှုပြုတဲ့ သဒ္ဒါ '-시-(ပါ)' ကို '-(으)세요' နဲ့ တွဲဖက်သုံးပါတယ်။ ပစ္စုပ္ပန်ကာလ အတွက် '-(으)세요'၊ အတိတ်ကာလအတွက် '-(으)셨어요' ကို သုံးပါတယ်။ စားသည်၊ ဖြစ်သည်၊ အိပ် သည် စတဲ့ ကြိယာတွေကိုတော့ '잡수시다 (စားသည်)', '계시다 (ဖြစ်သည်)', '주무시다 (အိပ်သည်)' အဖြစ် ပြောင်းပြီး '-시-' နဲ့ တွဲဖက် အသုံးပြုပါတယ်။



### 대조적 정보 နှိုင်းယှဉ်ချက်

'-(으)시-' ကတော့ မြန်မာလို (-ပါ)နဲ့ တူပါတယ်။ ဝါကျကို ပို ယဉ်ကျေးစေပါတယ်။ ကိုရီးယားစကားမှာတော့ အသတ်ပါရင် '-으시-' မပါရင် '-시' ဆိုပြီး ခွဲသုံးရပါတယ်။

- 친구가 회사에서 일한다. သူငယ်ချင်းက ကုမ္ပဏီမှာ အလုပ်လုပ်တယ်။
- 사장님이 회사에서 **일하신다**. သူဌေးက ကုမ္ပဏီမှာ အလုပ်လုပ်ပါတယ်။



'-(으)시-' ရဲ့ အသုံးကို နားလည်ပြီလား။ ဒါဆိုရင် မျဉ်းတားထားတဲ့ နေရာကို ယဉ်ကျေးတဲ့ စကားအဖြစ် ပြောင်းကြည့်ပါ။

2. 대화에서 밑줄 친 부분을 '-(으)시-'를 사용해서 바르게 고쳐 쓰세요.
မျဉ်းတားထားတဲ့ နေရာကို '-(으)시-' ကို သုံးပြီး မှန်အောင် ပြင်ရေးပါ။

1) 가: 가족은 어디 살아요? မိသားစုတွေက ဘယ်မှာ နေလဲ။
나: 부모님은 고향에 살아요. 그리고 형은 한국에 있어요.
မိဘတွေက ဇာတိမှာ နေပါတယ်။ ပြီးတော့ အစ်ကိုကတော့ ကိုရီးယားမှာ ရှိပါတယ်။
→ ______________________.

2) 가: 안에 반장님 계세요? အထဲမှာ ဆရာ ရှိလား။
나: 아니요, 조금 전에 나갔어요. ဟင့်အင်း၊ ခုနကပဲ ထွက်သွားတယ်။
→ ______________________.

3) 가: 여보세요. 사장님 좀 바꿔 주세요. ဟယ်လို။ သူဌေးကို တစ်ဆိတ်လောက် ဖုန်းလွှဲပေးပါခင်ဗျာ။
나: 사장님은 지금 회의 중이시라서 전화를 못 받아요.
သူဌေးက အခု အစည်းအဝေး လုပ်နေတုန်းမို့လို့ ဖုန်း မကိုင်နိုင်ပါဘူး။
→ ______________________.

정답 1) 사세요 2) 나가셨어요 3) 받으세요



## 대화 2 စကားပြော ၂

Track 74



ဟူအောင်းက အာဒစ်ကို ကိုရီးယားရဲ့ ထမင်းစားပွဲ ကျင့်ဝတ်တွေအကြောင်း ပြောပြနေပါတယ်။ အဲဒါတွေက ဘာတွေ ဖြစ်မလဲ။ အရင်ဆုံး သူတို့ ပြောနေတာကို နှစ်ခေါက် နားထောင်ကြည့်ပါ။

**흐엉** 아딧 씨, 한국에서는 식사할 때 밥그릇을 들고 먹으면 안 돼요.
အာဒစ်ရေ၊ ကိုရီးယားမှာက ထမင်းစားရင် ထမင်းပန်းကန်ကို ကိုင်ပြီး မစားရဘူး။

**아딧** 아, 그래요? 몰랐어요.
သြော်၊ ဟုတ်လား။ မသိလိုက်ဘူး။

**흐엉** 한국에서는 식탁에 밥그릇을 놓고 먹어야 돼요. 저도 처음에는 한국의 식사 예절을 잘 몰라서 고생했어요.
ကိုရီးယားမှာက ထမင်းစားပွဲမှာ ထမင်းပန်းကန်ကို ချပြီး စားရတယ်။ ကျွန်တော်လည်း အစကတော့ ကိုရီးယားရဲ့ ထမင်းစားပွဲ ကျင့်ဝတ်ကို သိပ်မသိလို့ ဒုက္ခရောက်ခဲ့တာ။

**아딧** 저는 아직도 잘 모르겠어요. 한국의 식사 예절을 좀 가르쳐 주세요.
ကျွန်တော်တော့ အခုထိ သိပ် မသိသေးဘူး။ ကိုရီးယား ထမင်းစားပွဲ ကျင့်ဝတ်ကို နည်းနည်း သင်ပေးပါလား။

**흐엉** 밥에 숟가락을 꽂으면 안 돼요. 그리고 밥을 먹을 때 소리를 크게 내지 마세요.
ထမင်းပန်းကန်ထဲ ဇွန်းစိုက်လို့ မရဘူး။ ပြီးတော့ ထမင်းစားတဲ့အခါ အသံ အကျယ်ကြီး မထွက်ပါစေနဲ့။

> **아직(도) အခုထိ**
> · 가: 일을 다 끝냈어요?
> အလုပ်တွေ အကုန် ပြီးသွားပြီလား။
> 나: 아니요, 아직 다 못 했어요.
> ဟင့်အင်း၊ အခုထိ အကုန် မပြီးသေးဘူး။
> · 저는 아직도 한국말을 잘 못해요.
> ကျွန်တော်တော့ အခုထိ ကိုရီးယားစကားကို သိပ်မပြောတတ်သေးဘူး။

> **-지 마세요**
> '-(으)세요' ရဲ့ ဆန့်ကျင်ဘက် အသုံးအဖြစ် မလုပ်ရန် အမိန့်ပေးခြင်း၊ တားမြစ်ခြင်းအတွက် သုံးသည်။
> · 일할 때 음식을 먹지 마세요.
> အလုပ်လုပ်ရင်း အစာ မစားပါနဲ့။
> · 여기에서 담배를 피우지 마세요.
> ဒီမှာ ဆေးလိပ် မသောက်ပါနဲ့။



ဒီတစ်ခါတော့ ဟူအောင်းနဲ့ အာဒီ ပြောသလို လိုက်ပြောကြည့်ပါ။ သေချာနားထောင်ပြီး လိုက်ဆိုခဲ့ရဲ့လား။ ဒါဆိုရင် အောက်က မေးခွန်းတွေ ဖြေကြည့်ရအောင်။

1. 한국에서는 식사할 때 무엇을 하면 안 돼요?
   ကိုရီးယားမှာက ထမင်းစားတဲ့အခါ ဘာမလုပ်ရဘူးလဲ။
2. 한국의 식사 예절에는 어떤 것이 있어요?
   ကိုရီးယားရဲ့ ထမင်းစားပွဲ ကျင့်ဝတ်မှာ ဘယ်လို ဟာတွေ ရှိပါသလဲ။

**정답** 1. 밥그릇을 들고 먹으면 안 돼요.
2. 밥에 숟가락을 꽂으면 안 돼요. 그리고 밥을 먹을 때 소리를 내면 안 돼요.

## 어휘 2 ဝေါဟာရ ၂ | 생활 예절 နေထိုင်မှု ကျင့်ဝတ်များ



လူနေမှုဘဝ ကျင့်ဝတ်များနဲ့ သက်ဆိုင်တဲ့ စကားလုံးတွေ ဘာတွေရှိလဲဆိုတာ လေ့လာကြည့်ရအောင်။

※하면 안 되는 행동 မလုပ်ရမယ့် အရာများ




신발을 신고 들어가다
ဖိနပ်စီးလျက် ဝင်သွားသည်



한 손으로 물건을 주다
လက်တစ်ဖက်တည်းဖြင့် ပစ္စည်းကို ပေးသည်



다리를 떨다
ခြေထောက်လှုပ်သည်၊ ဒူးနံ့သည်



다리를 꼬고 앉다
ခြေချိတ်ထိုင်သည်



밥에 숟가락을 꽂다
ထမင်းပန်းကန်ထဲ ဇွန်းစိုက်သည်



밥그릇을 들고 먹다
ထမင်းပန်းကန်ကို ကိုင်စားသည်




소리를 크게 내다
အသံအကျယ်ကြီး ထွက်သည်

※해야 하는 행동 လုပ်ရမယ့် အရာများ



고개를 돌리다
မျက်နှာလွှဲသည်



허리를 숙이다
ခါးညွတ်သည်



자리를 양보하다
နေရာ ဦးစားပေးသည်



အပေါ်မှာ လေ့လာခဲ့တဲ့ ဝေါဟာရတွေကို ပြန်စဉ်းစားရင်း မေးခွန်းတွေ ဖြေကြည့်ကြရအောင်။

1. 그림을 보고 알맞은 말을 연결하세요.
ပုံကို ကြည့်ပြီး သင့်တော်ရာ စကားစုနဲ့ ဆက်သွယ်ပါ။

①  • • ㉠ 밥그릇을 들고 밥을 먹으면 안 돼요.

② • • ㉡ 신발을 신고 집 안에 들어가면 안 돼요.

③  • • ㉢ 어른께 한 손으로 물건을 드리면 안 돼요.

정답 ①㉢ ②㉡ ③㉠

## 문법 2 သဒ္ဒါ ၂    -아야/어야 되다/하다



ကြီယာနဲ့ တွဲဖက်ပြီး မဖြစ်မနေ လုပ်ရမှာမျိုး၊ လုပ်သင့်၊ ဖြစ်သင့်တာကို ဖော်ပြတဲ့ အခါမှာ သုံးပါတယ်။ ဒီနေရာမှာ '되다' နဲ့ '하다' ကို လဲလှယ် အသုံးပြုနိုင်ပါတယ်။

- 한국인 집을 방문할 때는 신발을 벗고 **들어가야 해요**.
  ကိုရီးယားလူမျိုး အိမ်ကို သွားလည်တဲ့ အခါမှာ ဖိနပ်ချွတ်ပြီး ဝင်သွားရပါမယ်။
- 어른께는 두 손으로 물건을 **드려야 해요**. လူကြီးကို လက်နှစ်ဖက်နဲ့ ပစ္စည်း ပေးရပါမယ်။
- 지하철 안에서는 어른께 자리를 **양보해야 해요**. မြေအောက်ရထားထဲမှာဆို လူကြီးကို နေရာ ဦးစားပေးရပါမယ်။



### 비교해 보세요 နှိုင်းယှဉ်ကြည့်ပါ။

**✓ '-아야/어야 되다/하다' နှင့် '-(으)면 안 되다'**

'-아야/어야 되다/하다' က တစ်ခုခု လုပ်ရမယ်လို့ ဆိုလိုပြီး '-(으)면 안 되다' ကတော့ တစ်ခုခု မလုပ်ရပါဘူး လို့ ဆိုလိုပါတယ်။

- 쓰레기는 쓰레기통에 **버려야 돼요**. 함부로 **버리면 안 돼요**.



'-아야/어야 되다/하다' ရဲ့ အသုံးကို နားလည်ပြီလား။ ဒါဆိုရင် ပုံကို ကြည့်ပြီး စကားပြောနဲ့ သင့်တော်မယ့် အသုံးအနှုန်းကို ရွေးပါ။

2. 그림을 보고 맞는 답을 고르세요. ပုံကို ကြည့်ပြီး အဖြေမှန်ကို ရွေးပါ။

1)



가: 어른께 인사할 때 어떻게 해요?
　　လူကြီးကို နှုတ်ဆက်တဲ့အခါ ဘယ်လို လုပ်ရလဲ။
나: ______________________.

① 허리를 숙여야 해요     ② 손을 들고 인사해야 해요

2)



가: 지하철에서 어떻게 해야 해요?
　　မြေအောက်ရထားမှာ ဘယ်လို လုပ်ရလဲ။
나: ______________________.

① 어른께 자리를 양보해야 해요     ② 자리를 차지하고 앉아 있어야 해요

정답 1) ① 2) ①



ဆက်ပြီး လေ့လာရအောင်။ '-아야/어야 되다/하다' ကို သုံးပြီး ဝါကျကို အဆုံးသတ်ကြည့်ပါ။

줄을 서다    휴대전화를 끄다    두 손으로 드리다

1. 극장에서 영화를 볼 때는 ______________.
2. 어른께 물건을 드릴 때는 ______________.
3. 지하철을 탈 때는 ______________.

정답
1. 휴대전화를 꺼야 해요
2. 두 손으로 드려야 해요
3. 줄을 서야 해요



## 활동 အသုံးချသင်ခန်းစာများ

〈보기〉처럼 이야기해 보세요. ဥပမာထဲကလို ပြောကြည့်ပါ။

보기

밥을 먹을 때 ထမင်းစားတဲ့ အခါ



식탁 위에 놓고 먹다
ထမင်းစားပွဲမှာ တင်ပြီး စားသည်

가: 한국에서 밥을 먹을 때 어떻게 해야 돼요?
ကိုရီးယားမှာက ထမင်းစားတဲ့အခါ ဘယ်လို လုပ်ရလဲ။

나: 밥그릇을 들고 먹으면 안 돼요.
식탁 위에 놓고 먹어야 돼요.
ထမင်းပန်းကန်ကို ကိုင်ပြီး မစားရပါဘူး။
ထမင်းစားပွဲပေါ်မှာ တင်ပြီး စားရပါတယ်။

1) 어른께 물건을 드릴 때
လူကြီးကို ပစ္စည်းပေးတဲ့အခါ



두 손으로 드리다
လက်နှစ်ဖက်နဲ့ ပေးသည်

2) 집에 들어갈 때
အိမ်ထဲ ဝင်တဲ့အခါ




신발을 벗고 들어가다
ဖိနပ်ချွတ်ပြီး ဝင်သွားသည်

3) 밥을 먹을 때
ထမင်းစားတဲ့ အခါ




조용히 먹다
တိုးတိုးသက်သာ စားသည်

4) 지하철에서
ရထားပေါ်မှာ



자리를 양보하다
နေရာ ဦးစားပေးသည်

정답 1) 가: 한국에서 어른께 물건을 드릴 때 어떻게 해야 돼요?
나: 한 손으로 물건을 드리면 안 돼요. 두 손으로 드려야 돼요.
2) 가: 한국에서 집에 들어갈 때 어떻게 해야 돼요?
나: 신발을 신고 들어가면 안 돼요. 신발을 벗고 들어가야 돼요.
3) 가: 한국에서 밥을 먹을 때 어떻게 해야 돼요?
나: 소리를 크게 내면 안 돼요. 조용히 먹어야 돼요.
4) 가: 한국에서 지하철에서 어떻게 해야 돼요?
나: 노약자석에 앉으면 안 돼요. 자리를 양보해야 돼요.



## 정보 သတင်းအချက်အလက်

# 한국인들에게 나이란?

### ကိုရီးယားလူမျိုးတွေအတွက် အသက်ဆိုတာ

한국에서는 처음 보는 사람에게도 나이를 자주 물어봅니다. 외국인들은 한국인들이 처음 만났을 때 나이를 물어봐서 당황하는 경우가 있는데 한국에서는 나이를 묻는 것이 실례되는 행동은 아닙니다. 왜냐하면 한국에서는 나이가 많은 사람에게는 높임말을 쓰는 등 예의를 지켜야 하기 때문입니다. 높임말을 쓰는 것 말고도 어른 앞에서 지켜야 하는 행동들이 있는데 어떤 것인지 알아볼까요?

ကိုရီးယားမှာတော့ စစချင်း တွေ့တဲ့ လူကိုတောင် မကြာခဏ အသက် ဘယ်လောက်လဲ မေးလေ့ရှိပါတယ်။ နိုင်ငံခြားသားတွေက တွေ့တွေ့ချင်း အသက်ကို အမေးခံရလို့ ကသိကအောက် ဖြစ်တတ်ပေမယ့် ကိုရီးယားမှာကတော့ အသက်ကို မေးတာဟာ အားနာစရာ ကိစ္စတစ်ခု မဟုတ်ပါဘူး။ ဘာဖြစ်လို့လဲဆိုတော့ ကိုရီးယားမှာက အသက်ကြီးတဲ့သူကို ယဉ်ယဉ်ကျေးကျေး ပြောရတာလိုမျိုး စောင့်ထိန်းရတဲ့ ကျင့်ဝတ်တွေ ရှိလို့ ဖြစ်ပါတယ်။ ယဉ်ယဉ်ကျေးကျေး ပြောရတာအပြင် လူကြီးရှေ့မှာ အခြား စောင့်ထိန်းရတဲ့ အပြုအမူတွေလည်း ရှိပါသေးတယ်။ ဘာတွေ ဖြစ်မလဲဆိုတာ ကြည့်ကြည့်ရအောင်ပါ။

**밥을 먹을 때** ထမင်းစားတဲ့အခါ
- 어른이 먼저 숟가락을 들 때까지 기다리기 လူကြီးက အရင် ဇွန်းကို ကိုင်တဲ့အထိ စောင့်ရန်
- 어른이 식사를 마칠 때까지 자리에서 일어나지 않기 လူကြီး စားတာ ပြီးတဲ့အထိ နေရာကနေ မထဘဲ စောင့်ရန်

**술을 마실 때** အရက်သောက်တဲ့အခါ
- 어른께 술을 받을 때는 두 손으로 받기 လူကြီးက အရက် ငှဲ့ပေးတဲ့အခါ လက်နှစ်ဖက်နဲ့ ခွက်ကို ကိုင်ရန်
- 어른이 먼저 술을 마신 후에 마시기 လူကြီးက အရင် အရက် သောက်ပြီးမှ သောက်ရန်
- 어른 앞에서는 고개를 돌리고 술 마시기 လူကြီးရှေ့မှာဆို မျက်နှာကို တစ်ခြားဘက် လှည့်ပြီး သောက်ရန်

**물건을 주고받을 때** ပစ္စည်း ပေးတာ ယူတာ လုပ်တဲ့အခါ
- 어른께 물건을 드릴 때 두 손으로 드리기 လူကြီးကို ပစ္စည်းပေးတဲ့အခါ လက်နှစ်ဖက်နဲ့ ပေးရန်
- 어른이 물건을 주실 때 두 손으로 받기 လူကြီးက ပစ္စည်းပေးတဲ့အခါ လက်နှစ်ဖက်နဲ့ ယူရန်

**기타** အခြား
- 인사를 할 때는 허리를 숙이기 နှုတ်ဆက်တဲ့အခါ ခါးကို ညွှတ်ရန်
- 어른 앞에서 담배 피우지 않기 လူကြီး ရှေ့မှာ ဆေးလိပ် မသောက်ရန်
- 지하철이나 버스에서 어른께 자리 양보하기
  မြေအောက်ရထားတို့၊ ဘတ်စ်ကားတို့ပေါ်မှာ လူကြီးတွေကို နေရာ ဦးစားပေးရန်



**내용 확인** အကြောင်းအရာ ဆန်းစစ်ချက်

✚ 빈칸에 알맞은 말을 쓰세요. ကွက်လပ်တွင် သင့်တော်သော စကားလုံးကို ဖြည့်ပါ။

1. 어른께 물건을 드릴 때 ___ ___으로 드려야 해요.
   လူကြီးကို ပစ္စည်းပေးတဲ့အခါ လက်နှစ်ဖက်နဲ့ ပေးရပါတယ်။

2. 지하철에서 어른께 자리를 ___ ___해야 해요.
   မြေအောက်ရထားထဲမှာ လူကြီးကို နေရာ ဦးစားပေးရပါတယ်။

정답 1. 두 손 2. 양보



# EPS-TOPIK 듣기 EPS-TOPIK အကြား စာမေးပွဲ



မေးခွန်းနံပါတ် ၁ကနေ ၃အထိကတော့ ပြောတာကို နားထောင်ပြီး ဆီလျော်တဲ့ ပုံတွေကို ရွေးပေးရမှာ ဖြစ်ပါတယ်။ နားမထောင်ခင်မှာ ပုံတွေကို အရင် ကြည့်ထားပါ။

[1~3] 잘 듣고 내용과 관계있는 그림을 고르십시오.
သေချာနားထောင်ပြီး အကြောင်းအရာနဲ့ သက်ဆိုင်တဲ့ ပုံကို ရွေးပါ။

Track 75



1. ①  ②     

2. ①  ②  ③   


3. ①  ②  ③   



အောက်က ပုစ္ဆာတွေအတွက် မေးခွန်းကို နားထောင်ပြီး အဖြေမှန်ကို ရွေးပေးရမှာပါ။ စကားပြောကို နားမထောင်ခင် ရွေးဖို့ ပေးထားတာတွေကို အရင် ဖတ်ကြည့်ပါ။

[4~5] 질문을 듣고 알맞은 대답을 고르십시오.
မေးခွန်းကို နားထောင်ပြီး လိုက်ဖက်မယ့် အဖြေကို ရွေးပါ။

4. ① 잘 지냈어요. ② 책을 읽어요.
③ 회사에 다니세요. ④ 다음 주에 아버지가 오세요.

5. ① 예순 살입니다. ② 10월 24일입니다.
③ 우리 할머니이십니다. ④ 저는 이영수라고 합니다.

## 듣기 대본 စာသား

1. 남: 할아버지는 지금 뭐 하세요? အဘိုးက အခု ဘာလုပ်နေပါသလဲ။
   여: 방에서 주무세요. အခန်းထဲမှာ အိပ်နေပါတယ်။
2. 여: 할아버지는 지금 어디 사세요? အဘိုးက အခု ဘယ်မှာ နေပါသလဲ။
   남: 작년에 돌아가셨어요. မနှစ်က ဆုံးသွားပါပြီ။
3. 여: 한국에서는 지하철에서 할아버지, 할머니를 보면 자리를 양보해야 합니다.
   ကိုရီးယားမှာက မြေအောက်ရထားထဲမှာ အဘိုး၊ အဘွားတွေကို တွေ့ရင် နေရာကို ဦးစားပေးရပါတယ်။
4. 여: 아버지는 무슨 일을 하세요? အဖေက ဘာ အလုပ် လုပ်ပါသလဲ။
5. 남: 실례지만 성함이 어떻게 되세요? အားတော့နာပါတယ်... နာမည် ဘယ်လို ခေါ်ပါလဲဟင်။

정답 1.① 2.③ 3.① 4.③ 5.④



## 확장 연습 ထပ်ဆောင်း လေ့ကျင့်ရန် L-23

1. 잘 듣고 내용과 관계있는 그림을 고르십시오.
   သေချာ နားထောင်ပြီး အကြောင်းအရာနဲ့ ဆက်စပ်မှု ရှိတဲ့ ပုံကို ရွေးပါ။

① 
② 
③ 
④ 

## 확장 연습 듣기 대본 ထပ်ဆောင်း လေ့ကျင့်ရန် စာသား

1. 여: 한국에서 지켜야 하는 예절이 있어요?
   ကိုရီးယားမှာ စောင့်ထိန်းရမယ့် ကျင့်ဝတ်တွေ ရှိပါသလား။
   남: 네, 어른께 물건을 드릴 때에는 두 손으로 드려야 돼요.
   ဟုတ်ကဲ့။ လူကြီးကို ပစ္စည်းပေးတဲ့အခါ လက်နှစ်ဖက်နဲ့ ပေးရပါတယ်။

정답 1. ④



# EPS-TOPIK 읽기 EPS-TOPIK အဖတ် စာမေးပွဲ



မေးခွန်း ၁ကနေ ၃အထိကတော့ ပုံနဲ့ သင့်တော်တဲ့ ဝါကျကို ရွေးပေးရမှာပါ။ အပေါ်မှာ လေ့လာခဲ့တဲ့ အသုံးအနှုန်းတွေကို ပြန်စဉ်းစားပြီး မေးခွန်းများကို ဖြေပါ။

[1~3] 다음 그림을 보고 알맞은 문장을 고르십시오.
အောက်ပါ ပုံကို ကြည့်ပြီး သင့်တော်တဲ့ ဝါကျကို ရွေးပါ။

1.



① 할아버지가 편찮으세요.
② 할아버지가 방에 계세요.
③ 할아버지가 식사를 하세요.
④ 할아버지가 비빔밥을 드세요.

2.




① 한국에서는 다리를 떨면 안 됩니다.
② 한국에서는 집에서 바닥에 앉습니다.
③ 한국에서는 밥에 숟가락을 꽂지 않습니다.
④ 한국에서는 집에 들어갈 때 신발을 신으면 안 됩니다.

3.



① 어른께는 허리를 숙여서 인사해야 합니다.
② 어른 앞에서는 조용히 밥을 먹어야 합니다.
③ 어른 앞에서는 다리를 꼬고 앉으면 안 됩니다.
④ 어른 앞에서는 고개를 돌리고 술을 마셔야 합니다.



အောက်ပါ ဝါကျတွေမှာတော့ ကွက်လပ်ဖြည့်ဖို့ သင့်တော်တဲ့ အသုံးအနှုန်းတွေကို ရှာပေးရမှာပါ။ ရှေ့မှာ လေ့လာခဲ့တဲ့ ယဉ်ကျေးတဲ့ စကားလုံးတွေ သဒ္ဒါတွေကို ပြန်စဉ်းစားပြီး မေးခွန်းတွေကို ဖြေကြည့်ရအောင်။

[4~5] 빈칸에 들어갈 가장 알맞은 것을 고르십시오. ကွက်လပ်ဖြည့်ရန် အသင့်တော်ဆုံး အရာကို ရွေးပါ။

4. 저희 할머니는 ________이/가 많으시지만 매일 운동을 하셔서 건강하십니다.
ကျွန်တော်တို့ အဘွားက အသက်ကြီးပေမယ့် နေ့တိုင်း အားကစားလုပ်လို့ ကျန်းမာပါတယ်။.

① 댁 ② 성함 ③ 연세 ④ 생신

5. 한국에서는 어른들과 함께 있을 때 지켜야 할 예절이 많은데, 물건을 주고받을 때 어른께는 두 손으로 물건을 ________.
ကိုရီးယားမှာကတော့ လူကြီးတွေနဲ့ အတူရှိတဲ့အခါ စောင့်ထိန်းရတဲ့ ကျင့်ဝတ်တွေ များပါတယ်။ ပစ္စည်း ပေးတဲ့ ယူတဲ့ အခါ လူကြီးကိုဆိုရင် လက်နှစ်ဖက်နဲ့ ပစ္စည်း ပေးရပါတယ်။

① 주셔야 합니다 ② 드려야 합니다 ③ 돌려야 합니다 ④ 숙여야 합니다

정답 1. ② 2. ④ 3. ④ 4. ③ 5. ②



## 확장 연습 ထပ်ဆောင်း လေ့ကျင့်ရန်

[1~3] 빈칸에 들어갈 가장 알맞은 것을 고르십시오.
ကွက်လပ်ဖြည့်ရန် အသင့်တော်ဆုံး အရာကို ရွေးပါ။

1.

저는 영화를 좋아합니다. 그래서 시간이 있으면 친구와 함께 종종 ________에 갑니다.
ကျွန်တော်က ရုပ်ရှင်ကြိုက်ပါတယ်။ အဲဒါကြောင့် အချိန်ရရင် သူငယ်ချင်းနဲ့ အတူတူ မကြာမကြာ ရုပ်ရှင်ရုံကို သွားပါတယ်။

① 약국　　② 극장
③ 서점　　④ 식당

2.

가을에는 맛있는 ________이/가 많습니다. 저는 특히 사과와 배를 아주 좋아합니다.
ဆောင်းဦးမှာ အရသာရှိတဲ့ သစ်သီးဝလံတွေ ပေါပါတယ်။ ကျွန်တော်ကတော့ အထူးသဖြင့် ပန်းသီးနဲ့ သစ်တော်သီးကို အရမ်း ကြိုက်ပါတယ်။

① 과일　　② 채소
③ 음료　　④ 음식

3.

아침에 출근할 때 집에서 회사까지 버스를 타고 옵니다. 낮에는 20분이면 되는데 출퇴근 시간에는 길이 막혀서 30분쯤 ________.
မနက်ခင်း ရုံးတက်တဲ့အခါ အိမ်ကနေ ရုံးအထိ ဘတ်စ်ကား စီးပြီး လာပါတယ်။ နေ့ခင်းပိုင်းဆို မိနစ် ၂၀နဲ့ ရပေမယ့် ရုံးတက် ရုံးဆင်းချိန်မှာတော့ ကားပိတ်လို့ မိနစ်၃၀လောက် ကြာပါတယ်။

① 쉽니다　　② 보냅니다
③ 걸립니다　　④ 찾습니다

정답 1. ② 2. ① 3. ③



## 발음 အသံထွက်



### သေချာ နားထောင်ပြီး လိုက်ဆိုပါ။

ကိုရီးယားဘာသာစကားမှာ အသတ်သံက အကန့်အသတ်ရှိပါတယ်။ စုစုပေါင်း အသတ်သံ (၇) ခုပဲ ရှိပါတယ်။ ပါးစပ်ပိတ်သံဖြစ်တဲ့ 'ㅂ[p], ㅍ[pʰ]' ကတော့ ဥပမာ '읍' လိုမျိုး လေကို မဖောက်ထုတ်ဘဲ [ㅂ] သံနဲ့ ထွက်ပေးရပါတယ်။

(1) 입, 집, 삽, 밥, 지갑
(2) 잎, 앞, 숲, 밭
(3) 집도 커요.




# 한국 영화를 보면서 공부해요

ကိုရီးယားကား ကြည့်ရင်း စာလေ့လာတယ်။

| 학습 안내<br>သင်ရိုး အညွှန်း | |
|---|---|
| | □ **သင်ခန်းစာ ရည်ရွယ်ချက်** စာကျက်နည်းအကြောင်း ပြောခြင်း၊ ဖောင်တင်နည်း ရှင်းပြခြင်း |
| | □ **သဒ္ဒါ** -(으)면서, -기 쉽다/어렵다 |
| | □ **ဝေါဟာရ** စာလေ့လာခြင်းနှင့် သင်တန်းများ |
| | □ **သတင်းအချက်အလက်နှင့် ယဉ်ကျေးမှု** နိုင်ငံခြားသား အလုပ်သမား သင်တန်း အစီအစဉ်များ |



## 대화 1 စကားပြော ၁

Track 76



အောက်ပါ စကားပြောများကတော့ ဆူဖီခါနှင့်ဟူအောင်းတို့နှစ်ယောက်ရဲ့ အပြန်အလှန် စကားများဖြစ်ပါတယ်။ ဆူဖီကာက ဟုန်းကို ကိုရီးယားစာ ဘယ်လိုလေ့လာလဲလို့မေးနေတယ်။ စကားပြောကို နှစ်ခေါက် နားထောင်ပါ။

수피카 흐엉 씨, 주말에 시간이 있어요?
ဟူအောင်း၊ စနေ၊ တနင်္ဂနွေပိတ်ရက် အချိန်ရှိလား။

흐 엉 네, 그런데 왜요? ဟုတ်ကဲ့၊ ဒါနဲ့ ဘာဖြစ်လို့လဲ။

수피카 한국어가 너무 어려워서 그러는데 한국어 좀 가르쳐 주세요.
ကိုရီးယားစကားက အရမ်းခက်တဲ့အတွက်ကြောင့် ကိုရီးယားစကား နည်းနည်း သင်ပေးပါ။

흐 엉 좋아요. ကောင်းပြီလေ။

수피카 그런데 흐엉 씨는 한국어를 어떻게 공부해요? 학원에 다녀요?
ဒါနဲ့ ဟူအောင်းကော ကိုရီးယားစကားကို ဘယ်လိုလေ့လာလဲ။ သင်တန်းတက်တာလား။

흐 엉 아니요, 저는 영화 보는 것을 좋아해서 한국 영화를 보면서 공부해요. 수피카 씨도 좋아하는 것을 하면서 공부해 보세요.
ဟင့်အင်း၊ ကျွန်တော်ကတော့ ဗွီဒီယို ကြည့်ရတာ ကြိုက်တော့ ကိုရီးယားကား ကြည့်ရင်း လေ့လာတယ်။ ဆူဖီခါရော ကိုယ်ကြိုက်နှစ်သက်တာ လုပ်ရင် စာလေ့လာကြည့်ပါ။

**그런데 ဒါပေမဲ့**

အနောက်က အကြောင်းအရာကို ပြောင်းပြောချင်တဲ့အခါ သုံးတယ်။

· 가: 오후에 시장 구경 갈까요?
မွန်းလွဲပိုင်းမှာ ဈေးထဲ လျှောက်ကြည့်ဖို့ သွားကြမလား။

나: 그런데 좀 늦게 가요. 먼저 할 일이 좀 있어서요.
ဒါပေမဲ့ နည်းနည်း နောက်ကျမှ သွားမယ်။ အရင် လုပ်စရာလေး ရှိလို့ပါ။

**-아서/어서 그러는데**

ရှေ့ဝါကျရဲ့ အကြောင်းအရာက နောက်ဝါကျရဲ့ အကြောင်းရင်းဆိုတာကို ဖော်ပြပါတယ်။

· 지금 바빠서 그러는데 이것 좀 도와주세요.
အခု နည်းနည်း အလုပ်များနေတဲ့အတွက်ကြောင့် ဒါလေး တဆိတ်လောက် ကူညီပေးပါ။



သေချာနားထောင်ပြီး လိုက်ဆိုပြီးရင် အောက်က မေးခွန်းတွေ ဖြေကြည့်ကြရအောင်။ ။

1. 수피카 씨는 왜 흐엉 씨를 만나고 싶어 해요? ဆူဖီခါက ဘာလို့ ဟူအောင်းကို တွေ့ချင်တာလဲ။
2. 흐엉 씨는 한국어를 어떻게 공부해요? ဟူအောင်းက ကိုရီးယားစကားကို ဘယ်လို လေ့လာလဲ။

정답 1. 한국어를 배우고 싶어서요. 2. 한국 영화를 보면서 공부해요.



## 어휘 1 ဝေါဟာရ ၁ **공부** စာလေ့လာခြင်း။



ကိုရီးယားဘာသာကို ဘယ်လို လေ့လာလဲ။ သက်ဆိုင်သော ဝေါဟာရများကို လေ့လာကြည့်ရအောင်။







| 공부하다<br>စာလေ့လာသည်။ | 사전을 찾다<br>အဘိဓာန်ရှာသည် | 예습하다<br>ကြိုတင်လေ့လာသည်။ | 복습하다<br>ပြန်လည် လေ့ကျင့်သည်။ |
|---|---|---|---|








| 학원에 다니다<br>သင်တန်းတက်သည်။ | 인터넷 강의를 듣다<br>အင်တာနက် သင်ခန်းစာကို နားထောင်သည်။ | CD를 듣다<br>စီဒီခွေနားထောင်သည်။ | 따라하다<br>လိုက်လုပ်သည်။ |
|---|---|---|---|






| 쉽다<br>လွယ်ကူသည်။ | 어렵다<br>ခက်ခဲသည်။ |
|---|---|



အပေါ်ကဝေါဟာရတွေကို မကြည့်ဘဲ အောက်ပါစာကြောင်းများကိုဖြည့် စွက်ပါ။

1. 그림에 맞는 표현을 <보기>에서 골라 문장을 완성하세요.
ပုံနှင့် ကိုက်ညီသော အသုံးအနှုန်းကို ဥပမာမှ ရွေးချယ်ပြီး ဝါကျကို ဖြည့်စွက်ပါ။

1)  흐엉 씨는 매일 ____________.

3)  리한 씨는 ____________.

2)  투안 씨는 ____________.

4)  흐엉 씨는 매일 ____________.





보기: 복습하다 예습하다 학원에 다니다 인터넷 강의를 듣다

정답 1) 예습해요 2) 학원에 다녀요 3) 인터넷 강의를 들어요 4) 복습해요

## 문법 1 သဒ္ဒါ ၁ -(으)면서


G24-1

ကြိယာနဲ့ တွဲပြီး ရှေ့ဝါကျနဲ့ နောက်ဝါကျ တစ်ချိန်တည်း ဖြစ်နေတာကို ပြပါတယ်။ '-(으)면서' ရဲ့ ရှေ့ဝါကျနဲ့ နောက်ဝါကျကို နေရာပြောင်းလို့လည်း ရပါတယ်။ '-(으)면서' ဝါကျနှစ်ကြောင်းလုံးရဲ့ ပြုသူကတော့ တစ်ယောက်တည်း ဖြစ်ရပါမယ်။ နာမ်နဲ့တွဲရင် '-(이)면서' ဖြစ်ပါတယ်။

| 자음 (ဗျည်း) → -**으면서** | 모음 (သရ), 자음 (ဗျည်း) 'ㄹ' → -**면서** |
|---|---|
| 먹다 → 먹**으면서** | 보다 → 보**면서**<br>울다 → 울**면서** |

- 가: 투안 씨, 어제 저녁에 뭐 했어요? ထူအန်း၊ မနေ့ညနေက ဘာလုပ်ခဲ့လဲ။
  나: 친구하고 밥을 **먹으면서** 이야기했어요. သူငယ်ချင်းနဲ့ ထမင်းစားရင်းစကားပြောခဲ့တယ်။
- 영화를 **보면서** 빵을 먹어요. ရုပ်ရှင်ကြည့်ရင်း ပေါင်မုန့်စားတယ်။
- 한국 노래를 **들으면서** 한국어를 공부해요. ကိုရီးယား သီချင်း နားထောင်ရင်း ကိုရီးယားစာ လေ့လာတယ်။
- 지훈 씨는 **학생이면서** 회사원이에요. ဂျီဟွန်းကတော့ ကျောင်းသားလည်း ဖြစ်ပြီး၊ ကုမ္ပဏီဝန်ထမ်းလည်း ဖြစ်တယ်။



### 비교해 보세요 နှိုင်းယှဉ်ကြည့်ပါ။

✓ **'-(으)면서' နှင့် '-고'**

'-(으)면서' နဲ့ '-고' ကတော့ လှုပ်ရှားမှု နှစ်ခုက တစ်ချိန်တည်းမှာ ဖြစ်နေတာချင်း တူပါတယ်။ '-(으)면서' ကတော့ လှုပ်ရှားမှု နှစ်ခုက တစ်ချိန်တည်းမှာ ဖြစ်နေတာဖြစ်ပြီး '-고' ကတော့ ရှေ့က လှုပ်ရှားမှုက အရင်ဖြစ်ပြီး အဲဒီ လှုပ်ရှားမှု မပြီးသေးခင် နောက်က လှုပ်ရှားမှုက ဖြစ်လာပြီး လှုပ်ရှားမှုနှစ်ခု အနည်းငယ် ထပ်တူကျတာ ဖြစ်ပါတယ်။

- 손을 **잡으면서** 말씀하셨어요.
  손을 **잡고** 말씀하셨어요.



'-(으)면서' ကို နားလည်လား။အောက်ပါစကားပြောမှာ ကွက်လပ်ဖြည့်ပါ။

**2. 그림을 보고 '-(으)면서'를 사용해서 대화를 완성하세요.** '-(으)면서' ကိုသုံးပြီး စာကြောင်းဖြည့်စွက်ပါ။

1) 사전을 찾다 / 공부하다

가: 모니카 씨는 어떻게 공부해요? မိုနီခါက စာ ဘယ်လိုလေ့လာလဲ။
나: 저는 모르는 단어는 ____________.

2)


CD를 듣다


따라하다

가: 바루 씨는 참 발음이 좋네요. 어떻게 연습해요?
ဘာရူကတော့ တော်တော်လေး အသံထွက်ကောင်းတယ်နော်။ဘယ်လို လေ့ကျင့်ယူလဲ။
나: 저는 매일 ____________.

정답 1) 사전을 찾으면서 공부해요 2) CD를 들으면서 따라해요



## 대화 2 စကားပြော ၂

Track 77



ရီဟာန်က ထူအန်းကို အတန်းလျှောက်တဲ့ အကြောင်းနဲ့ ပတ်သက်ပြီး မေးတယ်။အတန်းဘယ်လို လျှောက်ရမလဲဟင်၊ စကားပြောကို နှစ်ခေါက် နားထောင်ပါ။

리한 투안 씨, 어디 갔다 와요?
ထူအန်း၊ ဘယ်သွားပြီးပြန်လာတာလဲ။

투안 자동차 정비 교육을 받고 왔어요.
나중에 고향에 돌아가서 일을 구할 때
도움이 **될 것 같아서요.**
ကားပြင်သင်တန်း တက်ပြီးပြန်လာတာ။ နောက်ကျ ဌာနေပြန်ပြီး အလုပ်ရှာတဲ့အခါ အထောက်အကူဖြစ်မယ် ထင်လို့လေ။

리한 저도 그 수업을 듣고 싶은데
그 수업은 어때요?
ကျွန်တော်လည်း အဲဒီအတန်း နားထောင်ချင်လို့၊ အဲဒီ အတန်း ဘယ်လိုနေလဲ။

투안 지금 하는 일과 비슷해서
**이해하기 쉬워요.**
အခုလုပ်နေတဲ့ အလုပ်နဲ့ နီးစပ်တော့ နားလည်ရ လွယ်တယ်။

리한 아, 그래요? 어떻게 신청해요?
အော်၊ တကယ်လား။ ဘယ်လိုလျှောက်ရလဲ။

투안 홈페이지에서 **신청하면 돼요.**
home page ထဲမှာ လျှောက်ရင် ရတယ်။

> **-(으)ㄹ 것 같다**
> (ကြိယာ)မယ်နဲ့တူတယ်။
> တစ်စုံတစ်ယောက်ရဲ့ အတွေးအခေါ်၊ အပြုအမူကို ခန့်မှန်းတဲ့အခါ သုံးတယ်။
> - 비가 올 것 같아요. 우산을 가져가세요.
>   မိုးက ရွာမယ်နဲ့ တူတယ်။ ထီးယူသွားပါ။
> - 너무 바빠서 여행을 못 갈 것 같아요.
>   အရမ်း အလုပ်များလို့ ခရီးသွားဖြစ်မယ် မထင်ဘူး။

> **-(으)면 되다** (ကြိယာ) ရင် ရတယ်။
> သတ်မှတ်ချက်တစ်ခုအနေနဲ့ လုပ်ရှားမှု သို့မဟုတ် အခြေအနေသာ ရှိရင် အဆင်ပြေတယ် ပြည့်စုံတယ်ဆိုတဲ့ အဓိပ္ပါယ်ဖြစ်ပါတယ်။
> - 오전 9시까지 오시면 돼요.
>   မနက် ၉နာရီအရောက် လာရင် ရတယ်။
> - 여기에서 길을 건너면 됩니다.
>   ဒီကနေ လမ်းကူးရင် ရပါတယ်။



တစ်ခါ၊ ရီဟာန်နှင့် ထူအန်းတို့က အောက်ပါအတိုင်း စကားပြောထားတယ်။ သေချာနားထောင်ပြီး လိုက်ဆိုပြီးရင် အောက်က မေးခွန်းတွေ ဖြေကြည့်ကြရအောင်။

1. 투안 씨는 무슨 교육을 받아요?
   ထူအန်းက ဘာသင်တန်း တက်နေတာလဲ။

2. 그 수업은 어떻게 신청해요?
   အဲဒီ အတန်းက ဘယ်လို လျှောက်ရတာလဲ။

정답 1. 자동차 정비 교육을 받아요. 2. 홈페이지에서 신청해요.

## 어휘 2 စကားပြော ၂ — 교육 ပညာရေး



ပညာရေးနဲ့ ပတ်သက်သော စာလုံးများရှာကြည့်ရအောင်။



교육
ပညာရေး

한국어 교육 과정 (초급, 중급, 고급)
컴퓨터 교육과정 (초급, 중급, 고급)
태권도 교육과정 (초급, 중급, 고급)

과정
သင်တန်း


수업
အတန်း



과목
ဘာသာရပ်



일정
အချိန်ဇယား



기관
ဌာန


교실
စာသင်ခန်း



자격증
သင်တန်းလက်မှတ်



개강
သင်တန်းစရက်



종강
သင်တန်းပြီးဆုံးရက်



အပေါ်ကဝေါဟာရတွေကို မကြည့်ဘဲမေးခွန်းများကို ဖြေပါ။

**1. 그림에 맞는 단어를 〈보기〉에서 골라 대화를 완성하세요.**
ပုံနဲ့ ကိုက်ညီသော ဝေါဟာရကို (ဥပမာ) ထဲက ရွေးပြီး စကားပြော စာကြောင်းကို ဖြည့်စွက်ပါ။

1) 가: 어떻게 오셨어요? ဘာကိစ္စနဲ့လာတာလဲ။
나: 한국어 __________을 듣고 싶어요.

2) 
가: 어떤 __________이 있어요?
나: 한국어, 컴퓨터, 태권도 반이 있어요.
ကိုရီးယားစာ၊ကွန်ပျူတာ၊တိုက်ကွမ် ဒိုအတန်း ရှိပါတယ်။

3) 

가: 언제 __________해요?
나: 다음 주 월요일에 시작해요.
နောက်အပတ်တနင်္လာနေ့မှာ စမယ်။.

4) 가: 언제 끝나요? ဘယ်တော့ပြီးမလဲ။
나: __________은 4월 30일 이에요.

5) 
가: __________은 어디에 있어요?
나: 3층에 있어요.
၃လွှာမှာ ရှိတယ်။

| 보기 | 종강 | 교실 | 개강 | 수업 | 과정 |
|---|---|---|---|---|---|

정답 1) 수업 2) 과정 3) 개강 4) 종강 5) 교실

## 문법 2 သဒ္ဒါ ၂ –기 쉽다/어렵다




ကြိယာနဲ့ တွဲပြီး အဲဒီ အပြုအမူကို လုပ်ရမှာ လွယ်တယ် သို့မဟုတ် ခက်တယ်လို့ ပြောချင်တဲ့အခါမှာ သုံးပါတယ်။ 'V–기' ကို 'V–는 것이' လို့လည်း ပြောင်းသုံးလို့ရပါတယ်။ 'V–기' ကို '쉽다/어렵다' သာမက '좋다, 싫다, 편하다, 불편하다' စတဲ့ ဂုဏ်ရည်ပြကြိယာတွေနဲ့လည်း သုံးလို့ရပါတယ်။

- 이 한국어 책은 **배우기 쉽고** 재미있어요.
  ဒီ ကိုရီးယားစကား စာအုပ်ကတော့ သင်ယူရလွယ်ကူပြီး စိတ်ဝင်စားစရာကောင်းတယ်။
- 낮에는 일하고 밤에는 대학원에 **다니기**가 **쉽지** 않아요.
  နေ့ဘက် အလုပ်လုပ်ပြီး ညဘက်မဟာတန်း တက်ရတာမလွယ်ဘူး။

ကောင်းတယ်/မလုပ်ချင်ဘူး/အဆင်ပြေတယ်/ကသိကအောင့်ဖြစ်တယ် စတဲ့ အခြေအနေပြကြိယာတွေနဲ့လည်း တွဲသုံးနိုင်ပါတယ်။

- 이곳은 가게가 많아서 **쇼핑하기** 아주 **좋아요**. ဒီနေရာကတော့ ဆိုင်များလို့ ဈေးဝယ်ရတာ အရမ်းကောင်းတယ်။
- 이 옷은 단추가 많아서 **입기 불편해요**. ဒီ အကျႌကတော့ ကြယ်သီး များလို့ ဝတ်ရတာ အဆင်မပြေဘူး။



### 대조적 정보 နှိုင်းယှဉ်ချက်

'기 쉽다/어렵다' က တိုက်ရိုက်ဘာသာပြန်ရင်တော့ '-ခြင်းက လွယ်တယ်/ခက်တယ် ဖြစ်ပါတယ်။ စကားပြောမှာတော့ (-ရတာ)နဲ့ အဓိပ္ပါယ်တူပါတယ်။ '기' ရဲ့ အနောက်မှာ '가' ကိုလည်း တွဲသုံးလို့ရပါတယ်။

- 외국어를 **배우기**가 **쉽다**. နိုင်ငံခြားဘာသာစကားကို သင်ယူရတာ လွယ်တယ်။
- 아침에 일찍 **일어나기**가 **어렵다**. မနက်မှာ အစောကြီး အိပ်ရာထရတာ ခက်ခဲလှပါတယ်။



'–기 쉽다/어렵다' ရဲ့ အသုံးကို နားလည်ပြီလား။ ဒါဆိုရင် ဥပမာထဲကလို စကားပြောကို အဆုံးသတ်ကြည့်ပါ။

2. 대화를 읽고 맞는 대답을 고르세요. စကားပြောကို ဖတ်ပြီး အဖြေမှန်ကိုရွေးပါ။

1) 가: 저하고 같이 저녁에 컴퓨터 학원에 다닐래요?
   ကျွန်တော်နဲ့ အတူ ညနေဘက် ကွန်ပျူတာ သင်တန်း တက်မလား။
   나: 저녁에는 일을 해야 돼서 ________________.

   ① 학원에 다니기 쉬워요　　② 학원에 다니기 어려워요

2) 가: 한국어 공부를 하고 싶은데 어떤 책이 좋아요?
   ကိုရီးယားစကား လေ့လာချင်လို့ ဘယ်စာအုပ်ကောင်းလဲ။
   나: 이 책을 보세요. ________________.

   ① 이 책은 재미있어서 공부하기 쉬워요　　② 이 책은 재미있어서 공부하기 어려워요

정답 1) ② 2) ①



## 활동 အသုံးချသင်ခန်းစာများ

주말 한국어 교육에 관한 안내문입니다. 잘 읽고 질문에 답하세요.
စနေ၊တနင်္ဂနွေ ပိတ်ရက် ကိုရီးယားစကား သင်တန်းနဲ့ ပတ်သက်တဲ့ လမ်းညွှန်စာ ဖြစ်ပါတယ်။ သေချာ ဖတ်ပြီး မေးခွန်း ဖြေပါ။



### 외국인 근로자를 위한 주말 한국어 교육

- 과 정: 한국어 초급, 중급, 고급
- 개 강: 9월 2일
- 종 강: 10월 31일
- 시 간: 매주 토요일 오후 2시~4시
- 교 실: 외국인센터 503호
- 수업료: 무료
- 문 의: 031)9999-1249 (월~토 오전 9시~오후 6시)

<နိုင်ငံခြားသား အလုပ်သမားများအတွက် ပိတ်ရက် ကိုရီးယားဘာသာ သင်တန်း>

- သင်တန်း - ကိုရီးယားစာ အခြေခံ၊ ကြားအဆင့်တန်း၊ အဆင့်မြင့်တန်း
- အတန်းစရက် - ၉လပိုင်း ၂ရက်နေ့
- အတန်းပြီးဆုံးရက် - ၁၀လပိုင်း ၃၁ရက်နေ့
- အချိန် - အပတ်စဉ် စနေနေ့  နေ့လည် ၂နာရီ-၄နာရီ
- စာသင်ခန်း - နိုင်ငံခြားသားစင်တာ အခန်းနံပါတ် ၅၀၃
- သင်တန်းကြေး - အခမဲ့
- စုံစမ်းမေးမြန်းရန် - ၀၃၁)၉၉၉၉-၁၂၄၉(တနင်္လာ-စနေ မနက် ၉နာရီမှ ညနေ ၆နာရီ အထိ)

1. 어떤 과정에 대한 안내문입니까? ဘယ်သင်တန်းနဲ့ ပတ်သက်တဲ့ လမ်းညွှန်လဲ။

   ① 요리 수업　　② 한국어 수업
   ③ 태권도 수업　　④ 컴퓨터 수업

2. 읽은 내용과 같으면 ○, 다르면 X에 표시하세요.
   ဖတ်ထားတဲ့ အကြောင်းအရာနဲ့ တူရင် O, မတူရင် Xကို ရွေးပါ။

   1) 돈을 내지 않아도 됩니다.　○　X
   2) 두 달 동안 교육을 받습니다.　○　X
   3) 인터넷으로 강의를 듣습니다.　○　X
   4) 주말 오전에 수업이 있습니다.　○　X

정답 1. ② 2. 1) O 2) O 3) X 4) X

# 외국인 근로자 교육 프로그램
## နိုင်ငံခြားသားအလုပ်သမား ပညာရေး အစီအစဉ်

한국산업인력공단에서는 외국인근로자가 한국에 있는 동안 한국어 및 필요 기능을 습득하여 체류 기간이 끝나면 본국에 안정적으로 재정착할 수 있도록 지원하는 교육프로그램을 제공하고 있습니다. 각 프로그램은 현지 기업과 근로자의 수요 조사를 통해 현지 재취업 혹은 창업에 필요한 과정으로 구성되어 있습니다. 제조업, 건설업, 농축산업, 어업 등 현장에서 실용적이고 안전 관리와 관련된 기초 직무 교육뿐만 아니라 컴퓨터 수리, 자동차 정비, 용접 교육 등 전문기술능력을 향상시키는 프로그램도 포함되어 있는데, 이러한 교육은 한국산업인력공단 홈페이지에서 교육프로그램을 확인한 후 신청하면 체류 기간 동안 누구나 교육을 받을 수 있습니다.

ကိုရီးယားလူ့စွမ်းအားအရင်းအမြစ်ဖွံ့ဖြိုးရေးဌာနမှ နိုင်ငံခြားသားအလုပ်သမားများ ကိုရီးယားနိုင်ငံမှာ နေထိုင်တဲ့ ကာလအတွင်း ကိုရီးယားဘာသာစကားနဲ့ အခြား လိုအပ်တဲ့ နည်းပညာများကို သင်ယူပြီး နေထိုင်မှုကာလ ပြည့်တဲ့အခါ အမိနိုင်ငံမှာ အခိုင်အမာ ပြန်လည်ရပ်တည်နိုင်အောင် ထောက်ပံ့ပေးတဲ့ သင်တန်းအစီအစဉ်တွေကို ပံ့ပိုးပေးလျက် ရှိပါတယ်။ အစီအစဉ်တိုင်းကို အမိနိုင်ငံက လုပ်ငန်းများနဲ့ အလုပ်သမားလိုအပ်မှု စစ်တမ်းများမှတစ်ဆင့် အမိနိုင်ငံမှာ အလုပ်ပြန်ဝင်တဲ့အခါ သို့မဟုတ် လုပ်ငန်းထူထောင်တဲ့အခါ လိုအပ်တဲ့ ဘာသာရပ်နဲ့ ဖွဲ့စည်းထားပါတယ်။ ကုန်ထုတ်လုပ်ငန်း၊ ဆောက်လုပ်ရေးလုပ်ငန်း၊ စိုက်ပျိုးရေးနဲ့ မွေးမြူရေးလုပ်ငန်း၊ ငါးဖမ်းလုပ်ငန်း စသည်ဖြင့် မိခင်နိုင်ငံမှာ လက်တွေ့အသုံးဝင်ပြီး လုံခြုံရေးကြီးကြပ်မှုနဲ့ သက်ဆိုင်တဲ့ အခြေခံ အလုပ်ခွင်သင်တန်းများသာမက ကွန်ပျူတာ ပြုပြင်ခြင်း၊ မော်တော်ကား ပြုပြင်ခြင်း၊ ဝရိန်သင်တန်း စသည်ဖြင့် နည်းပညာကျွမ်းကျင်မှုကို မြှင့်တင်ပေးတဲ့ အစီအစဉ်များလည်း ပါဝင်ပါတယ်။ ဒီလို သင်တန်းများကို ကိုရီးယားလူ့စွမ်းအားအရင်းအမြစ် ဖွံ့ဖြိုးရေးဌာနရဲ့ အင်တာနက်စာမျက်နှာမှာ သင်တန်းအစီအစဉ်တွေကို ကြည့်ရှုပြီး လျှောက်ထားရင် နေထိုင်မှုကာလ အတွင်း ဘယ်သူမဆို သင်တန်းတက်ရောက်နိုင်ပါတယ်။

### 교육 프로그램 신청 သင်တန်း အစီအစဉ် လျှောက်ထားခြင်း

1) 한국산업인력공단 홈페이지(http://eps.hrdkorea.or.kr)에서 교육 프로그램 리스트를 검색하세요. (나에게 맞는 교육 프로그램 찾기)
   ကိုရီးယား လူ့စွမ်းအား အရင်းအမြစ် ဖွံ့ဖြိုးတိုက်တက်ရေး ဝန်ဆောင်မှု home page (http://eps.hrdkorea.or.kr) မှာ သင်တန်း အစီအစဉ် စာရင်းကို ရှာပါ။ (မိမိနှင့် သင့်တော်သော သင်တန်းကို ရှာပါ)

2) 각 과정별 교육 조건을 확인하세요.
   (신청 자격, 신청 시기, 교육 시기, 교육 기관, 수료 조건 등)
   သင်တန်းစဉ်အလိုက် သတ်မှတ်ချက်တွေကိုလေ့လာပါ။(လျှောက်ထားခွင့်ရှိသူ၊ လျှောက်ရမယ့်သတ်မှတ်ရက်၊သင်တန်းကာလ၊သင်တန်း ဌာန၊သင်တန်းပြီးဆုံးမှု သတ်မှတ်ချက် စသဖြင့်)

3) 신청하기 버튼을 클릭하여 본인의 인적사항을 기재한 후 전송하세요.
   လျှောက်ထားသည့် ခလုတ်ကို နှိပ်ပြီး မိမိ၏ ပုဂ္ဂိုလ်ရေး ဆိုင်ရာ အချက်အလက်များကို ဖြည့်စွက်ပြီးနောက် ပို့ပါ။

4) 사이트 방문 혹은 이메일을 통해 교육대상자로 선정되었는지 확인하세요.
   ဆိုဒ် ထဲဝင်ပြီး သို့မဟုတ် အီးမေးလ်မှတဆင့် သင်တန်းသား စာရင်းဝင်သွားပြီလားဆိုတာ စစ်ပါ။

5) 시간과 장소를 확인하여 교육에 참여하세요.
   အချိန် နှင့် နေရာကို စစ်ပြီး သင်တန်း တက်ရောက်ပါ။





မေးခွန်း ၁ နဲ့ ၂ကတော့ မေးခွန်းကို နားထောင်ပြီး အဖြေမှန်ရွေးရသော ပုစ္ဆာဖြစ်ပါတယ်။ မေးခွန်းကို နားမထောင်ခင်မှာ ပေးထားတာတွေကို အရင်ဖတ်ကြည့်ပါ။

[1~3] 질문을 듣고 알맞은 대답을 고르십시오.
မေးခွန်းကို နားထောင်ပြီး အဖြေမှန်ကို ရွေးပါ။




1. ① 열심히 공부했어요.
   ② 인터넷 강의를 들어요.
   ③ 한국어는 조금 어려워요.
   ④ 한국어 공부를 열심히 해야 돼요.

2. ① 수업은 저녁 7시에 시작돼요.
   ② 저는 매일 예습하고 복습해요.
   ③ 저녁에는 학원에 가기 어려워요.
   ④ 어제 저녁에 학원에서 만났어요.

3. ① 고급 과정은 없어요.
   ② 10월 31일에 끝나요.
   ③ 다음 주 월요일이에요.
   ④ 외국어교육센터 503호예요.



အောက်က ပုစ္ဆာတွေအတွက် မေးခွန်းကို နားထောင်ပြီး အဖြေမှန်ကို ရွေးပေးရမှာပါ။ စကားပြောကို နားမထောင်ခင် ရွေးဖို့ ပေးထားတာတွေကို အရင် ဖတ်ကြည့်ပါ။

[4~5] 하나의 이야기를 듣고 두 개의 질문에 대답하십시오.
အကြောင်းအရာ တစ်ခုကို နားထောင်ပြီး မေးခွန်း ၂ခုကို ဖြေပါ။

4. 남자는 왜 전화를 했습니까? ယောကျ်ားလေးက ဘာဖြစ်လို့ ဖုန်းဆက်ခဲ့တာလဲ။
   ① 한국어 책을 사고 싶어서 ② 한국어를 공부하고 싶어서
   ③ 한국 친구를 사귀고 싶어서 ④ 토요일에 한국어 시험이 있어서

5. 한국어 초급반 수업은 언제 있습니까? ကိုရီးယားစာ အခြခံအတန်းက ဘယ်နေ့နာရီလဲ။
   ① 토요일 10:00~12:00 ② 토요일 10:00~13:00
   ③ 토요일 11:00~13:00 ④ 토요일 11:00~14:00

### 듣기 대본 စာသား

1. 여: 투안 씨는 한국어 공부를 어떻게 해요? ထူအန်းက ကိုရီးယားစာကို ဘယ်လို လေ့လာလဲ။
2. 남: 모니카 씨, 저녁에 같이 학원에 다닐래요?
   မိုနီခါ၊ ညနေပိုင်း သင်တန်း အတူတူ တက်မလား။
3. 남: 개강이 언제예요? သင်တန်းစရက်က ဘယ်တော့လဲ။

4-5. 여: 여보세요. 한국어교육센터입니다. ဟယ်လို၊ ကိုရီးယားသင်တန်းစင်တာ ဖြစ်ပါတယ်။

남: 저, 한국어능력시험 준비 과정이 있어요?
ဟို၊ ကိုရီးယားဘာသာစကား အရည်အချင်းစစ် စာမေးပွဲအတွက် ပြင်ဆင်မှု သင်တန်း ရှိလား။

여: 네, 초급반하고 중급반이 있어요. ဟုတ်ကဲ့၊ အခြေခံ အတန်းနဲ့ ကြားအဆင့် အတန်း ရှိပါတယ်။

남: 초급반 수업은 몇 시에 해요? ညနေတန်းက ဘယ်နနာရီလဲ။

여: 토요일 오전 10시부터 오후 1시까지예요. စနေနေ့ မနက် ၁၀နာရီမှ မွန်းလွဲ ၁နာရီပါ။

정답 1. ② 2. ③ 3. ③ 4. ② 5. ②



## 확장 연습 ထပ်ဆောင်း လေ့ကျင့်ရန် 

[1~2] 다음을 듣고 이어지는 말로 알맞은 것을 고르십시오.
အောက်ပါတို့ကို နားထောင်ပြီး ဆက်လာမယ့် စကားအနေနဲ့ သင့်တော်တာကို ရွေးပါ။

1. ① 교육을 한번 받아 보세요.
   ② 처음이라 아직 잘 몰라요.
   ③ 모르는 게 있으면 연락하세요.
   ④ 시간만 맞으면 해 보고 싶네요.

2. ① 네, 앉으세요. ② 네, 저쪽 자리예요.
   ③ 아니요, 빨리 오세요. ④ 아니요, 저도 금방 왔어요.

### 확장 연습 듣기 대본 ထပ်ဆောင်း လေ့ကျင့်ရန် စာသား

1. 남: 자동차 정비 교육을 받으려고 하는데 같이 배울래요?
   ကားပြင်သင်တန်းတက်မလို့ အတူတူ တက်မလား။

2. 남: 실례합니다. 혹시 여기 앉아도 돼요?
   ကျေးဇူးပြု၍၊ ဒီမှာ ထိုင်လို့ ရလား။

정답 1. ④ 2. ①



မေးခွန်း ၁ကနေ ၃အထိကတော့ စာကြောင်းအတွက် သင့်တော်သော စာလုံးကို ရွေးရသော ပုစ္ဆာဖြစ်ပါတယ်။ သင်ယူထားသော စာလုံးတွေနဲ့ စာကြောင်းကိုဖြည့်ပါ။

[1~3] 빈칸에 들어갈 가장 알맞은 것을 고르십시오.
ကွက်လပ်ထဲ ဖြည့်ရန် အသင့်တော်ဆုံးကို ရွေးပါ။

1.
가: ___________이/가 언제예요? သင်တန်းပြီးချိန်က ဘယ်တော့လဲ။
나: 8월 30일에 끝나요. ၈လပိုင်း ၃၀ရက်နေ့မှာ ပြီးမယ်။

① 수업 ② 일정 ③ 개강 ④ 종강

2.
가: 무슨 ___________을 제일 좋아해요? ဘယ်ဘာသာကို အကြိုက်ဆုံးလဲ။
나: 역사를 제일 좋아해요. သမိုင်းကို အကြိုက်ဆုံးဖြစ်တယ်။

① 과목 ② 기관 ③ 교실 ④ 학원

3.
저는 매일 아침부터 저녁까지 회사에서 일을 합니다. 일이 끝나면 한국어를 배우러 학원에 갑니다. 일을 ___________ 학원에 다니는 것은 힘들지만 일을 할 때 도움이 많이 됩니다.

ကျွန်တော်က မနက်ကနေ ညနေအထိ ကုမ္ပဏီမှာအလုပ်လုပ်တယ်။အလုပ်ပြီးရင် ကိုရီးယားစာကို သင်ယူဖို့ သင်တန်းသွားတယ်။ အလုပ် လုပ်ရင်း သင်တန်း တက်ရတာ ပင်ပန်းပေမယ့် အလုပ်အတွက် အထောက်အကူအများကြီး ဖြစ်တယ်။

① 하러 ② 하면서 ③ 했는데 ④ 하기로



အသိပေးစာဖြစ်ပါတယ်။ အတန်းအကြောင်းနှင့် အခြေအနေကို စဉ်းစားပြီး မေးခွန်းများကို ဖြေပါ။

[4~5] 다음 글을 읽고 물음에 답하십시오. ဖတ်ပြီး မေးခွန်းများကို ဖြေဆိုပါ။

**〈무료 한국어 교실 (4개월 과정)〉** <အခမဲ့ ကိုရီးယား သင်တန်း(၄လပြတ်)>

| 시간/요일 အချိန်၊ နေ့ရက် | 토요일 စနေ | 일요일 တနင်္ဂနွေ |
|---|---|---|
| 13:00~15:00 | 초급 အခြေခံ | 중급 အလယ်တန်းအဆင့် |
| 15:00~17:00 | 초급 အခြေခံ | 고급 အဆင့်မြင့်တန်း |

* 개강: 3월 1일 သင်တန်း စရက်-၃လပိုင်း ၁ရက်
* 신청: 센터 직접 방문 (2월 15일까지) လျှောက်ထားခြင်း- စင်တာသို့တိုက်ရိုက်လာရမည်။(၂လပိုင်း ၁၅ရက်နေ့အထိ)

4. 이 안내문의 내용과 다른 것을 고르십시오. ကြော်ငြာပါအကြောင်းအရာနဲ့ မတူတာကိုရွေးပါ။.
① 수업료를 안 내도 됩니다. ② 3월에 신청할 수 있습니다.
③ 센터에 가서 신청해야 합니다. ④ 4개월 동안 한국어를 배웁니다.

5. 한국어 중급 수업은 언제 있습니까? ကိုရီးယားစာ အလယ်တန်းအဆင့် အတန်းက ဘယ်အချိန် ရှိမလဲ။
① 토요일 오후 1시~3시 ② 토요일 오후 3시~5시
③ 일요일 오후 1시~3시 ④ 일요일 오후 3시~5시

정답 1. ④ 2. ① 3. ② 4. ② 5. ③



## 확장 연습 ထပ်ဆောင်း လေ့ကျင့်ရန်

[1~3] 빈칸에 들어갈 가장 알맞은 것을 고르십시오.
ကွက်လပ်ထဲ ဖြည့်ရန် အသင့်တော်ဆုံးကို ရွေးပါ။

1.
자동차 수리 기술을 배우면 나중에 고향에서 제 가게를 열 수 있을 것 같습니다. 그래서 ________ 자격증을 따려고 합니다.
ကားပြင်ခြင်း အတတ်ပညာကို သင်ယူထားရင် နောင်ကျရင် ဇာတိမှာ ကိုယ်ပိုင်ဆိုင် ဖွင့်နိုင်မယ်လို့ ထင်ပါတယ်။ ဒါကြောင့်မို့ ကားပြင်ဆရာ အောင်လက်မှတ်ကို ယူထားမလို့ပါ။

① 정비사 ② 요리사
③ 미용사 ④ 상담사

2.
오늘은 몸이 안 좋아서 조퇴를 하고 집에 가야겠습니다. 집에서 약을 먹고 푹 ________.
ဒီနေ့ကတော့ နေလို့ သိပ်မကောင်းလို့ ရုံးစောဆင်းပြီး အိမ်ပြန်မှဖြစ်တော့မယ်။ အိမ်မှာ ဆေးသောက်ပြီး ကောင်းကောင်း နားချင်ပါတယ်။

① 쉬고 싶습니다 ② 쉰 적이 있습니다
③ 기다리고 싶습니다 ④ 기다린 적이 있습니다

3.
퇴근 후에 회사 사람들과 공장 앞에 있는 식당에 갔습니다. 그 식당에서 맛있게 ________ 을/를 했습니다.
အလုပ်အပြန် ကုမ္ပဏီက လူတွေနဲ့ စက်ရုံရှေ့က ဆိုင်ကို သွားခဲ့တယ်။ အဲဒီစားသောက်ဆိုင်မှာ အရသာရှိရှိ (ထမင်း)စားခဲ့ပါတယ်။

① 주문 ② 식사
③ 예약 ④ 배달

정답 1. ① 2. ① 3. ②



## 발음 အသံထွက်  P-11

### သေချာ နားထောင်ပြီး လိုက်ဆိုပါ။

**ကိုရီးယားဘာသာစကားမှာ အသတ်သံက အကန့်အသတ်ရှိပါတယ်။ စုစုပေါင်း အသတ်သံ (၇) ခုပဲ ရှိပါတယ်။ သွားရင်းသံဖြစ်တဲ့ 'ㄷ[t], ㅌ[tʰ], ㅅ[s], ㅆ[s'], ㅈ[ʧ], ㅊ[ʧʰ]' တွေကတော့ ဥပမာ '은' လိုမျိုး လေကို မဖောက်ထုတ်ဘဲ [ㄷ] သံနဲ့ ထွက်ပေးရပါတယ်။**

(1) 솥, 밭, 옷, 닫다, 돋보기, 있다
(2) 낫, 낮, 낯 : 빗, 빚, 빛
(3) 솥도 커요. / 가게에는 옷도 있다.



# 일요일마다 교회에 가요

တနင်္ဂနွေနေ့တိုင်း ဘုရားကျောင်း သွားတယ်။

| 학습 안내<br>သင်ရိုး အညွှန်း | □ **သင်ခန်းစာ ရည်ရွယ်ချက်** အကြိမ်ရေရှင်းပြခြင်း, ဆန္ဒပြုဆုတောင်း။<br>□ **သဒ္ဒါ** 마다, -았으면/었으면 좋겠다<br>□ **ဝေါဟာရ** ဘာသာရေး၊ ဘာသာရေးလှုပ်ရှားမှုများ<br>□ **သတင်းအချက်အလက်နှင့် ယဉ်ကျေးမှု** ဘာသာရေးပွဲတော်များ |
|---|---|



## 대화 1 စကားပြော ၁


Track 79



မိယောင်းနဲ့ လီလီမှာ ကိုးကွယ်တဲ့ ဘာသာရှိလား။ စကားပြောတွေ နားထောင်ပြီး ဘာသာရေးနဲ့ သက်ဆိုင်သော စကားလုံးများကို ရှာထုတ်ပြီး လိုက်ဆိုရအောင်။

미영 리리 씨, 일요일에 뭐 해요? 오후에 같이 쇼핑 갈래요?
လီလီ၊တနင်္ဂနွေနေ့မှာ ဘာလုပ်လဲ။ ညနေဘက်မှာ အတူတူ ဈေးဝယ်ထွက်မလား။

리리 미안해요. 일요일에는 교회에 가야 돼요.
ဆောရီးပါနော်။ တနင်္ဂနွေနေ့မှာတော့ ဘုရားကျောင်းသွားရမယ်။

미영 리리 씨, 교회에 다녀요?
လီလီ၊ဘုရားကျောင်း တက်တယ်လား။

리리 네, 일요일마다 교회에 가요.
그런데 미영 씨는 종교가 있어요?
ဟုတ်ကဲ့၊ တနင်္ဂနွေနေ့တိုင်း ဘုရားကျောင်းသွားတယ်။ ဒါနဲ့ မိယောင်းကော ကိုးကွယ်တဲ့ ဘာသာ ရှိလား။

미영 부모님이 불교 신자라서 저도 어릴 때는 절에 다녔어요. 그런데 요즘은 바빠서 잘 안 가요.
မိဘတွေကတော့ ဗုဒ္ဓဘာသာကိုးကွယ်သူတွေဖြစ်လို့ ကျွန်မလည်း ငယ်ငယ်တုန်းက ဘုန်းကြီးကျောင်းသွားဖြစ်တယ်။ ဒါနဲ့ အခုတလော အလုပ်များတာနဲ့ သိပ်မသွားဖြစ်ဘူး။

**에는 မှာတော့**

တစ်ခုခုကို အထူးပြုပြီး ပြောချင်တဲ့အခါ သုံးတယ်။

- 이번 여름에는 고향에 갈 거예요.
  ဒီတစ်ခေါက်နွေရာသီမှာတော့ မွေးရပ်မြေ သွားမှာ။
- 고향에는 부모님과 동생들이 살고 있어요.
  ဇာတိမှာကတော့ မိဘနဲ့ ညီ/ညီမတွေ နေထိုင်နေကြပါတယ်။

**(이)라서 ဖြစ်လို့**

နာမ်အနောက်မှာ လိုက်ပြီး အကြောင်းပြချက် ပေးတဲ့အခါမှာ သုံးတယ်။

- 내일부터 휴가라서 회사에 안 가요.
  မနက်ဖြန်ကစပြီး အားလပ်ရက်ဖြစ်လို့ ကုမ္ပဏီ မသွားဘူး။
- 학생이라서 열심히 공부해야 해요.
  ကျောင်းသားဖြစ်လို့ ကြိုးကြိုးစားစား စာကြည့်ရမယ်။



သေချာနားထောင်ပြီး လိုက်ဆိုပြီးရင် အောက်က မေးခွန်းတွေ ဖြေကြည့်ကြရအောင်။

1. 리리 씨는 일요일마다 뭐 해요? လီလီက တနင်္ဂနွေနေ့တိုင်း ဘာလုပ်လဲ။
2. 미영 씨는 요즘에도 절에 다녀요? မိယောင်းက အခုတလောမှာလည်း ဘုန်းကြီးကျောင်းသွားလား။

정답 1. 일요일마다 교회에 가요. 2. 아니요, 어릴 때는 다녔는데 요즘은 바빠서 잘 안 가요.



## 어휘 1 ဝေါဟာရ ၁

### 종교 ကိုးကွယ်သည့်ဘာသာ



သင့်မှာ ကိုးကွယ်သည့် ဘာသာရှိလား။ ဘယ်ဘာသာ ကိုးကွယ်လဲ။ ဘာသာရေးနဲ့ ပတ်သက်တဲ့ ဝေါဟာရတွေ ရှာကြည့်ရအောင်။



불교
ဗုဒ္ဓဘာသာ



기독교
ခရစ်ယာန်ဘာသာ



천주교(가톨릭)
ကက်သလစ်ဘာသာ



이슬람교
အစ္စလာမ်ဘာသာ



절
ဘုန်းကြီးကျောင်း



교회
ဘုရားကျောင်း



성당
ကက်သလစ် ဘုရားကျောင်း



사원(모스크)
ဗလီကျောင်း



스님
ဗုဒ္ဓဘာသာဘုန်းကြီး



목사님
ခရစ်ယာန်ဘုန်းကြီး



신부님
ကက်သလစ် ဘုန်းကြီး



이맘
အစ်စလာမ်ဘာသာဘုန်းကြီး
(အီမာမ်)



အပေါ်က ဝေါဟာရများကို မကြည့်ဘဲ မေးခွန်းများ ဖြေပါ။

1. 그림을 보고 빈칸에 알맞은 단어를 쓰세요. ပုံကိုကြည့်ပြီး ကွက်လပ်ထဲဖြည့်ရမယ့် စာလုံးကိုရေးပါ။

| 불교 | | 절 | | 1) | 천주교 | | 2) | | 신부님 |
|---|---|---|---|---|---|---|---|---|---|
| 기독교 | | 교회 | | 3) | 이슬람교 | | 4) | | 이맘 |

정답 1) 스님 2) 성당 3) 목사님 4) 이슬람 사원(모스크)



## 문법 1 သဒ္ဒါ ၁ 마다




'마다' ကတော့ အချိန်နဲ့တွဲသုံးပြီး၊ မြန်မာလို 'နာမ်+တိုင်း' နဲ့တူပါတယ်။ အမြဲတမ်း အချိန်ရဲ့နောက်မှာလိုက်ပါတယ်။

- 가: 보통 주말에는 무엇을 하세요? ပုံမှန်အားဖြင့် စနေ၊တနင်္ဂနွေပိတ်ရက်မှာ ဘာလုပ်လဲ။
  나: **주말마다** 공원에서 자전거를 타요. စနေ၊တနင်္ဂနွေပိတ်ရက်တိုင်း ပန်းခြံမှာ စက်ဘီးစီးတယ်။
- 매년 **방학마다** 우리 가족은 여행을 가요. နှစ်စဉ် အားလပ်ရက်တိုင်း ငါတို့ မိသားစုကတော့ ခရီးသွားတယ်။
- 출퇴근 시간에는 지하철이 삼 **분마다** 와요.
  ရုံးဆင်းရုံးတက်ချိန်မှာတော့ မြေအောက်ရထားက ၃မိနစ်တစ်ကြိမ်လာတယ်။



'마다' အသုံးကိုနားလည်သွားပြီဆိုရင် ပြက္ခဒိန်နဲ့ အချိန်ဇယားတွေနဲ့ စကားပြောကို ဖြည့်စွက်ပါ။

**2. 다음 표를 보고 '마다'를 사용해서 대화를 완성하세요.**
ပေးထားတဲ့ ဇယားကို ကြည့်ပြီး '마다' သုံးပြီး ကွက်လပ်ဖြည့်ပါ။

1) 교회 가는 날 (3월)

가: 수진 씨는 언제 교회에 가요?
ဆူဂျင်းက ဘယ်အချိန်ဘုရားကျောင်းသွားလဲ။

나: ______________ 가요.

2) 한국어 공부 (3월)

가: 투안 씨는 매일 한국어를 공부해요?
ထူအန်းကရော၊ ကိုရီးယားစာကို နေ့တိုင်း လေ့လာလား။

나: 네, ______________ 공부해요.

3) 지하철 시간표

| 시 | 분 | | | | | |
|---|---|---|---|---|---|---|
| 10 | 00 | 10 | 20 | 30 | 40 | 50 |
| 11 | 00 | 10 | 20 | 30 | 40 | 50 |
| 12 | 00 | 10 | 20 | 30 | 40 | 50 |
| 13 | 00 | 10 | 20 | 30 | 40 | 50 |

가: 지하철이 몇 분마다 와요? မြေအောက်ရထားက ဘယ်နှမိနစ်ကြာတိုင်းလာလဲ။

나: ______________ 와요.

정답 1) 일요일마다 2) 날마다 3) 10분마다

ထပ်ဆောင်းလေ့လာရအောင်။ '마다' ကိုသုံးပြီးကွက်လပ်ဖြည့်ပါ။

아침 이십 분

1. 가: 매일 신문을 읽어요?
   나: 네, ______________ 읽어요.

2. 가: 버스가 자주 와요?
   나: 아니요, ______________ 와요.

정답 1. 아침마다 2. 이십 분마다



## 대화 2 စကားပြော ၂

Track 80



ဂေါ်နူနဲ့ အာဒစ် ဗလီရှေ့မှာ အမှတ်မထင် တွေ့ကြတယ်။ သူတို့ ဘာအကြောင်းတွေပြောလဲ၊ စကားပြောကို နှစ်ကြိမ်နားထောင်ပြီး လိုက်ဆိုပါ။

건우 아딧 씨, 여기 **웬일이에요**?
အာဒစ်ရှိ၊ ဒီကိုဘာကိစ္စနဲ့လဲ။

아딧 여기 이슬람 사원에 기도하러 왔어요.
ဒီ အစ္စလာမ်ဘုရားကျောင်းမှာ ဝတ်ပြုဆုတောင်းဖို့လာတာ။

건우 오늘은 금요일이 아닌데 오늘도 예배를 드려요?
ဒီနေ့က သောကြာနေ့မဟုတ်ဘဲနဲ့၊ ဒီနေ့လည်း ဗလီတက်ရလား။

아딧 예배는 없는데 아버지가 좀 편찮으셔서 시간이 **있을 때마다** 와서 기도해요.
ဗလီမတက်ရပေမယ့် အဖေကသိပ်နေမကောင်းလို့ အချိန်ရတိုင်းလာပြီး ဆုတောင်းတယ်။

건우 아버지가 빨리 **좋아지셨으면 좋겠네요**. 저도 기도할게요.
အဖေ မြန်မြန်ပြန်ကောင်းစေချင်ပါတယ်။ ၊ ငါလည်း ဆုတောင်းပေးပါမယ်။

**웬일이에요? ဘာကိစ္စနဲ့လဲ။**
တစ်ဖက်သူရဲ့ အပြုအမူကို ကြိုတင်မမှန်းဆနိုင်ခဲ့ဘူးဆိုတာကို ဖော်ပြပါတယ်။
- 가: 여기는 웬일이에요?
  ဒီကိုဘာကိစ္စနဲ့လဲ။
  나: 동생 생일 선물을 사러 왔어요.
  ငါ့ညီမလေးအတွက် မွေးနေ့လက်ဆောင် ဝယ်ဖို့လာခဲ့တာ။

**-(으)ㄹ 때마다 တဲ့အခါတိုင်း**
'-(으)ㄹ 때' + '마다' နှစ်ခု ပေါင်းသုံးတာက ထပ်ခါထပ်ခါ ဖြစ်ပေါ်နေတဲ့ လှုပ်ရှားမှု အခြေအနေကို ဖော်ပြတာပါ။
- 저는 피곤할 때마다 커피를 마셔요.
  ကျွန်တော်ကတော့ ပင်ပန်းတဲ့အခါတိုင်း ကော်ဖီ သောက်တယ်။



သေချာနားထောင်ပြီး လိုက်ဆိုပြီးရင် အောက်က မေးခွန်းတွေ ဖြေကြည့်ကြရအောင်။

1. 건우 씨와 아딧 씨는 어디에서 만났어요? ဂေါ်နူနဲ့ အာဒစ်တို့ ဘယ်မှာတွေ့ခဲ့တာလဲ။
2. 아딧 씨는 왜 이슬람 사원에 왔어요? အာဒစ်က ဘာကြောင့် အစ္စလာမ်ဘုရာကျောင်းကို လာတာလဲ။

정답 1. 두 사람은 이슬람 사원에서 만났어요. 2. 아버지가 좀 편찮으셔서 기도하러 왔어요.

**Tip 격음화** သံပြင်းပြောင်းခြင်း

ဗျည်း 'ㄱ, ㄷ, ㅂ, ㅈ' တို့တွေဟာ 'ㅎ' နဲ့တွေ့ရင် [ㅋ, ㅌ, ㅍ, ㅊ] အဖြစ် ပြောင်းသည်။

| 받침 ㄱ, ㄷ, ㅂ, ㅈ, + ㅎ → [ㅋ, ㅌ, ㅍ, ㅊ] | 받침 ㅎ + ㄱ, ㄷ, ㅂ, ㅈ → [ㅋ, ㅌ, ㅍ, ㅊ] |
|---|---|
| 예) 입학[이팍], 축하해요[추카해요] | 예) 좋겠어요[조케써요], 그렇지요[그러치요] |



## 어휘 2 စကားပြော ၂ 종교 활동 ဘာသာရေးလှုပ်ရှားမှုများ



ဘာသာရေးဆိုင်ရာ လှုပ်ရှားမှုများနဲ့ ပတ်သက်တဲ့ ဖော်ပြချက်တွေကို ရှာကြည့်ရအောင်။



믿다
ယုံကြည်ကိုးကွယ်သည်။



기도하다
ဆုတောင်းသည်။




신자(교인)
ဘာသာရေးကိုင်းရှိုင်းသူ



예불을 드리다
ဘုရားရှိခိုးသည်။



예배를 드리다
ဘုရားဝတ်ပြုသည်။



미사를 드리다
(ကတ်သလစ်)
ဘုရားဝတ်ပြုသည်။




찬불가/성가를 부르다
ဘုရားသီချင်းဆိုသည်။



불전/헌금을 내다
ဝတ္ထု/ငွေ လှူသည်



성지 순례를 가다
ဘုရားဖူး ထွက်သည်။




불경
ဘုရားစာ




성경
ခရစ်ယာန်ကျမ်းစာ




코란
အစ္စလာမ်ကျမ်းစာ



သင်ယူထားသော စာလုံးတွေကို သုံးပြီး မေးခွန်းများကို ဖြေကြည့်ပါ။

1. 그림을 보고 알맞은 말을 연결하세요. ပုံကိုကြည့်ပြီး သင့်တော်သော စာနဲ့ဆက်ပေးပါ။

 ①  ②  ③  ④  ⑤ 

㉠ 불전/헌금을 내다 ㉡ 성가를 부르다 ㉢ 기도하다 ㉣ 믿다 ㉤ 성지 순례를 가다


정답 ① ㉢ ② ㉡ ③ ㉣ ④ ㉤ ⑤ ㉠

## 문법 2 သဒ္ဒါ ၂ -았으면/었으면 좋겠다


G25-2

**မျှော်လင့်တာ/ဆန္ဒရှိတာကို ဖော်ပြတဲ့ သဒ္ဒါအသုံး ဖြစ်ပါတယ်။**

- 가: 투안 씨는 올해 소원이 뭐예요? ထူးအန်း ဒီနှစ်ထဲမှာ ဖြစ်ချင်တဲ့ ဆန္ဒကဘာလဲ။
  나: 저는 돈을 많이 **벌었으면 좋겠어요**. ကျွန်တော်ကတော့ ပိုက်ဆံအများကြီးရရင် ကောင်းမှာပဲ။
- 날씨가 너무 더워요. 시원한 물 한 잔 **마셨으면 좋겠어요**.
  ရာသီဥတုက အရမ်းပူတယ်။ ရေအေးအေးလေး တစ်ခွက်လောက် သောက်လိုက်ရရင် ကောင်းမှာပဲ။
- 우리 가족이 항상 **건강했으면 좋겠다**. ငါတို့မိသားစုအမြဲတမ်း ကျန်းကျန်းမာမာ ရှိနေရင်ကောင်းမှာပဲ။



'-았으면/었으면 좋겠다' ကို နားလည်ပြီလား။ ဒါဆိုရင် ဥပမာထဲက သင့်တော်တဲ့ စကားလုံးကို ရွေးပြီး ဝါကျကို ဖြည့်စွက်ပါ။

2. 빈칸에 맞는 표현을 <보기>에서 골라 '-았으면/었으면 좋겠다'를 사용해서 문장을 완성하세요.
'-았으면/었으면 좋겠다' ကိုသုံးပြီးဥပမာပေးထားတဲ့ အထဲက စာလုံးတွေကိုရွေးပြီး စာကြောင်းဖြည့်ပါ။.

1) 내일 제주도로 여행을 갈 거예요. 제주도 날씨가 ______________________.

2) 제 소원은 가족이 건강한 것이에요. 우리 가족이 모두 ______________________.

3) 사람들이 식당에서 담배를 안 ______________________.

**보기** 피우다 건강하다 좋다

**정답** 1) 좋았으면 좋겠어요 2) 건강했으면 좋겠어요 3) 피웠으면 좋겠어요

'-았으면/었으면 좋겠다' ကိုသုံးပြီး စာကြောင်းဖြည့်ပါ။

한국어를 잘하다 빨리 밥을 먹다 좀 쉬다

1. 어제 늦게까지 일을 해서 피곤해요. 내일은 ______________________.
2. 아침을 못 먹어서 배가 너무 고프네요. ______________________.
3. 일 년 동안 한국어를 배웠지만 잘 못해요. ______________________.

**정답** 1. 좀 쉬었으면 좋겠어요 2. 빨리 밥을 먹었으면 좋겠어요 3. 한국어를 잘했으면 좋겠어요



## 활동 အသုံးချသင်ခန်းစာများ

〈보기〉처럼 이야기해 보세요. ဥပမာလိုမျိုး စကားပြောကြည့်ပါ။

보기



이슬람교
အစ်စလာမ်



금요일
သောကြာနေ့

가: 리리 씨는 종교가 있어요?
လီလီမှာ ကိုးကွယ်တဲ့ ဘာသာရှိလား။
나: 네, 저는 이슬람교 신자예요.
ဟုတ်ကဲ့၊ ကျွန်မကတော့ အစ္စလာမ်ဘာသာ ယုံကြည်ကိုးကွယ်သူပါ။
가: 이슬람 사원에 자주 가요?
ဗလီဘုရားကျောင်းမကြာမကြာသွားလား
나: 네, 금요일마다 가요.
ဟုတ်ကဲ့၊ သောကြာနေ့တိုင်း သွားပါတယ်။

1)



천주교 ကက်သလစ်ဘာသာ



주말 စနေ၊တနင်္ဂနွေ

2)



불교 ဗုဒ္ဓဘာသာ



토요일 စနေ

3)



기독교 ခရစ်ယာန်



시간이 있을 때
အချိန်ရတိုင်း



정답 1) 가: 리리 씨는 종교가 있어요?
나: 네, 저는 천주교 신자예요.
가: 성당에 자주 가요?
나: 네, 주말마다 가요.

2) 가: 리리 씨는 종교가 있어요?
나: 네, 저는 불교 신자예요.
가: 절에 자주 가요?
나: 네, 토요일마다 가요.

3) 가: 리리 씨는 종교가 있어요?
나: 네, 저는 기독교 신자예요.
가: 교회에 자주 가요?
나: 네, 시간이 있을 때마다 가요.





# 종교 행사 ဘာသာရေးပွဲတော်များ



## 석가탄신일 ဘုရားဖွားမြင်တော်မူသောနေ့

석가탄신일은 부처님이 태어나신 것을 기념하는 날입니다. 한국에서는 음력 4월 8일을 석가탄신일로 정했는데 이날은 국가 공휴일이라서 학교나 회사에 가지 않아도 됩니다. 석가탄신일이 가까워지면 불교 신자들은 집이나 절에서 등을 만들어서 나무에 매달고 석가탄신일 저녁에 등에 불을 밝힙니다.

ဘုရားဖွားမြင်တော်မူသောနေ့ကတော့ မြတ်စွာဘုရားဖွားမြင်လာသောနေ့ကိုအမှတ်တရ ကျင်းပသောနေ့ဖြစ်ပါတယ်။ ကိုရီးယားမှာတော့ ရိုးရာ ပြက္ခဒိန် ၄လပိုင်း ၈ရက်နေ့ကို ဘုရားဖွားမြင်သောနေ့လို့သတ်မှတ်ထားပြီး ဒီနေ့ဟာ အစိုးရ ရုံးပိတ်ရက်ဆိုတော့ ကျောင်း၊ အလုပ် သွားစရာမလိုပါ။ ဘုရားဖွားမြင်သောနေ့နီးလာရင် ဗုဒ္ဓဘာသာ ကိုးကွယ်သူများက အိမ်မှာပဲဖြစ်ဖြစ် ဘုန်းကြီးကျောင်းမှာပဲဖြစ်ဖြစ် အလှမီးပုံးလေးတွေလုပ်ပြီး သစ်ပင်မှာချိတ်ဆွဲပြီး ပွဲတော်နေ့ ညနေမှာ မီးထွန်းကြပါတယ်။



## 크리스마스 ခရစ်စမတ်

크리스마스는 천주교와 기독교의 가장 큰 행사 중의 하나로 예수님이 태어나신 것을 기념하는 날입니다. 그러나 현재는 종교가 없는 사람들도 크리스마스를 축제처럼 즐깁니다. 12월이 되면 사람들은 크리스마스트리를 만들고 카드를 주고받습니다. 그리고 아이들에게는 크리스마스 선물을 주기도 합니다.

ခရစ်စမတ်ကတော့ ကက်သလစ်နဲ့ ခရစ်ယာန် ဘာသာရဲ့ အကြီးဆုံး ပွဲတော်ထဲက တစ်ခုအနေနဲ့ ယေရှုခရစ်တော် မွေးတဲ့နေ့ကို အမှတ်ရတဲ့နေ့ဖြစ်ပါတယ်။ ဒါပေမဲ့ လက်ရှိမှာတော့ ဘာသာမဲ့တွေလည်း ခရစ်စမတ်ကို ပျော်ပွဲရွှင်ပွဲလိုမျိုးနဲ့ပျော်ကြပါတယ်။ ၁၂လပိုင်း ရောက်ရင် လူတွေက ခရစ်စမတ် သစ်ပင်ကိုပြုလုပ်ပြီး အချင်းချင်း ကဒ်လေးတွေ ပေးကြပါတယ်။ နောက်ပြီး ကလေးတွေကို ခရစ်စမတ် လက်ဆောင်လည်းပေးပါတယ်။ နောက်ပြီး ကလေးတွေကို ခရစ်စမတ် လက်ဆောင်လည်းပေးပါတယ်။



## 부활절 ယေရှုခရစ်တော် အသက် ပြန်ရှင်လာသော အမှတ်တရနေ့ ပွဲတော်

부활절은 예수님이 부활하신 것을 기념하는 날입니다. 천주교나 기독교 신자들은 이날 달걀에 예쁜 그림을 그려서 서로 나누어 먹습니다. 달걀은 새로운 생명이 태어나는 것을 의미하기 때문에 부활절에 달걀을 먹기 시작했다고 합니다.

ဒီပွဲကတော့ ယေရှုခရစ်တော် အသက်ပြန်ဝင်လာသောနေ့ကို အမှတ်ရတဲ့နေ့ဖြစ်ပါတယ်။ ကက်သလစ်နဲ့ ခရစ်ယာန် ယုံကြည်ကိုးကွယ်သူတွေကတော့ အဲဒီနေ့မှာ ကြက်ဥလေးတွေကို ပုံလှလှလေးတွေခြယ်ပြီး အချင်းချင်းဖလှယ်ပြီးစားပါတယ်။ ကြက်ဥကတော့ အသစ်ပြန်လည် မွေးဖွားလာခြင်းကို အဓိပ္ပါယ်ဆောင်တဲ့အတွက် အဲဒီပွဲကစပြီး ကြက်ဥ စားခဲ့ကြတယ်လို့ ဆိုကြပါတယ်။



## 라마단 အစာရှောင်ပွဲ

라마단은 아랍어로 '더운 달'이라는 뜻으로 이슬람에서는 9번째 달인 9월을 말합니다. 이슬람교에서는 9월을 '코란'이 내려진 신성한 달로 여기는데 한 달 동안 해가 떠 있는 낮 시간에는 음식과 물을 먹지 못합니다. 그리고 이 기간에는 코란을 읽고 특별 예배를 하는 등 절제를 해야 합니다.

အစာရှောင်ပွဲကတော့ အာရပ်ဘာသာနဲ့ဆို ပူသောလမင်း ဆိုတဲ့ အဓိပ္ပါယ်နဲ့ အစ္စလာမ်မှာတော့ ၉ကြိမ်မြောက်လ ၉လပိုင်းကို ဆိုလိုပါတယ်။ အစ္စလာမ်မှာတော့ ၉လပိုင်းကို ကိုရမ်ကျမ်းစာအရ သန့်ရှင်းစင်ကြယ်သော လမင်းလို့ မှတ်ယူထားပြီး ၁လလုံး နေမင်းရှိနေသောအချိန်မှာ အစားအသောက်နှင့် ရေကို မသုံးဆောင်ပါဘူး။ နောက်ပြီး အဲဒီကာလအတွင်းမှာ ကိုရမ်ကျမ်းစာကို ဖတ်ပြီး အထူးဝတ်ပြုပွဲ စတာတွေကို လုပ်ရပါတယ်။



# EPS-TOPIK 듣기 EPS-TOPIK အကြား စာမေးပွဲ



မေးခွန်း ၁ကနေ ၃ကတော့ ပုံကိုကြည့်ပြီး အဖြေမှန်ရွေးရမှာဖြစ်ပါတယ်။ နားမထောင်ခင်မှာ မေးခွန်းကို အရင်ဆုံးဖတ်ထားပါ။

[1~3] 다음 그림을 보고 알맞은 대답을 고르십시오.
အောက်ပါ ပုံကို ကြည့်ပြီး အဖြေမှန်ကို ရွေးပါ။

Track 81

1. 이 사람은 어디에 다닙니까? ဒီလူ ဘယ်မှာ ဘုရားကျောင်းတက်လဲ။

① ② ③ ④

2. 이 사람은 무엇을 합니까? ဒီလူ ဘာလုပ်နေလဲ။

① ② ③ ④

3. 이 사람은 누구입니까? ဒီလူ ဘယ်လူလဲ။

① ② ③ ④



စကားပြောကို နားထောင်ပြီး အဖြေမှန်ကို ရွေးရမှာ ဖြစ်ပါတယ်။ စကားပြောကို နားမထောင်ခင်မှာ အရင်ဆုံး မေးခွန်းများကို ဖတ်ကြည့်ထားပါ။

[4~5] 질문을 듣고 알맞은 대답을 고르십시오.
နားထောင်ပြီး အဖြေမှန်ရွေးပါ။

4. ① 일요일마다 가요.
② 오늘은 일요일이에요.
③ 주말에는 집에서 쉬어요.
④ 성당에서 미사를 드려요.

5. ① 성경을 읽으세요.
② 저는 불교 신자예요.
③ 저는 매일 기도해요.
④ 성지 순례를 갔다 왔어요.

### 듣기 대본 စာသား

1. ① 남: 절에 다닙니다. ဘုန်းကြီးကျောင်းသွားပါတယ်။
   ② 남: 성당에 다닙니다. ဘုရားကျောင်းသွားပါတယ်။
   ③ 남: 교회에 다닙니다. ခရစ်ယာန် ဘုရားကျောင်း သွားပါတယ်။
   ④ 남: 이슬람 사원에 다닙니다. ဗလီတက်ပါတယ်။
2. ① 여: 기도를 합니다. (ခရစ်ယာန်)ဝတ်ပြုဆုတောင်းသည်
   ② 여: 코란을 읽습니다. ကိုရမ်ကျမ်းစာ ဖတ်သည်။
   ③ 여: 찬송가를 부릅니다. ဘုရားသီချင်းဆိုသည်။
   ④ 여: 성지 순례를 갑니다. ဘုရားဖူးထွက်သည်။
3. ① 남: 스님입니다. ဘုန်းကြီးဖြစ်ပါတယ်။
   ② 남: 신부님입니다. ကတ်သလစ်ဘုန်းကြီးဖြစ်ပါတယ်။
   ③ 남: 목사님입니다. ခရစ်ယာန် ဘုန်းကြီး ဖြစ်ပါတယ်။
   ④ 남: 이맘입니다. အစ္စလာမ် ဘုန်းကြီး ဖြစ်ပါတယ်။
4. 남: 모니카 씨는 언제 성당에 가요? မိုနီခါက ဘယ်အချိန် ဘုရားကျောင်း သွားလဲ။
5. 여: 민수 씨는 종교가 뭐예요? မင်ဆူက ဘယ်ဘာသာ ကိုးကွယ်လဲ။

정답 1. ② 2. ① 3. ① 4. ① 5. ②



### 확장 연습 ထပ်ဆောင်း လေ့ကျင့်ရန် L-25

1. 다음을 듣고 이어지는 말로 알맞은 것을 고르십시오.
   အောက်ပါတို့ကို နားထောင်ပြီး နောက်မှာ ဆက်လာမယ့် စကားအနေနဲ့ သင့်တော်တာကို ရွေးပါ။

   ① 맞아요. 힘들었어요.
   ② 그래요? 보고싶겠어요.
   ③ 그래요? 재미있겠어요.
   ④ 맞아요. 아주 좋았어요.

### 확장 연습 듣기 대본 ထပ်ဆောင်း လေ့ကျင့်ရန် စာသား

1. 여: 이번 주부터 주말마다 기타를 배우기로 했어요.
   ဒီအပတ်က စပြီး စနေ၊ တနင်္ဂနွေ ပိတ်ရက်တိုင်း ဂစ်တာတီး သင်ဖို့ ဆုံးဖြတ်ပြီးပြီ။

정답 1. ③



## EPS-TOPIK 읽기 EPS-TOPIK အဖြေ စာမေးပွဲ



မေးခွန်း ၁ နဲ့ ၂ကတော့ ပုံကြည့်ပြီး စာကြောင်းမှန်ရွေးရသော မေးခွန်းဖြစ်ပါတယ်။ သင်ထားသောစာလုံးများနှင့် အဖြေမှန်ရွေးပါ။

[1~2] 다음 그림을 보고 알맞은 문장을 고르십시오. ပုံကိုကြည့်ပြီးစာကြောင်းမှန်ရွေးပါ။

1.



① 절입니다.
② 성당입니다.
③ 사원입니다.
④ 교회입니다.

2.




① 헌금을 내고 있습니다.
② 성경을 읽고 있습니다.
③ 예불을 드리고 있습니다.
④ 찬송가를 부르고 있습니다.



ဒီမှာ ဘာသာရေး လုပ်ရှားမှုဆိုင်ရာ အကြောင်းအရာများပေးထားပါတယ်။ လေ့လာထားသော သဒ္ဒါနှင့် ဝေါဟာရများကို အသုံးချပြီး မေးခွန်းများ ဖြေပါ။

[3~5] 다음 질문에 답하십시오. အောက်ပါ မေးခွန်းများကို ဖြေဆိုပါ။

3. 이 사람은 종교가 무엇입니까? သူ ကိုးကွယ်တဲ့ ဘာသာက ဘာလဲ။

> 아딧 씨는 인도네시아 사람입니다. 하루에 5번씩 기도를 드립니다. 시간이 나면 이태원에 있는 사원에 갑니다. 코란을 열심히 읽고 공부합니다.
> အာဒစ်ကတော့ အင်ဒိုနီးရှားလူမျိုး ဖြစ်ပါတယ်။ တစ်နေ့ ငါးကြိမ် ဆုတောင်းမှု ပြုပါတယ်။ အချိန်ရရင် အီထယ်ဝမ်မှာရှိတဲ့ ဘုရားကျောင်းသို့ သွားပါတယ်။ ကိုရမ်ကျမ်းစာကို ကြိုးကြိုးစားစားဖတ်ပြီး လေ့လာပါတယ်။

① 불교 ② 기독교 ③ 천주교 ④ 이슬람교

4. 이 사람이 교회에서 하지 않는 것을 고르십시오. သူ ခရစ်ယာန် ဘုရားကျောင်းမှာ မလုပ်တဲ့ အရာကို ရွေးပါ။

> 수피카 씨는 일요일마다 교회에 갑니다. 하나님께 기도를 드리고 성경을 읽습니다. 목사님의 말씀을 듣고 찬송가도 부릅니다. 예배가 끝나면 교회 친구들과 점심을 먹습니다.
> ဆုဖီခါကတော့ တနင်္ဂနွေနေ့တိုင်း ဘုရားကျောင်းသို့ သွားပါတယ်။ ဘုရားသခင်ထံ ဆုတောင်းပြီး ဘုရားစာရွတ်ပါတယ်။ ခရစ်ယာန် ဘုန်းကြီးရဲ့ စကားကိုနားထောင်ပြီး ဘုရားသီချင်းလည်း သီဆိုပါတယ်။ ဆုတောင်းဝတ်ပြုပြီးရင် ဘုရားကျောင်း သူငယ်ချင်းများနဲ့ နေ့လယ်စာ စားပါတယ်။

① 기도를 합니다. ② 성경을 읽습니다. ③ 찬송가를 부릅니다. ④ 성지 순례를 갑니다.

5. 이 사람에 대한 설명으로 알맞지 않은 것을 고르십시오.
ဒီလူနဲ့ ပတ်သက်ပြီး ရှင်းပြထားတဲ့ အထဲက မမှန်တာကို ရွေးပါ။

> 저는 불교 신자입니다. 절에 자주 가지는 못하지만 기도를 하고 싶을 때 가까운 절에 가서 예불을 드립니다. 지난 주말에도 기도를 하러 절에 갔습니다. 고향에 계신 아버지가 조금 편찮으신데 빨리 건강해 지셨으면 좋겠습니다.
> ကျွန်တော်ကတော့ ဗုဒ္ဓဘာသာ ယုံကြည်ကိုးကွယ်သူဖြစ်ပါတယ်။ ဘုန်းကြီးကျောင်းသို့ ခဏခဏ မသွားဖြစ်ပေမဲ့ ဆုတောင်းချင်တဲ့ အခါတော့ နီးစပ်ရာဘုန်းကြီးကျောင်းသို့ သွားပြီး ဆုတောင်းပါတယ်။ ပြီးခဲ့တဲ့ စနေ၊တနင်္ဂနွေပိတ်ရက်ကလည်း ဆုတောင်းဖို့ ဘုန်းကြီးကျောင်းကို သွားခဲ့ပါတယ်၊ ဇာတိမှာ ရှိတဲ့ အဖေ သိပ်နေမကောင်းလို့ မြန်မြန် နေကောင်းစေချင်ပါတယ်။

① 자주 절에 갑니다. ② 부처님을 믿습니다.
③ 아버지가 편찮으십니다. ④ 지난 주말에 절에 가서 기도를 했습니다.

정답 1. ③ 2. ④ 3. ④ 4. ④ 5. ①



## 확장 연습 ထပ်ဆောင်း လေ့ကျင့်ရန်

[1~3] 빈칸에 들어갈 가장 알맞은 것을 고르십시오.
ကွက်လပ်ထဲ ဖြည့်ရန် အသင့်တော်ဆုံးကို ရွေးပါ။

1.

요즘 미용 기술을 배우고 있습니다. 자격증을 __________ 미용실에서 일하고 싶습니다.
အခုတလော အလှပြင် ပညာကို သင်ယူနေပါတယ်။ သင်တန်းလက်မှတ် ရရင် အလှပြင်ဆိုင်မှာ အလုပ်လုပ်ချင်ပါတယ်။

① 사면 ② 따면
③ 들으면 ④ 신청하면

2.

출근 시간에는 버스보다 지하철을 이용하는 것이 더 __________. 거리에 자동차가 많아서 길이 막히기 때문입니다.
ရုံးတက်ချိန်မှာတော့ ဘတ်စ်ကားထက် မြေအောက်ရထားကို သုံးတာက ပိုပြီး မြန်ပါတယ်။ လမ်းမှာ ကားတွေ များလို့ လမ်းပိတ်တဲ့အတွက်ကြောင့်ပါ။

① 비쌉니다 ② 빠릅니다
③ 춥습니다 ④ 바쁩니다

3.

우리 고향은 여름에 35도까지 기온이 ________ 습도는 낮은 편입니다. 그래서 생각보다 덥지 않습니다.
ငါတို့ မွေးရပ်မြေကတော့ နွေဘက်မှာ ၃၅ဒီဂရီအထိ အပူချိန် တက်လာပေမယ့် စိုထိုင်းဆကတော့ နည်းသလိုရှိပါတယ်။ ဒါကြောင့် ထင်သလောက် မပူဘူး။

① 늘어나지만 ② 올라가려면
③ 늘어나려면 ④ 올라가지만






## 발음 အသံထွက်




### သေချာ နားထောင်ပြီး လိုက်ဆိုပါ။

အသတ်ရှိတဲ့ စကားလုံးရဲ့ အနောက်မှာ ဗျည်းမဲ့ စကားလုံး ရှိရင် အဲဒီ အသတ်ဟာ နောက်က စကားလုံးရဲ့ ဗျည်းနေရာကို ဝင်သွားပြီး အသံထွက်ပါတယ်။

(1) 음악, 녹음, 한국어
(2) 옷이, 꽃을, 낮에
(3) 꽃이 피었어요. / 음악이 재미있어요. / 책을 사요.



# 밥을 먹은 후에 이 약을 드세요
ကိုရီးယားကား ကြည့်ရင်း စာလေ့လာတယ်။

**학습 안내**
သင်ရိုး အညွှန်း

- □ **သင်ခန်းစာ ရည်ရွယ်ချက်** ရှေ့နောက် အလုပ်အကြောင်း ပြောခြင်း၊ တားမြစ်ခြင်း။
- □ **သဒ္ဒါ** -(으)ㄴ 후에, -지 마세요
- □ **ဝေါဟာရ** ခန္ဓာကိုယ် အစိတ်အပိုင်း၊ ရောဂါလက္ခဏာ။
- □ **သတင်းအချက်အလက်နှင့် ယဉ်ကျေးမှု** ရှေးဦးသူနာပြု ကိရိယာအစုံ



## 대화 1 စကားပြော ၁






ဘာရူက ဘာကြောင့်ဆေးခန်းသွားတာလဲ။အပြန်အလှန်စကားပြောကို အရင်ဆုံးနားထောင်ပြီး လိုက်ဆိုပါ။

약사　어떻게 오셨어요? ဘာကူညီပေးရမလဲ။

바루　머리가 아파서 왔어요.
ခေါင်းကိုက်လို့ လာခဲ့တာပါ။

약사　언제**부터** 아프셨어요?
ဘယ်အချိန်ကတည်းက ကိုက်တာလဲ။

바루　어젯밤부터요.
어제 저녁에 회식이 있어서 술을 좀 마셨어요.
မနေ့ညကတည်းက။ မနေ့က ညနေကုမ္ပဏီ ညစာစားပွဲ ရှိလို့ အရက်နည်းနည်းသောက်လိုက်တယ်။

약사　아, 술 **때문에** 그런 것 같네요.
밥을 **먹은 후에** 이 약을 드세요.
အာ၊ အရက်ကြောင့် ဖြစ်တာထင်တယ်။ ထမင်းစားပြီး ဒီဆေးသောက်ပါ။

바루　네, 감사합니다. အိုကေ၊ ကျေးဇူးတင်ပါတယ်။

**부터 မှစပြီး/ကတည်းက**
- 아침부터 배가 아파요.
  မနက်ကတည်းက ဗိုက်အောင့်တယ်။
- 내일부터 다른 공장에서 일해요.
  မနက်ဖြန်မှ စပြီး တစ်ခြား စက်ရုံမှာ အလုပ်လုပ်မယ်။

**때문에 ကြောင့်**
နာမ်အနောက်မှာဆို '때문에' တွဲပြီးလိုက်တယ်။
- 비 때문에 길이 복잡해요.
  မိုးကြောင့် လမ်းကြပ်တယ်။
- 일 때문에 바빠요.
  အလုပ်ကြောင့် မအားရဘူး။



သချာနားထောင်ပြီး လိုက်ဆိုပြီးရင် အောက်က မေးခွန်းတွေ ဖြေကြည့်ကြရအောင်။

1. 바루 씨는 왜 약국에 갔어요? ဘာရူက ဘာဖြစ်လို့ ဆေးဆိုင်သွားတာလဲ။
2. 바루 씨는 언제부터 아팠어요? ဘာရူက ဘယ်အချိန်ကတည်းက နေလို့မကောင်းတာလဲ။

정답 1. 머리가 아파서 갔어요. 2. 어젯밤부터 아팠어요.

## 어휘 1 ဝေါဟာရ ၁ 신체 ခန္ဓာကိုယ်အစိတ်အပိုင်း

ခန္ဓာကိုယ်အစိတ်အပိုင်းနဲ့ ပတ်သက်သောဝေါဟာရတွေကြည့်ရအောင်။






အပေါ်က ဝေါဟာရတွေကို မကြည့်ဘဲ ကွက်လပ်ဖြည့်ပါ။

1. 그림에 맞는 표현을 〈보기〉에서 골라 넣으세요.
ပုံနဲ့ ကိုက်ညီသော စာလုံးကို (ဥပမာ)ထဲက ရွေးပြီးထည့်ပါ။




정답 1) 머리 2) 눈 3) 코 4) 귀 5) 목 6) 어깨 7) 팔 8) 배 9) 다리 10) 발

# 문법 1 သဒ္ဒါ ၁　　-(으)ㄴ 후에


G26-1

ဒီသဒ္ဒါကတော့ တစ်စုံတစ်ခုကို လုပ်ပြီးတဲ့နောက်ကိုဖော် ပြတဲ့အခါ သုံးတယ်။ ကြိယာနဲ့ပဲ တွဲသုံးလို့ရတယ်။

| 자음 (ဗျည်း) → **-은 후에** | 모음 (သရ), 자음 (ဗျည်း) 'ㄹ' → **-ㄴ 후에** |
| --- | --- |
| 먹다 → 먹**은 후에** | 보다 → 본 **후에**<br>만들다 → 만든 **후에** |

- 가: 언제 영화 보러 갈 거예요? ဘယ်တော့ ရုပ်ရှင်သွားကြည့်မလဲ။
  나: 일이 **끝난 후에** 가려고 해요. အလုပ်ဆင်းပြီးနောက်မှ သွားမလို့။
- 가: 이 약은 언제 먹어야 돼요? ဒီ ဆေးက ဘယ်တော့ သောက်ရမှာလဲ။
  나: 밥을 **먹은 후에** 드세요. ထမင်း စားပြီးနောက်မှ သောက်ပါ။

'후에' ကိုနာမ်နဲ့ တွဲပြီးလည်း 'N + 후에' ဆိုပြီး သုံးလို့ရပါတယ်။

- **식사 후에** 다시 회의를 하겠습니다. စားပြီးနောက်မှ အစည်းအဝေး ပြန်လုပ်ပါ့မယ်။
- **퇴근 후에** 뭐 할 거예요? အလုပ်ဆင်းပြီးနောက် ဘာလုပ်မှာလဲ။



## 대조적 정보 နှိုင်းယှဉ်ချက်

'-(으)ㄴ 후에' -ပြီးနောက်မှာ'ဆိုတဲ့ ပုံစံမှာလည်း '-(으)ㄴ' ဆိုတဲ့ စကားဆက် ထည့်ရခြင်းက မြန်မာစကားနဲ့ ကွာခြားပါတယ်။ အသတ်ပါခြင်း မပါခြင်းကလည်း အမြဲ သတိပြုရမယ့် အချက်တစ်ခုပါပဲ။

- 서울에 **도착한 후에** 전화해 줘요. ဆိုးလ်ကို ရောက်ပြီးရင် ဖုန်းဆက်ပါ။
- 점심을 **먹은 후에** 다시 일합시다. နေ့လယ်စာ စားပြီးရင် ထပ်ပြီး အလုပ်လုပ်ကြစို့။



'-(으)ㄴ 후에' နားလည်ပြီလား။ သင့်တော်သော အဖြေကိုရွေးပြီးကွက်လပ်ဖြည့်ပါ။

2. 대화에 맞는 대답을 고르세요. စကားပြောအတွက်သင့်တော်သော အဖြေကိုရွေးပါ။

1) 쇼핑하다 → 영화를 보다

가: 우리 주말에 뭐 할까요? ငါတို့ ပိတ်ရက်မှာ ဘာလုပ်ကြမလဲ။
나: ____________________.

① 쇼핑을 한 후에 영화를 봐요
② 영화를 본 후에 쇼핑을 해요

2) 밥을 먹다 → 약을 먹다

가: 이 약은 어떻게 먹어야 돼요? ဒီ ဆေးက ဘယ်လိုသောက်ရတာလဲ။
나: ____________________.

① 밥을 먹은 후에 드세요
② 약을 먹은 후에 밥을 드세요

정답 1) ① 2) ①



## 대화 2 စကားပြော ၂

Track 83



မိုနီခါ ဆေးဆိုင်ကိုသွားခဲ့တယ်။ သူမ ဘာကြောင့် သွားခဲ့တာလဲ။ စကားပြောကို နှစ်ခေါက် နားထောင်ပြီး လိုက်ဆိုပါ။

약 사 어디가 불편하세요?
ဘယ်နေရာက မသက်မသာဖြစ်နေပါသလဲ။

모니카 오늘 아침부터 배가 아프고 설사를 해요.
ဒီနေ့ မနက်ကတည်းက ဗိုက်က အောင့်ပြီး ဝမ်းသွားနေတယ်။

약 사 아침에 뭘 드셨어요?
မနက်က ဘာသုံးဆောင်ခဲ့လဲ။

모니카 빵하고 우유를 먹었는데 우유 맛이 좀 이상했어요.
ပေါင်မုန့်နဲ့ နွားနို့ သောက်ခဲ့ပေမယ့် နွားနို့ အရသာကနည်းနည်း ထူးဆန်းနေတယ်။

약 사 그럼 이 약을 드세요. 그리고 오늘은 유제품은 먹지 마세요.
ဒါဆို ဒီဆေး သောက်ပါ။ နောက်ပြီး ဒီနေ့တော့ နို့ထွက်အစားအသောက်တွေ မစားပါနဲ့။

모니카 네, 알겠습니다.
ဟုတ်ကဲ့၊ သိပါပြီ။

> **뭘 ဘာကို**
> 뭐 + 를 = 뭐를 = 뭘
> · 주말에 뭘 했어요?
> ဝိတ်ရက်မှာ ဘာကို လုပ်ခဲ့လဲ။
> · 뭘 먹고 싶어요?
> ဘာကို စားချင်လဲ။

> **그리고 နောက်ပြီး**
> ဝါကျ နှစ်ကြောင်းကို အစဉ်လိုက် ဆက်သွယ်တဲ့အခါ သုံးပါတယ်။
> · 저는 빵을 좋아해요. 그리고 라면도 좋아해요.
> ကျွန်မပေါင်မုန့် ကြိုက်တယ်။ နောက်ပြီး ခေါက်ဆွဲပြုတ်လည်း ကြိုက်တယ်။.



သေချာနားထောင်ပြီး လိုက်ဆိုပြီးရင် အောက်က မေးခွန်းတွေ ဖြေကြည့်ကြရအောင်။

1. 모니카 씨는 아침에 뭘 먹었어요? မိုနီခါ မနက်က ဘာစားခဲ့လဲ။
2. 모니카 씨는 언제부터 배가 아팠어요? မိုနီခါ ဘယ်အချိန်ကတည်းက ဗိုက်အောင့်နေတာလဲ။

정답 1. 빵하고 우유를 먹었어요. 2. 아침부터 배가 아팠어요.



## 어휘 2 စကားပြော ၂ 증상 ရောဂါလက္ခဏာများ



ရောဂါလက္ခဏာနဲ့ ပတ်သက်သော အသုံးအနှုန်းတွေကို ကြည့်ရအောင်။



감기에 걸리다
အအေးမိသည်။



열이 나다
ကိုယ်ပူသည်။



기침을 하다
ချောင်းဆိုးသည်။



콧물이 나다
နှာရည်ယိုသည်။



배탈이 나다
ဗိုက်ရစ်နာသည်။



설사를 하다
ဝမ်းလျှောသည်။



소화가 안 되다
အစာမကြေဖြစ်သည်။



토하다
အန်သည်။



손을 베다
လက်ကိုရှသည်။



손을 데다
လက်အပူလောင်သည်။



발목을 삐다
ခြေဆစ်လွဲသည်။



다리가 부러지다
ခြေထောက်ကျိုးသည်။



သင်ထားသော စာလုံးတွေနဲ့ ဖြေကြည့်ပါ။

1. 그림을 보고 알맞은 말을 연결하세요. ပုံကိုကြည့်ပြီးကိုက်ညီသောစကားနဲ့တွဲပေးပါ။

①  ②  ③  ④  ⑤ 

㉠ 소화가 안 되다 ㉡ 손을 데다 ㉢ 기침을 하다 ㉣ 열이 나다 ㉤ 발목을 삐다

정답 ① ㉡ ② ㉣ ③ ㉠ ④ ㉤ ⑤ ㉢



## 문법 2 သဒ္ဒါ ၂ -지 마세요




ဒီအသုံးကတော့ နားထောင်သူကို တားမြစ်တဲ့အခါမှာ သုံးတဲ့ အသုံးဖြစ်ပါတယ်။ တစ်စုံတစ်ဦး၏အပြုအမူကို တားမြစ်သော သဒ္ဒါအသုံးဖြစ်သည့်အတွက် ကြိယာနဲ့ပဲတွဲသုံးပါတယ်။

· 가: 열이 많이 나니까 오늘은 밖에 **나가지 마세요.**
  ကိုယ် အရမ်း ပူနေလို့ ဒီနေ့တော့ အပြင် မထွက်ပါနဲ့။
  나: 네, 알겠습니다. ဟုတ်ကဲ့၊ သဘောပေါက်ပါပြီ။
· 가: 소화가 안 되고 계속 토해요. အစာမကြေပဲ ဆက်တိုက် အန်တယ်။
  나: 이 약을 드세요. 그리고 오늘은 밥을 **먹지 마세요.**
  ဒီဆေးသောက်ပါ။ နောက်ပြီး ဒီနေ့တော့ ထမင်းမစားပါနဲ့။



'-지 마세요' ရဲ့ အသုံးကို နားလည်သွားရင် ဥပမာ ဝါကျတွေကို ပြီးအောင် ဖြည့်ကြည့်ရအောင်။

2. 대화를 읽고 맞는 대답을 고르세요. စကားပြောကို ဖတ်ပြီး မှန်ကန်သော အဖြေကို ရွေးပါ။

1) 가: 발목을 삐었어요. ခြေဆစ်လွဲသွားတယ်။
   나: ______________________.

① 많이 걷지 마세요 ② 밥을 먹지 마세요

2) 가: 열이 나고 콧물이 많이 나요. ကိုယ်ပူပြီး နှာရည် အများကြီး ယိုတယ်။
   나: ______________________.

① 오늘은 밖에 나가지 마세요 ② 오늘은 기침을 하지 마세요

정답 1) ① 2) ①



ထပ်ဆောင်းလေ့လာကြည့်ရအောင်။ '-지 마세요' ကို သုံးပြီး ကွက်လပ် ဖြည့်ပါ။

1. 가: 빵하고 우유를 먹었는데 배가 아파요.
   나: 이 약을 드세요. 그리고 오늘은 우유를 ______________________.

2. 가: 출퇴근 시간에는 택시비가 너무 많이 나와요.
   나: 맞아요. 출퇴근 시간에는 택시를 ______________________.

정답 1. 드시지 마세요 2. 타지 마세요



## 활동 အသုံးချသင်ခန်းစာများ

약국에서 〈보기〉처럼 이야기해 보세요. ဆေးဆိုင်မှာ (ဥပမာ) ပေးထားသလိုမျိုး ပြောကြည့်ပါ။

보기



열이 많이 나다 ကိုယ်အရမ်းပူတယ်။

밖에 나가다
အပြင်ထွက်သည်။

환자: 열이 많이 나요.
လူနာ: ကိုယ်အရမ်း ပူတယ်။
약사: 밥을 먹은 후에 이 약을 드세요.
그리고 오늘은 밖에 나가지 마세요.
ဆေးဆိုင်: ထမင်းစားပြီး နောက်မှ ဒီ ဆေးကို သောက်ပါ။
နောက်ပြီး ဒီနေ့ အပြင် မထွက်ပါနဲ့။

1)



밥을 먹다
ထမင်း စားသည်။t



계속 토하다 ဆက်တိုက်အန်သည်။

2)



요리를 하다
ဟင်းချက်သည်။



손을 데었다 လက်အပူလောင်သည်။

3)



아이스크림을 먹다
ရေခဲမုန့်ကို စားသည်။

✕

계속 설사를 하다 ဆက်တိုက် ဝမ်းလျှောသည်။

4)



많이 걷다
လမ်းအများကြီး လျှောက်သည်။

✕

발목을 삐었다 ခြေဆစ်လွဲသွားတယ်။

정답 1) 환자: 계속 토해요.
약사: 밥을 먹은 후에 이 약을 드세요. 그리고 오늘은 밥을 먹지 마세요.
2) 환자: 손을 데었어요.
약사: 밥을 먹은 후에 이 약을 드세요. 그리고 오늘은 요리를 하지 마세요.
3) 환자: 계속 설사를 해요.
약사: 밥을 먹은 후에 이 약을 드세요. 그리고 오늘은 아이스크림을 먹지 마세요.
4) 환자: 발목을 삐었어요.
약사: 밥을 먹은 후에 이 약을 드세요. 그리고 오늘은 많이 걷지 마세요.

# 가정 비상약
## အိမ်တွင်းသုံးအရေးပေါ်ဆေး

**+ 구급함** ဆေးသေတ္တာ




**+ 약국이 문을 닫으면?** ဆေးဆိုင် တံခါးပိတ်ရင်?

늦은 밤이나 공휴일에 갑자기 약을 사야 하는데 약국이 문을 닫았으면 편의점에서도 가정 비상약을 살 수 있습니다. 편의점에는 감기약, 소화제, 진통제, 해열제, 파스, 연고와 같은 약이 있습니다.

ညကြီးမင်းကြီး၊ အစိုးရရုံးပိတ်ရက်မှာ ရုတ်တရက် ဆေးဝယ်ရမှာဖြစ်ပေမယ့် ဆေးဆိုင် ပိတ်ထားခဲ့ရင် ၂၄နာရီဆိုင်မှာပဲဖြစ်ဖြစ် အရေးပေါ်သုံးဆေးကို ဝယ်လို့ရပါတယ်။ ၂၄နာရီဆိုင်မှာတော့ အအေးမိပျောက်ဆေး၊ အစာကြေဆေး၊ အပူကျဆေး၊ ခါးကပ်ပလာစတာ၊ လိမ်းဆေးလို ဆေးမျိုးတွေ ရှိပါတယ်။


감기약
အအေးမိပျောက်ဆေး


소화제
အစာကြေဆေး


진통제
အကိုက်အခဲပျောက်ဆေး


해열제
အပူကျဆေး



# EPS-TOPIK 듣기 EPS-TOPIK အကြား စာမေးပွဲ



မေးခွန်း ၁ကနေ ၃ကတော့ ပုံကိုကြည့်ပြီး အဖြေမှန်ရွေးရမှာဖြစ်ပါတယ်။ နားမထောင်ခင်မှာ မေးခွန်းကို အရင်ဆုံးဖတ်ထားပါ။

[1~3] 다음 그림을 보고 알맞은 대답을 고르십시오.
အောက်ပါ ပုံကို ကြည့်ပြီး အဖြေမှန်ကို ရွေးပါ။




1. 
이 사람은 어디가 아픕니까? ဒီ လူက ဘယ်နေရာ နာတာလဲ။
① ② ③ ④

2. 
이 사람의 증상은 어떻습니까? ဒီ လူရဲ့ရောဂါလက္ခဏာက ဘယ်လိုလဲ၊
① ② ③ ④

3. 
이 사람은 어디를 다쳤습니까? ဒီလူ ဘယ်နေရာထိခိုက်မိတာလဲ။
① ② ③ ④



စကားပြောကို နားထောင်ပြီး အဖြေမှန်ကိုရွေးရမှာပါ။ နားမထောင်ခင်မှာ မေးခွန်းကို အရင်ဆုံး ဖတ်ထားပါ။

[4~5] 하나의 이야기를 듣고 두 개의 질문에 대답하십시오.
အကြောင်းအရာ တစ်ခုကို နားထောင်ပြီး မေးခွန်း ၂ခုဖြေပါ။

4. 여기는 어디입니까? ဒီနေရာက ဘယ်နေရာလဲ။
① 약국 ② 식당
③ 은행 ④ 백화점

5. 남자는 어디가 아픕니까? ယောကျ်ားလေးက ဘယ်နေရာက နေမကောင်းဖြစ်တာလဲ။
① 콧물이 많이 납니다. ② 머리가 아프고 열이 납니다.
③ 아침부터 소화가 안 됩니다. ④ 밥을 먹은 후에 설사를 했습니다.

### 듣기 대본 စာသား

1. ① 남: 팔이 아픕니다. လက်မောင်းအောင့်သည်။
   ② 남: 이가 아픕니다. သွားနာသည်။
   ③ 남: 머리가 아픕니다. ခေါင်းကိုက်သည်။
   ④ 남: 다리가 아픕니다. ခြေထောက် နာသည်။
2. ① 여: 토를 합니다. အန်သည်။
   ② 여: 콧물이 납니다. နှာရည်ယိုသည်။
   ③ 여: 기침을 합니다. ချောင်းဆိုးသည်။
   ④ 여: 설사를 합니다. ဝမ်းလျှောသည်။
3. ① 남: 손을 데었습니다. လက်အပူလောင်သည်။
   ② 남: 손을 베었습니다. လက်ရှသည်။
   ③ 남: 발목을 삐었습니다. ခြေထောက်ခေါက်သည်။
   ④ 남: 다리가 부러졌습니다. ခြေထောက်ကျိုးသည်။

4-5. 여: 어서 오세요. 어떻게 오셨어요? ကြိုဆိုပါတယ်။ ဘာကိစ္စနဲ့ လာတာလဲရှင်။
남: 열이 나고 머리가 아파요. ကိုယ်ပူပြီး ခေါင်းကိုက်တယ်။
여: 언제부터 열이 났어요? ဘယ်အချိန်ကတည်းက ကိုယ်ပူတာလဲ။
남: 아침부터 그랬어요. မနက်ကတည်းက ပူတာ။
여: 여기 약을 드릴게요. 밥을 먹은 후에 드세요. ဒီမှာ ဆေးပေးလိုက်မယ်။ ထမင်း စားပြီးမှ သောက်ပါ။
남: 네, 알겠습니다. ဟုတ်ကဲ့ သိပါပြီ။

정답 1. ② 2. ② 3. ① 4. ① 5. ②



### 확장 연습 ထပ်ဆောင်း လေ့ကျင့်ရန် L-26

1. 

다음 그림을 보고 질문에 알맞은 대답을 고르십시오.
ပုံကိုကြည့်ပြီး မေးခွန်းနဲ့ ကိုက်ညီသော အဖြေကို ရွေးပါ။

여기는 어디입니까? ဒီဟာ ဘယ်နေရာလဲ။

① ② ③ ④

2. 다음을 듣고 이어지는 말로 알맞은 것을 고르십시오.
နားထောင်ပြီး နောက်ဆက်လာမယ့် စကားအနေနဲ့ သင့်တော်တာကို ရွေးပါ။

① 아니요, 목도 아파요.
② 네, 어제부터 아팠어요.
③ 아니요, 약만 드시면 돼요.
④ 네, 오늘은 집에서 쉬세요.

### 확장 연습 듣기 대본 ထပ်ဆောင်း လေ့ကျင့်ရန် စာသား

1. ① 남: 약국입니다. ဆေးဆိုင်ဖြစ်ပါသည်။
   ② 남: 학교입니다. ကျောင်းဖြစ်ပါသည်။
   ③ 남: 병원입니다. ဆေးရုံဖြစ်ပါသည်။.
   ④ 남: 은행입니다. ဘဏ်ဖြစ်ပါသည်။
2. 남: 주사도 맞아야 해요? ဆေးထိုးခံရမှာလား။

정답 1. ③ 2. ③



## EPS-TOPIK 읽기 EPS-TOPIK အဖတ် စာမေးပွဲ



မေးခွန်း ၁ကနေ ၃ကတော့ ပုံကိုကြည့်ပြီး အဖြေမှန်ရွေးရမှာဖြစ်ပါတယ်။ သင်ယူထားသော စာလုံးတွေနဲ့ အသုံးတွေကို အသုံးချပြီး ဖြေကြည့်ပါ။

[1~3] 빈칸에 들어갈 가장 알맞은 것을 고르십시오. ကွက်လပ်ထဲ ဖြည့်ရန် အသင့်တော်ဆုံးကို ရွေးပါ။

1.
가: 리리 씨, 얼굴이 많이 안 좋아요. လီလီ၊ မျက်နှာက အရမ်း မကောင်းဘူး။
나: __________에 걸렸어요. 목도 아프고 열도 나요.
အအေး မိသွားတယ်။ လည်ချောင်းလည်း နာပြီး ကိုယ်လည်းပူတယ်။

① 콧물 ② 기침 ③ 감기 ④ 배탈

2.
가: 리한 씨, 제가 손을 베었는데 혹시 __________ 있어요?
ရီဟန်၊ ငါ လက်ရှသွားလို့ ဟိုလေ လိမ်းဆေးလေးများ ရှိမလား။
나: 네, 잠깐만 기다리세요. ဟုတ်ကဲ့၊ ခဏလေး စောင့်ပါ။

① 파스 ② 연고 ③ 소화제 ④ 해열제

3.
가: ______________________________?
나: 아침부터 계속 설사를 해요. မနက်ကတည်းက ဆက်တိုက် ဝမ်းသွားတယ်။

① 누가 아파요 ② 어디가 아프세요
③ 약국이 어디에 있어요 ④ 이 약은 어떻게 먹어야 돼요



မေးခွန်း ၄ကတော့ ဆေးစာဖြစ်ပြီး ၅ကတော့ စာပိုဒ်ဖြစ်ပါတယ်။ သင်ထားတာတွေကို အသုံးချပြီး ဖတ်ပြီး ဖြေပါ။ I

[4~5] 다음 질문에 답하십시오.
အောက်ပါ မေးခွန်းများ ဖြေဆိုပါ။



내복약 သောက်ဆေး

김 지 수 님
ဂင်ဂျီဆု

용법 :
ဆေးသောက်ရန် အညွှန်း

하루 3 회 2 일분
တစ်နေ့ ၃ကြိမ်၊ ၂ရက်စာ

매 식후 30 분 복용
အစာစားပြီး မိနစ် ၃၀ ခြားပြီး သောက်ရန်

1 회 1 포씩 복용
တစ်ခါသောက် တစ်ထုပ်

2014 년 6 월 12일
၂၀၁၄ ခုနှစ်၊ ဇွန်လ (၁၂)ရက်

4. 김지수 씨는 하루에 약을 몇 번 먹어야 합니까?
ဂင်ဂျီဆုက တစ်နေ့မှာ ဆေး ဘယ်နှကြိမ်သောက်ရလဲ။

① 한 번
② 두 번
③ 세 번
④ 네 번

5. 읽은 내용과 같은 것을 고르십시오. ဖတ်ထားတဲ့ အကြောင်းအရာနဲ့ တူတာကို ရွေးပါ။

반장님, 모니카예요. 오늘 너무 아파서 회사에 못 갑니다. 어제 저녁부터 배가 아프고 계속 설사를 했어요. 어제 약국에서 약을 사 먹었는데 아직도 아파요. 오늘 아침에는 열도 나서 오늘은 쉬려고 해요. 죄송합니다.
ခေါင်းဆောင်၊ မိုနီခါပါ။ ဒီနေ့ အရမ်းနေမကောင်းဖြစ်နေလို့ အလုပ် မလာနိုင်ဘူး။ မနေ့က ညနေကစပြီး ဗိုက်က အောင့်ပြီး ဆက်တိုက် ဝမ်းသွားနေတယ်။ မနေ့က ဆေးဆိုင်မှ ဆေး ဝယ်သောက်ထားပေမဲ့ အခုထိ မသက်သာသေးဘူး။ ဒီနေ့ မနက်မှာ ကိုယ်ပူလာလို့ ဒီနေ့တော့ နားမလားလို့ပါ။ အားနာပါတယ်။

① 모니카 씨는 지금 아프지 않습니다. ② 모니카 씨는 오늘 회사에 갈 것입니다.
③ 모니카 씨는 어제 약국에 못 갔습니다. ④ 모니카 씨는 어제 저녁부터 배가 아팠습니다.

정답 1. ③ 2. ② 3. ② 4. ③ 5. ④



## 확장 연습 ထပ်ဆောင်း လေ့ကျင့်ရန်

[1~2] 빈칸에 들어갈 가장 알맞은 것을 고르십시오.
ကွက်လပ်ထဲ ဖြည့်ရန် အသင့်တော်ဆုံး အဖြေကိုရွေးပါ။

1. 스트레스가 심하면 잠을 잘 못 자거나 두통이 생길 수 있습니다. 그래서 쌓인 스트레스는 꼭 ________ 합니다.
စိတ်ဖိစီးမှုများလာရင် မအိပ်နိုင်တာဖြစ်စေ ခေါင်းကိုက်တာမျိုးဖြစ်တတ်ပါတယ်။ ဒါကြောင့် ပုံနေသော စိတ်ဖိစီးမှုတွေကို မဖြစ်မနေ ဖြေဖျောက်ရပါမယ်။

① 받고　② 풀고　③ 받아야　④ 풀어야

2. 어젯밤에 갑자기 배가 너무 아팠습니다. 병원이 문을 닫은 시간이라서 같이 사는 친구와 급하게 ____로 갔습니다.
မနေ့ညက ရုတ်တရက်ကြီး ဗိုက်ကအရမ်းအောင့်ခဲ့တယ်။ ဆေးရုံတံခါးပိတ်ချိန်ဖြစ်တဲ့အတွက် အတူနေတဲ့ သူငယ်ချင်းနဲ့ အရေးပေါ်ကို သွားခဲ့တယ်။

① 상담실　② 사무실　③ 응급실　④ 휴게실

3. 다음 약 봉투에 대한 설명으로 맞는 것은 무엇입니까?
အောက်ပါ စာအိတ်နဲ့ ပတ်သက်ပြီးရှင်းလင်းချက်အနေနဲ့ မှန်တာကဘာလဲ။

복용법 ဆေးသောက်ရန် အညွှန်း

1일　3 회　3 일분
တစ်နေ့ ၃ကြိမ် ၃ရက်စာ

1회　1 포(정) တစ်ခါသောက် တစ်အိတ်(ပုံမှန်)

| | | |
|---|---|---|
| ☐ 식후 30분 စားပြီး မိနစ် ၃၀ | ☐ 식간 အစားအစာ တစ်ချိန်နှင့် တစ်ချိန်ကြား | ☐ 식후 즉시 စားပြီးပြီးချင်း |
| ☐ 식전 30분 အစာမစားမီ မိနစ် ၃၀ | ☐ 취침 전 အိပ်ရာမဝင်ခင် | ☐ 시간마다 တစ်နာရီကြား |

☐ 아침 점심 저녁 표시대로 복용
မနက်၊ နေ့လည်၊ ညနေ ပြထားတဲ့ အတိုင်း သောက်သုံးရန်

즐거운 약국

① 세 번 먹을 약이 들어 있습니다.
② 저녁에 먹는 약은 따로 있습니다.
③ 밥을 먹고 바로 약을 먹어야 합니다.
④ 이 약은 하루에 세 번씩 먹어야 합니다.

정답 1. ④ 2. ③ 3. ④




# 어디가 아프십니까?

ဘယ်နေရာက နေလို့မကောင်းတာလဲ။

**학습 안내**
သင်ရိုး အညွှန်း

- □ **သင်ခန်းစာ ရည်ရွယ်ချက်** ရောဂါအခြေအနေပြောခြင်း
  ရောဂါလက္ခဏာအကြောင်းအမေးအဖြေ
- □ **သဒ္ဒါ** -(으)면, -ㅂ/습니까, -ㅂ/습니다
- □ **ဝေါဟာရ** ဆေးရုံ၊ ဆေးကုသမှု
- □ **သတင်းအချက်အလက်နှင့် ယဉ်ကျေးမှု**
  အလုပ်သမားစင်တာ ဆေးကုသမှု လမ်းညွှန်



## 대화 1 စကားပြော ၁






အောက်ပါ စကားများကတော့ ရီဟန် နှင့်ထူအန်းတို့နှစ်ယောက်ရဲ့အပြန်အလှန်စကားများဖြစ်ပါတယ်။ အရင်ဆုံး သူတို့ ပြောတာကို နစ်ခေါက် နားထောင်ပါ။

리한 　**투안 씨, 걷는 게 왜 그래요?**
ထူအန်း၊ လမ်းလျှောက်တာ ဘယ်လိုဖြစ်တာလဲ။

투안 　**발목이 좀 아파요.**
ခြေကျင်းဝတ်က နည်းနည်း နာတယ်။

리한 　**발목을 삔 거 아니에요?**
**빨리 병원에 가 보세요.**
ခြေထောက်ခေါက်တာမဟုတ်ဘူးလား။
မြန်မြန်ဆေးရုံ သွားပြပါ။

투안 　**이 근처에 병원이 있어요?**
ဒီ အနီးအနားမှာ ဆေးရုံ ရှိလား။

리한 　**지하철역 근처에 정형외과가 있어요.**
မြေအောက်ရထားဘူတာ အနီးမှာ အရိုးအထူးကုဌာန ရှိတယ်။

투안 　**내일 아침에도 아프면 가 볼게요. 고마워요.**
မနက်ဖြန်မနက်အထိ နာနေရင် သွားကြည့်မယ်။ ကျေးဇူးပဲနော်။

> **게**
> 것이 = 게 (ကြိယာ)(ကြိယာ) "ရတာ"ဟာများသောအားဖြင့် စကားပြောမှာအသုံးပြုတယ်။
> · 한국 음식을 만드는 게 힘들어요.
> ကိုရီးယား အစားအစာကို ပြုလုပ်ရတာ ခဲယဉ်းတယ်။
> · 물을 많이 마시는 게 건강에 좋아요.
> ရေကိုအများကြီး သောက်တာ ကျန်းမာရေးအတွက် ကောင်းတယ်။

> **근처에** အနီးအနားမှာ
> · 우리 집 근처에 식당이 많아요.
> ငါတို့ အိမ်နားမှာ စားသောက်ဆိုင် များတယ်။
> · 회사 근처에 은행이 있어요?
> ကုမ္ပဏီနားမှာ ဘဏ်ရှိလား။

သချာနားထောင်ပြီး လိုက်ဆိုပြီးရင် အောက်က မေးခွန်းတွေ ဖြေကြည့်ကြရအောင်။

1. 투안 씨는 어디가 아파요? ထူအန်း ဘယ်နေရာက နာတာလဲ။
2. 정형외과가 어디에 있어요? အရိုးအထူးကုဌာနက ဘယ်မှာရှိတာလဲ။

정답 1. 발목이 아파요. 2. 지하철역 근처에 있어요.







## 어휘 1 ဝေါဟာရ ၁ 병원 ဆေးရုံ

ဆေးရုံနဲ့ ပတ်သက်တဲ့ ဝေါဟာရတွေ ရှာဖွေကြည့်ရအောင်။

| 내과<br>ကိုယ်တွင်းရောဂါကုဌာန/ ဆေးဝါးကုသမှုဌာန | 정형외과<br>အရိုးအထူးကုဌာန | 치과<br>သွားနှင့်ခံတွင်းဌာန | 안과<br>မျက်စိအထူးကုဌာန |
|---|---|---|---|
| 이비인후과<br>နားနှာခေါင်းလည်ချောင်းဌာန | 피부과<br>အရေပြားအထူးကုဌာန | 산부인과<br>သားဖွားမီးယပ်ဌာန | 소아과<br>ကလေးအထူးကုဌာန |



အပေါ်ကဝေါဟာရတွေကို မကြည့်ဘဲ ဖြေကြည့်ပါ။



1. 그림을 보고 알맞은 표현을 연결하세요. ပုံကိုကြည့်ပြီးသင့်တော်သော အသုံးအနှုန်းနဲ့ တွဲပါ။

① •     • ㉠ 정형외과

② •     • ㉡ 산부인과

③ •     • ㉢ 이비인후과

④ •     • ㉣ 치과

정답 ①㉢ ②㉣ ③㉡ ④㉠

## 문법 1 သဒ္ဒါ ၁ –(으)면




ဒီသဒ္ဒါကတော့ အခြေအနေကိုဖော်ပြသော စကားဆက်ဖြစ်ပါတယ်။ သူကတော့ ပြု/ဖြစ်ခြင်းပြ ကြိယာ၊ ဂုဏ်ရည်ပြကြိယာ နှစ်မျိုးလုံးနှင့် တွဲသုံးနိုင်သည်။

| 자음 (ဗျည်း) → **-으면** | 모음 (သရ), 자음 (ဗျည်း) 'ㄹ' → **-면** |
|---|---|
| 읽다 → 읽**으면** | 만나다 → 만**나면**<br>살다 → 살**면** |

· 가: 머리가 좀 아프네요. ခေါင်း နည်းနည်း ကိုက်နေတယ်။
  나: 많이 **아프면** 일찍 들어가서 쉬세요. အရမ်း ကိုက်နေရင် စောစော ပြန်နားပါ။
· 가: 시간이 **있으면** 같이 영화 보러 갈래요? အချိန် ရှိရင် အတူ ရုပ်ရှင် ကြည့်ဖို့ သွားမလား။
  나: 좋아요. 요즘 무슨 영화가 재미있어요? ကောင်းသားပဲ။ အခုတလော ဘာ ရုပ်ရှင်က ကောင်းသလဲ။

'ㅂ' အသတ်ဖြင့် ဆုံးသော '춥다 (အေးသည်)', '덥다 (ပူသည်)', '맵다 (စပ်သည်)' တို့နှင့် တွဲသုံးတဲ့ အခါကျရင်တော '추우면, 더우면, 매우면' ကဲ့သို့ ပုံစံပြောင်းသုံးရတယ်။

· **더우면** 에어컨을 켜세요. ပူရင် အဲရားကွန်း ဖွင့်ပါ။
· 음식이 **매우면** 말씀하세요. အစားအသောက် စပ်ရင် ပြောပါ။
· 가: 사무실이 춥네요. ရုံးခန်းက အေးတယ်နော်။
  나: **추우면** 문을 닫을까요? အေးရင် တံခါးပိတ်လိုက်ရမလား။



'-(으)면' ရဲ့ အသုံးကို နားလည်ရင် ဥပမာဝါကျတွေကို ပြီးအောင် ဖြည့်ကြည့်ရအောင်။

2. 빈칸에 맞는 표현을 〈보기〉에서 골라 '-(으)면'을 사용해서 문장을 완성하세요.
'-(으)면' သုံး၍ ပေးထားသော ဥပမာတွေထဲက မှန်သော အသုံးအနှုန်းကို ရွေးပြီး ကွက်လပ်ဖြည့်ပါ။.

1) 감기에 ____________ 내과에 가 보세요.

2) 얼굴에 뭐가 ____________ 피부과에 가 보세요.

3) 다리가 ____________ 정형외과에 가야 해요.

보기 | 나다 | 걸리다 | 부러지다

정답 1) 걸리면 2) 나면 3) 부러지면



### 유용한 표현 အသုံးဝင်သော အသုံးအနှုန်းများ

아무거나 잘 먹어요. ဘာဖြစ်ဖြစ် ကောင်းကောင်းစားတယ်။

가: 좋아하는 한국 음식이 뭐예요? ကြိုက်နှစ်သက်တဲ့ ကိုရီးယားအစားအစာက ဘာလဲ။
나: **아무거나 잘 먹어요. ဘာဖြစ်ဖြစ် ကောင်းကောင်းစားတယ်။**



## 대화 2 စကားပြော ၂

Track 86



ထူအန်း ဆေးရုံသွားခဲ့တယ်။ အရင်ဆုံး ထူအန်းနဲ့ ဆရာဝန်နဲ့ ပြောတဲ့ စကားတွေကို နှစ်ကြိမ်နားထောင်ပါ။

의 사　어디가 아프십니까?
ဘယ်နေရာကနာတာလဲ။(ဘာဖြစ်တာလဲ။)

투 안　어제 계단에서 넘어져서 발목을 다쳤어요.
မနေ့က လှေကားကနေ ပြုတ်ကျပြီး ခြေကျင်းဝတ်ကို ထိခိုက်မိတယ်။

의 사　어디 봅시다. 여기를 누르면 어떻습니까?
ကြည့်ရအောင်၊ ဒီနေရာကို နှိပ်ရင် ဘယ်လိုနေလဲ။

투 안　아, 너무 아파요.
အား၊ အရမ်း နာတယ်။

의 사　발목을 삐었네요. 먹는 약과 파스를 처방해 드리겠습니다. 그런데 발목을 삐었을 때는 많이 걷지 말고 앉아서 쉬어야 합니다. 그리고 찜질을 해 주는 것이 좋습니다.
ခြေဆစ်လွဲသွားတာပါ၊ သောက်ဆေးနဲ့ ကပ်ဆေးပလာစတာ ပေးလိုက်မယ်။ ဒါနဲ့ ခြေဆစ်လွဲနေချိန်မှာ လမ်းအများကြီး မလျှောက်ဘဲ ထိုင်ပြီး နားရပါမယ်။ နောက်ပြီး ကြပ်ထုပ်လည်း ထိုးပေးရင် ကောင်းတယ်။

투 안　네, 알겠습니다.
အိုကေ၊ သိပါပြီ။

**어디 봅시다 မှန်းစမ်း**
ကြည့်ရအောင်။တစ်စုံတစ်ခုကို မျက်လုံးနဲ့ ကြည့်ပြီး စစ်ရမယ့် အခြေအနေမျိုးမှာ သုံးတယ်။

- 어디 봅시다. 열이 많이 나네요.
  ကြည့်ရအောင်၊ ကိုယ်တွေအရမ်းပူနေတာပဲ။
- 어디 봅시다. 그림을 참 잘 그렸네요.
  မှန်းစမ်းကြည့်ရအောင်၊ ပုံကောင်းကောင်း ဆွဲတတ်တာပဲ။

**그런데 ဒါနဲ့ စကားမစပ်**
အနောက်က အကြောင်းအရာကို ပြောင်းပြောချင်တဲ့အခါ သုံးတယ်။

- 리한 씨, 어제 도와줘서 고마워요. 그런데 리한 씨 동생은 요즘 뭐 해요?
  ရီဟန်၊ မနေ့က ကူညီပေးတဲ့အတွက် ကျေးဇူးတင်ပါတယ်။ ဒါနဲ့ ရီဟန့်ညီလေးကော အခုတလော ဘာတွေ လုပ်နေလဲ။
- 나는 늦게 잠을 자요. 그런데 내 방 친구는 일찍 자요.
  ငါကတော့ နောက်ကျမှ အိပ်တယ်။ ဒါနဲ့ ငါ့ အခန်းဖော်ကတော့ စောစော အိပ်တယ်။



ထူအန်းနဲ့ ဆရာဝန်နဲ့ ပြောတဲ့ စကားတွေကို နားထောင်ပါ။ သေချာနားထောင်ပြီး လိုက်ဆိုပြီးရင် အောက်က မေးခွန်းတွေ ဖြေကြည့်ကြရအောင်။

1. 투안 씨는 왜 발목을 다쳤어요? ထူအန်းက ဘာကြောင့် ခြေထောက် ထိခိုက်မိတာလဲ။
2. 발목이 다쳤을 때에는 어떻게 해야 해요? ခြေကျင်းဝတ် ထိခိုက်မိတဲ့အခါ ဘယ်လိုလုပ်ရမလဲ။

정답　1. 계단에서 넘어져서 발목을 다쳤어요.
2. 많이 걷지 말고 앉아서 쉬어야 해요.



## 어휘 2 စကားပြော ၂ 치료 ဆေးကုသမှု

ဆေးကုသမှုဆိုင်ရာ အသုံးအနှုန်းများကို ရှာကြည့်ရအောင်။



치료를 하다
ဆေးကုသည်။

주사를 맞다
ဆေးထိုးသည်။



수술하다
ခွဲစိတ်သည်။



약을 먹다
ဆေးသောက်သည်။



소독을 하다
ပိုးသတ်သည်။



연고를 바르다
လိမ်းဆေးလိမ်းသည်။



밴드를 붙이다
ပလာစတာကပ်သည်။



파스를 붙이다
ကပ်ဆေးပလာစတာ ကပ်သည်။

찜질을 하다
ရေခဲအိတ်၊ ရေနွေးအိတ်ကပ်သည်။



붕대를 감다
ပတ်တီးစည်းသည်။



주무르다
နှိပ်သည်။



깁스를 하다
ကျောက်ပတ်တီးစည်းသည်။



အပေါ်ကဝေါဟာရတွေကို မကြည့်ဘဲ ဖြေကြည့်ပါ။

1. 그림에 맞는 표현을 〈보기〉에서 골라 넣으세요. ပုံနှင့် ကိုက်ညီသော အသုံးကို(ဥပမာ)ထဲက ရွေးပြီး ထည့်ပါ။



1) ____ 2) ____ 3) ____
4) ____ 5) ____ 6) ____

보기: 소독을 하다 붕대를 감다 주사를 맞다 찜질을 하다 주무르다 파스를 붙이다

정답 1) 소독을 하다 2) 붕대를 감다 3) 주사를 맞다 4) 파스를 붙이다 5) 찜질을 하다 6) 주무르다

## 문법 2 သဒ္ဒါ ၂ -ㅂ/습니까, -ㅂ/습니다




ကြိယာ သို့မဟုတ် ဂုဏ်ရည်ပြကြိယာနဲ့ တွဲပြီး ဝါကျအဆုံးသတ်အနေနဲ့ သုံးတဲ့ ယဉ်ကျေးတဲ့ အသုံးဖြစ်ပါတယ်။ အစည်းအဝေး သို့မဟုတ် လူအများရှေ့မှာ ပြောဆိုတဲ့အခါ၊ သတင်းပို့တဲ့အခါ စသည်ဖြင့် အများနဲ့ သက်ဆိုင်တဲ့ နေရာတွေမှာ မေးမြန်း/ရှင်းပြတဲ့အခါ သုံးပါတယ်။

| 자음 (ဗျည်း) → -습니까, -습니다 | 모음 (သရ), 자음 (ဗျည်း) 'ㄹ' → -ㅂ니까, -ㅂ니다 |
|---|---|
| 먹다 → 먹**습니까**? 먹**습니다** | 만나다 → 만**납니까**? 만**납니다**<br>만들다 → 만**듭니까**? 만**듭니다** |

· 가: 어떻게 **오셨습니까**? ဘာကိစ္စနဲ့ လာပါသလဲ၊(ဘာကူညီပေးရမလဲ)။
  나: 감기에 걸려서 **왔습니다**. အအေးမိသွားလို့ လာခဲ့ပါတယ်။
· 지금부터 다음 회의 일정을 **말씀드리겠습니다**.
  အခုချိန်ကစပြီး နောက်အစည်းအဝေး အချိန်ဇယားကို တင်ပြပါ့မယ်။

နာမ်နဲ့ တွဲသုံးလို့လဲရတယ်။ နာမ်နဲ့ တွဲသုံးတဲ့အခါ နောက်မှာ ဖြစ်သည် ဆိုတာတော့ ထည့်ပေးရမယ်။ 'N+**입니다**'.

· 저분이 우리 **사장님입니다**. ထိုသူသည် ငါတို့ သူဌေးဖြစ်ပါတယ်။
· 제 고향은 **양곤입니다**. ကျွန်တော့် ဇာတိကတော့ ရန်ကုန် ဖြစ်ပါတယ်။



### 대조적 정보 နှိုင်းယှဉ်ချက်

'-ㅂ/습니까' & '-ㅂ/습니다' ကတော့ အသတ်ပါခြင်း မပါခြင်းအပေါ် မူတည်ပြီး ခွဲခြားသုံးရခြင်းက မြန်မာစကားနဲ့ အကြီးမားဆုံး ကွာခြားချက်ကြီးပါပဲ။ မေးခွန်းအဆုံးသတ်နဲ့ ရိုးရိုးဝါကျ အဆုံးသတ် မတူကြတာကတော့ မြန်မာစကားမှာလည်း ရှိပါတယ်။



'-ㅂ/습니까, -ㅂ/습니다' ရဲ့ အသုံးကို နားလည်ရင် ဥပမာဝါကျတွေကို ပြီးအောင် ဖြည့်ကြည့်ပါ။

2. 대화를 읽고 맞는 답을 고르세요. စကားပြောကို ဖတ်ပြီး အဖြေမှန်ရွေးပါ။

1) 가: 어떻게 오셨습니까? ဘာကိစ္စနဲ့လာပါသလဲ။
   나: ______________________.

① 주사를 맞았습니다　　② 배가 아프고 설사를 합니다

2) 가: 발목을 삐면 어떻게 해야 합니까? ခြေဆစ်လွဲသွားရင် ဘာလုပ်ရမလဲ။
   나: ______________________.

① 이비인후과에 가야 합니다　　② 정형외과에 가 보는 게 좋습니다

정답 1) ② 2) ②



## 활동 အသုံးချသင်ခန်းစာများ

1. 〈보기〉처럼 이야기해 보세요. ဥပမာလိုမျိုး စကားပြောကြည့်ပါ။







가: 목이 아프면 어디에 가야 합니까?
　　လည်ချောင်း နာရင် ဘယ်ကို သွားရမလဲ။

나: 이비인후과에 가야 합니다.
　　နား၊ နှာခေါင်း၊ လည်ချောင်းဌာနကို သွားရမယ်။

1)






ကိုယ်တွင်းရောဂါကုဌာန/ဆေးဝါးကုသမှုဌာန

2)






အရိုးအထူးကုဌာန

3)






မျက်စိအထူးကုဌာန

4)






အရေပြားအထူးကုဌာန

**정답**
1) 가: 배가 아프면 어디에 가야 합니까?
　 나: 내과에 가야 합니다.
2) 가: 다리가 부러지면 어디에 가야 합니까?
　 나: 정형외과에 가야 합니다.
3) 가: 눈이 아프면 어디에 가야 합니까?
　 나: 안과에 가야 합니다.
4) 가: 얼굴에 뭐가 나면 어디에 가야 합니까?
　 나: 피부과에 가야 합니다.

# 외국인 근로자 센터 진료 안내
## နိုင်ငံခြားသားအလုပ်သမားစင်တာ ဆေးကုသပေးခြင်း လမ်းညွှန်

서울 시내 외국인 근로자 센터에서도 외국인 근로자를 위한 의료 서비스를 제공하고 있습니다. 서울 시내에 위치한 7개의 외국인 근로자 센터에서는 내과, 이비인후과, 치과뿐만 아니라 한방진료나 종합검진까지 가능합니다. 외국인 근로자라면 누구나 외국인 근로자 센터의 의료 서비스를 이용할 수 있습니다.
ဆိုးလ်မြို့က နိုင်ငံခြားသားအလုပ်သမားစင်တာမှာလည်း နိုင်ငံခြားသားအလုပ်သမားအတွက် ကျန်းမာရေး ဝန်ဆောင်မှုများ လုပ်ပေးနေပါသည်။ ဆိုးလ်မြို့ထဲမှာ ရှိတဲ့ နိုင်ငံခြားသား အလုပ်သမားစင်တာ ၇ခုမှာတော့ ကိုယ်တွင်းရောဂါကုဌာန/ဆေးဝါးကုသမှုဌာန၊ နား၊ နှာခေါင်း၊ လည်ချောင်း၊ သွားနှင့် ခံတွင်း သာမက တိုင်းရင်းဆေး၊ အနောက်တိုင်းဆေး ပေါင်းပြီး ကုသမှုများ၊ အထွေထွေကျန်းမာရေး ဆေးစစ်မှုခြင်းများပါ လုပ်နိုင်ပါသည်။ နိုင်ငံခြားသား အလုပ်သမား မည်သူမဆို စင်တာ၏ ကျန်းမာရေး ဝန်ဆောင်မှုကို ခံစားခွင့် ရှိပါသည်။

| 센터명<br>စင်တာ နာမည် | 위치<br>နေရာ | 진료일<br>ဆေးကုသရက် | 의료지원 내용<br>ဆေးဘက်ဆိုင်ရာအထောက်အပံ့ | 시설<br>ဝန်ဆောင်မှုဆိုင်ရာ |
|---|---|---|---|---|
| 성동 | 성동구 홍익동 147-22 | 매월 둘째,<br>넷째 일요일 | 내과, 치과 무료진료<br>수시 종합검진, 독감백신접종 | 단독시설 |
| 금천 | 금천구 가산동 144-3 | 수시 | 보건소, 병원 연계 여성외국인 부인과 검진,<br>위생교육 및 위생용품, 구충제 지원 | 가산종합<br>사회복지관 내 |
| 은평 | 은평구 녹번동 산28-6 | 수시 | 긴급 의료기관에 통역활동가 대동 지원,<br>건강검진 등 자원단체연계 진료 지원 | 녹번종합<br>사회복지관 내 |
| 강동 | 강동구 성내동 508-1 | 수시 | 유방암 검진, 건강검진 | 성내종합<br>사회복지관 내 |
| 성북 | 성북구 하월곡동<br>222-5 | 매월 둘째,<br>넷째 일요일 | 한방진료, 치과, 수시 종합건강검진 | 월곡종합<br>사회복지관 내 |
| 양천 | 양천구 목동 931 | 매월 넷째 일요일 | 한방진료, 이비인후과, 내과 등,<br>수시 건강검진 | 신목종합<br>사회복지관 내 |
| 서울 | 영등포 당산동 6가 1-2 | 매월 둘째,<br>넷째 일요일 | 한방진료, 수시 보건소 등 연계 종합검진 | 단독시설 |

## 응급 상황 시 도움 받을 곳
### အရေးပေါ် အခြေအနေဖြစ်ချိန် အကူအညီတောင်းရမည့် နေရာ

밤에 갑자기 병원에 가야 한다면 어디에 도움을 요청해야 할까요? 바로 119에 전화하면 됩니다. 119는 24시간, 365일 언제든지 이용이 가능합니다. 그리고 이곳에서는 영어, 중국어, 일본어, 몽골어, 베트남어 등 5개 국어로 의료 상담 서비스를 받을 수 있습니다.
ညဘက် ရုတ်တရက် ဆေးရုံသွားရမယ်ဆိုရင် ဘယ်ကို အကူအညီတောင်းရမလဲ။ တန်းပြီး ၁၁၉ကို ဖုန်းဆက်ရပါတယ်။ ၁၁၉ကတော့ ၂၄နာရီ၊ ၃၆၅ရက် အချိန်မရွေး ခေါ်လို့ရပါတယ်။ နောက်ပြီး ဒီနေရာမှာတော့ အင်္ဂလိပ်၊ တရုတ်စကား၊ ဂျပန်စကား၊ မွန်ဂိုစကား၊ ဗီယက်နမ်စကား စတဲ့ ဘာသာစကား ၅မျိုးနဲ့ ကျန်းမာရေးဆိုင်ရာ ဆွေးနွေးမှုဆိုင်ရာ ဝန်ဆောင်မှုကို ရယူနိုင်ပါတယ်။



မေးခွန်း ၁ကနေ ၃ အထိကတော့ ပုံကိုကြည့်ပြီး အဖြေမှန်ရွေးရမှာဖြစ်ပါတယ်။ နားမထောင်ခင်မှာ မေးခွန်းကို အရင်ဆုံးဖတ်ပါ။

[1~3] 다음 그림을 보고 알맞은 대답을 고르십시오.
နားထောင်ပြီး မေးခွန်း နှစ်ခုလုံးကို ဖြေပါ။ နားမထောင်ခင်မှာ မေးခွန်းကို အရင်ဆုံးဖတ်ပါ။






1. 

이 사람은 어디에 가야 합니까? ဒီလူ ဘယ်နေရာသို့ သွားရမလဲ။

① ② ③ ④

2. 

이 사람은 무엇을 합니까? ဒီလူ ဘာလုပ်နေတာလဲ။




① ② ③ ④

3. 

이 사람은 무엇을 했습니까? ဒီလူ ဘာလုပ်ခဲ့လဲ။

① ② ③ ④



အကြောင်းအရာ တစ်ခုတည်းကို နားထောင်ပြီး မေးခွန်း နှစ်ခုကို ဖြေပါ။

[4~5] 하나의 이야기를 듣고 두 개의 질문에 대답하십시오.
အကြောင်းအရာ တစ်ခုတည်းကို နားထောင်ပြီး မေးခွန်း နှစ်ခုကို ဖြေပါ။

4. 여기는 어디입니까? ဒါ ဘယ်နေရာလဲ။

① 안과　　② 소아과
③ 정형외과　　④ 이비인후과

5. 남자는 무엇을 해야 합니까? ယောကျ်ားလေးက ဘာကို လုပ်ရမလဲ။

① 수술을 해야 합니다.　　② 많이 걸어야 합니다.
③ 매일 약을 먹어야 합니다.　　④ 집에서 찜질을 해야 합니다

